လုမ္ဗိနီ ဂယာ၊ မိဂဒါ၊ ကုသိနာရာမည်။
သံဝေဇနိယ၊ လေးဌာန၊ ဖူးကြအလီလီ။

အာနန္ဒာ၊ ယုံကြည်မှု သဒ္ဓါတရားနှင့် ပြည့်စုံသူများအား စိတ်အား ထက်သန်မှုကို ဖြစ်ပေါ်စေမည့် နေရာဌာန လေးမျိုးရှိပေ၏။ အဘယ် လေးမျိုးတို့နည်းဟူမူကား တထာဂတခေါ်တွင် ငါဘုရားရှင် ဖွားမြင် တော်မူသည့်နေရာ၊ ဤကား ပထမနေရာတည်း။ တထာဂတခေါ်တွင် ငါဘုရားရှင် ဗောဓိဉာဏ်ကို ရတော်မူခဲ့သည့်နေရာ၊ ဤကား ဒုတိယ နေရာတည်း။ တထာဂတခေါ်တွင် ငါဘုရားရှင် ဓမ္မစကြာတရား ဟော ကြားတော်မူခဲ့သည့်နေရာ၊ ဤကား တတိယနေရာတည်း။ တထာဂတ ခေါ်တွင် ငါဘုရားရှင် ပရိနိဗ္ဗာန် စံဝင်တော်မူခဲ့သည့်နေရာ၊ ဤကား စတုတ္ထနေရာတည်း။ သဒ္ဓါတရားနှင့်ပြည့်စုံသည့် ရဟန်း၊ ရဟန်းမိန်းမ၊ ဥပါသကာ၊ ဥပါသိကာမများသည် ဤ(ဖော်ပြပြီး) နေရာဌာနများသို့ သွားရောက် ဖူးမြော်သင့်ပေ၏။ ကြည်လင်သော စိတ်ထားဖြင့် ဤ သံဝေဇနိယ ဌာနများသို့ ဘုရားဖူးလှည့်လည်စဉ် ကွယ်လွန်သူ မည်သူ မဆိုသည် ခန္ဓာကိုယ်ပျက်၍ သေလွန်ပြီးနောက်၌ နတ်ပြည်လောက တွင် ပြန်လည်မွေးဖွားပေလိမ့်မည် (ဒီ ၂၊ ၁၁၆)။

မြတ်ဗုဒ္ဓပွင့်တော်မူရာမဇ္ဈိမဒေသ



အရှင်ကောလာသ မြန်မာပြန်သည်

# မြတ်ဗုဒ္ဓပွင့်တော်မူရာမဇ္ဈိမဒေသ

A Pilgrim's Guide to The Buddha's India

**Middle Land Middle Way**

by S. Dhammika



## အရှင်ကောလာသ

**ဓမ္မာစရိယ၊ B.A. (Philo) M.A. (Buddhism)**

**မြန်မာပြန်သည်**

၂၀၀၉ ခုနှစ်၊ ဇူလိုင်လ

# မြတ်ဗုဒ္ဓပွင့်တော်မူရာမဇ္ဈိမဒေသ

## A Pilgrim's Guide to The Buddha's India

## **Middle Land Middle Way**

by S. Dhammika

အရှင်ကေလာသ
ဓမ္မာစရိယ၊ **B.A (Philo) M.A. (Buddhism)**
မြန်မာပြန်သည်

၂၀၀၉ ခုနှစ်၊ ဇူလိုင်လ

ပုံနှိပ်ရာဇဝင်
254 N Wickiup Road
Apache Junction, AZ 85219

## မာတိကာ

## စာရေးသူ၏ နှုတ်ခွန်းဆက်

၁၉၈၀–ပြည့်နှစ်များအတွင်းက အိန္ဒိယနိုင်ငံသို့ ကျွန်ုပ် အလည်အပတ် ရောက်ရှိသွားသောအခါ ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးနေထိုင်တော်မူခဲ့သော နေရာတော်များနှင့် ပတ်သက်သည့် သတင်းအချက်အလက်များ ရရှိရန် ခဲယဉ်းကြောင်းတွေ့ရှိပြီး ကျွန်ုပ် စိတ်မသက်မသာဖြစ်ခဲ့ရသည်။ ရနိုင်သည့် သတင်းအချက်အလက် အနည်းငယ်မှာလည်း မှားယွင်း သို့မဟုတ် ကြည့်ညိုသူ ဘုရားဖူးတစ်ယောက်အဖို့ လက်တွေ့အကျိုးမသက်ရောက်ဘဲရှိသည်။ သို့ဖြစ်၍ 'မြတ်ဗုဒ္ဓ ပွင့်တော်မူရာမဇ္ဈိမဒေသ' စာအုပ်ကို ကျွန်ုပ် ရေးသားခဲ့ခြင်းဖြစ်သည်။ ၁၉၉၂–ခုနှစ်တွင် ပထမအကြိမ် ပုံနှိပ်ထုတ်ဝေပြီးကတည်းက ဤစာအုပ်သည် အရှေ့အနောက် ဗုဒ္ဓဘာသာဘုရားဖူးလောက၌ လူကြိုက်များခဲ့ပြီး ဘာသာစကားအမျိုးမျိုးဖြင့် ဘာသာပြန်ဆိုထားပြီလည်းဖြစ်သည်။ ယခုအခါ မြန်မာလူမျိုးများလည်း ဖတ်ရှုနိုင်ပြီဖြစ်၍ ကျွန်ုပ် ဝမ်းသာပါသည်။ မြန်မာလူမျိုးများသည် လွန်ခဲ့သောနှစ်ပေါင်း တစ်ထောင်ကျော်အချိန်က မြတ်ဗုဒ္ဓသီတင်းသုံးပြီး တရားဒေသနာ ဟောကြားတော်မူခဲ့သည့် နေရာဌာနများကိုဖူးမြော်ရန် သွားရောက်နေခဲ့ကြပြီးဖြစ်သော်လည်း ယနေ့ခေတ်၌မူ သာမန် ပုဂ္ဂိုလ်များပင် ဘုရားဖူးသွားရောက်နိုင်ပြီဖြစ်သည်။ သို့ဖြစ်၍ မှန်ကန်ကိုးကားလောက်ပြီး အသေးစိတ်ဖော်ပြသည့် ဘုရားဖူးလမ်းညွှန်စာအုပ် လိုအပ်ပါသည်။ ကျွန်ုပ်၏စာအုပ်သည် စာဖတ်သူများ၏ သဒ္ဓါတရားနှင့် နားလည်မှုကို နက်ရှိုင်းစေမည်ဟု မျှော်လင့်ပါသည်။ ကျွန်ုပ် သြစတြေးလျနိုင်ငံသား အက်စ် ဓမ္မိက ဖြစ်ပါသည်။

မေတ္တာဖြင့်

အက်စ်ဓမ္မိက

## Preface to Burmese Edition

When I visited India in the 1980's I was distressed to discover that it was difficult to get any information about the places were the Buddha had lived. The little information that was available it was either wrong or to academic to be useful to the devote pilgrim. It was for this reason that I wrote Middle Land Middle Way. Since it was first published in 1992 the book has become very popular with Buddhist pilgrims both east sand west and has been translated into several different languages. I am happy that it will now be available to Burmese pilgrims. Burmese have been going to India to see the places where the Buddha lived and taught for more than a thousand years but only today is it possible for the ordinary person to do so, and thus an accurate, reliable and detailed guide book is necessary. I hope my book helps deepen the faith and understanding of those who use it. Venerable S Dhammika of Australia.

With Metta,

Ven Dhammka.

ရှေးခေတ် ဘုရားဖူးမဟာခရီးသည်များ၏ မှတ်တမ်းများကို မှီငြမ်းပြု၍ ရှေးဟောင်း သုတေသနပညာရှင်များ၏ ကြိုးပမ်းရှာဖွေ တူးဖော်မှုများ ကြောင့် ယခုအခါ ကံကောင်းထောက်မ၍ မြုပ်ကွယ်နေရာမှ မြင်ကွင်း သို့ အထင်အရှား ပြန်လည်ရောက်ရှိလာပြီဖြစ်သည်။ အချို့နေရာတော် များမှာ ရှာဖွေတူးဖော်ဆဲလည်း ဖြစ်သည်။

ပါဠိတော်များနှင့် ဘုရားဖူးမှတ်တမ်းများ၏အဆိုမှာ နေရာဌာန အမှန်ကို သိရခြင်းအတွက် အထောက်အထားပြုရန်နှင့် အတိတ်တစ် ချိန်ကထည်ဝါခဲ့သည်ကို စိတ်ဖြင့်မှန်းဆရုံသာဖြစ်၏။ မျက်မှောက်ခေတ် မြင်ကွင်းနှင့်ကား လုံးဝ ကွဲပြားခြားနားသွားလေပြီ။ စာဆိုအရ ကြီး ကျယ်ခမ်းနားလှသော်လည်း လက်တွေ့တွင် ဗုဒ္ဓဝင်နေရာတော် အများ စုမှာ ပျက်စီးယိုယွင်းနေသည့် အဆောက်အအုံများ၊ အုတ်ရိုးအုတ်ခုံ များ၊ အုတ်မြစ်များနှင့် အုတ်ကျိုး အပိုင်းအစများသာတည်း။ သာမန် ပုဂ္ဂိုလ်များအဖို့ ယင်းအပျက်အစီး အကြွင်းအကျန်များသည် မည်သည့် ဗုဒ္ဓဝင်နေရာတော်၏ အထိမ်းအမှတ် ဖြစ်ကြောင်း အမှန်အတိုင်း သိနိုင် ရန် ခဲယဉ်းလှသည်။ ပို၍ဆိုးသည်မှာ ဗုဒ္ဓဘာသာဝင် မဟုတ်သူတို့၏ ပိုင်နက် အတွင်း၌ရှိသဖြင့် ယင်းဒေသခံတို့၏ ဥပေက္ခာပြု စွန့်ပစ်ထား ခြင်း ခံရသောကြောင့် ဗုဒ္ဓဝင်နေရာတော်များမှာ ဘုရားဖူးပုဂ္ဂိုလ်များနှင့် ပို၍ပင် စိမ်းနေသေးတော့သည်။

ယခုအခါ ကမ္ဘာလှည့် ခရီးသွားလုပ်ငန်း ထွန်းကားလာသော ကြောင့် အိန္ဒိယရှိ ဗုဒ္ဓဝင်နေရာတော်များသို့ နိုင်ငံတကာမှ ဗုဒ္ဓဘာသာဝင် များနှင့် စိတ်ပါဝင်စားသူများ လာရောက်ဖူးမြော် လေ့လာနေကြသဖြင့် ထိုထိုနေရာတော်များ၌ လူသူစည်ကားလျက်ရှိသည်။ မြန်မာဗုဒ္ဓဘာသာ သူတော်စင်များသည်လည်း မြတ်ဗုဒ္ဓပွင့်တော်မူရာမဇ္ဈိမဒေသရှိ ဗုဒ္ဓဝင် နေရာတော်များသို့ တစ်ဦးတည်းဖြစ်စေ အုပ်စုလိုက်ဖြစ်စေ လွတ်လပ် စွာ သွားရောက်ဖူးမြော်နိုင်ကြပြီဖြစ်သည်။ သို့ဖြစ်၍ ခေတ်သစ်မြန်မာ ဘုရားဖူး တစ်ယောက်အဖို့ ဗုဒ္ဓဝင်နေရာတော်များအကြောင်း ခိုင်လုံစွာ

## အိန္ဒိယနိုင်ငံ၊ ဗာရာဏသီမြို့
## မိဂဒါဝုန်မြန်မာကျောင်း ပဓာနနာယကဆရာတော် ဘဒ္ဒန္တဝဏ္ဏာဘ မဟာသဒ္ဓမ္မဇောတိကဓဇ၊ ပရဒေသီသံဃနာယကအဖွဲ့ အကျိုးတော်ဆောင်ဆရာတော်၏
## အမှာစကား

မိဂဒါဝုန်မြန်မာကျောင်းတိုက်၌ အခြေချနေထိုင်ပြီး သာသနာပြုလာခဲ့ သည်မှာ ၂၇-နှစ်သို့ ချဉ်းနင်းဝင်ရောက်ခဲ့သော်လည်း ၁၉-၁၂-၂၀၀၁ နေ့ကျမှသာ ဩရိသပြည်နယ်သို့ ပထမဆုံးအကြိမ် ဓမ္မဒူတခရီးကို စတင်ဖြစ်ခဲ့သည်။ ယင်းခရီးစဉ်နှင့် တစ်ဆက်တည်းတွင် သာသနာရေး ကိစ္စများဖြင့် ၂၈-၁၂-၂၀၀၁ နေ့တွင် ကမ္ဘာအေးကုန်းမြေသို့ ရောက်ရှိ ခဲ့ပေသည်။ ၄-၁-၂၀၀၂ နေ့ စုပေါင်းအလှူပွဲတော်တစ်ခုတွင် အောင် ဆန်းတောရပရိယတ္တိစာသင်တိုက်၊ ပဓာနနာယက ဘဒ္ဒန္တသုဇာတ (အဂ္ဂ မဟာဂန္ထဝါစကပဏ္ဍိတ)က ‘မြတ်ဗုဒ္ဓပွင့်တော်မူရာမဇ္ဈိမဒေသ’ စာမူ ကြမ်းကို အမှာစာရေးသားပေးရန်အတွက် မိမိလက်ထဲသို့ အပ်နှံပေး လာပါသည်။ တိုတောင်းသောအချိန်ကာလအတွင်း မအားလပ်သည့် ကြားက ရေးသားရမည်ဖြစ်သည်။ သာသနာ့ကိစ္စများနှင့် ရောက်ရှိ လာကြသော ဒကာဒကာမတို့အား ဧည့်ခံပြီးနောက် ညဉ့် ၁၁-နာရီ အချိန်မှစ၍ ပဏ္ဍာသမဏ ဦးယသ (M.A. ဓမ္မစရိယ)အား မိမိ၏ ရှေ့ မှောက်တွင် အသေးစိတ်ဖတ်ရှုစေရာ ကျမ်းစာ၏အနှစ်ချုပ်ကို အောက် ပါအတိုင်း ကောက်ချက်ချမိပါသည် -

၁။ ဤကျမ်းစာကို မူလရေးသားသူ အက်စ်ဓမ္မိကသည် ခရစ်ယန် မိသားစုမှ မွေးဖွားခဲ့သော်လည်း ဗုဒ္ဓ၏ သားကောင်းရတနာ ရှင် ရဟန်းအဖြစ်ခံယူကာ ကမ္ဘာ့နိုင်ငံအနှံ့အပြားသို့ သွားရောက်ပြီး သာသနာပြုနေသည့် ဩစတြေးလျနိုင်ငံသား ရဟန်းတော်တစ်ပါး

ည အရှင်ကေလာသ မြန်မာပြန် မြတ်ဗုဒ္ဓပွင့်တော်မူရာမဇ္ဈိမဒေသ ဖြစ်သောကြောင့် သူ၏ဘဝခရီးသည်ပင် အလွန် စိတ်ဝင်စားဖွယ် ကောင်းနေပေသည်။

၂။ အက်စက်ဓမ္မိကသည် ဗုဒ္ဓနှင့်ပတ်သက်သော နေရာဌာနများသို့ ကိုယ်တိုင်ကြွရောက်၍ ကွင်းဆင်း လေ့လာပြီး၊ သမိုင်းသုတေသတန အမြင်နှင့် ကျမ်းဂန်အထောက်အထားတို့ကို ညှိနှိုင်းလျက် အချို့နေရာတို့၌ မြေပုံဇယားချပ်တို့ဖြင့် ရှင်းလင်းဖော်ပြထားသဖြင့် အလွန် တိကျခိုင်လုံသော စာအုပ်ကောင်း တစ်အုပ် ဖြစ်နေပေသည်။

၃။ ဘာသာပြန်ဆိုရေးသားသူ အရှင်ကေလာသ (U.S.A.)သည် ပါဠိနှင့် အင်္ဂလိပ်ဘာသာတို့ကို တတ်ကျွမ်းသောပုဂ္ဂိုလ် ဖြစ်ပေရာ မူလ ကျမ်းစာပါ အထောက်အထားများ ပိုမိုတိကျစေရန် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာစသည်နှင့် တိုက်ဆိုင်ကျမ်းညွှန်းပြီး လိုအပ်သည့် နေရာများတွင် ကွဲလွဲချက်တို့ကို ဆွေးနွေးတင်ပြထားသည့်ပြင်၊ ဘာသာပြန်ဆိုရာ၌လည်း အထစ်အငေါ့မရှိ မြန်မာစာဖတ်ပရိသတ် များ နားလည်လွယ်အောင် မြန်မာစာဟန်ပီသမှုအတွက် အလေး ပေးကြိုးပမ်းထားသည်ကို တွေ့ရပေသည်။

ထို့ကြောင့် ဤကျမ်းစာသည် ဗုဒ္ဓဌာနနှင့်ပတ်သော စာအုပ်များ အနက် အလွန်ပြည့်စုံကောင်းမွန်သည့် စာအုပ် ဖြစ်နေသဖြင့် သုတေသီများ၊ မြတ်မာစာဖတ်ပရိသတ်များအတွက် အဖိုးအနဂ္ဃ ထိုက်တန် သော ရတနာသိုက်ကြီးသဖွယ် တန်ဖိုးရှိလှပေသည်။

ခေတ္တ – ရွှေဟသ်ာကျောင်းဆောင်၊
ဟံသာသီရိကုန်းမြေ၊ ကမ္ဘာအေး၊ ရန်ကုန်မြို့။
ရက်စွဲ၊ ၁၁–၁–၂၀၀၂။

## ဘာသာပြန်သူ၏ စကားတစ်ခွန်း

ခေတ်ကာလတို့ ပြောင်းလဲသွားသကဲ့သို့ ဗုဒ္ဓဝင်နေရာတော်များ၏ ခမ်းနား တောက်ပြောင်မှု အရှိန်အဝါသည်လည်း လျော့နည်းသွားခဲ့ရသည်။ အေဒီ ဆယ့်သုံးရာစုခန့်မှစ၍ အိန္ဒိယနိုင်ငံတွင် ဗုဒ္ဓသာသနာတော် ကွယ်ပျောက်သွားသောအခါ တစ်ချိန်က ကမ္ဘာအရပ်ရပ်မှ လာရောက်ကြသည့် ဘုရားဖူးခရီးသည်များဖြင့် စည်ကားပြီး ရှင်သန်လှုပ်ရှားလျက်ရှိခဲ့သော ဗုဒ္ဓဝင်နေရာတော်များသည်လည်း အညတိတ္ထိယ (ဗုဒ္ဓဘာသာဝင်မဟုတ်သူ) တို့၏ ဖျက်ဆီးခြင်းခံခဲ့ရပြီး၊ အချို့ မြေကြီးထဲမြုပ်ကုန်လျက် အချို့ကို ချုံနွယ်ပိတ်ပေါင်းတို့က ဝါးမျိုသွားခဲ့သည်။ သို့ဖြစ်၍ 'ဘုရားဖူးခရီး လှည့်လည်ရင်း ကြည်လင်သော စိတ်ထားဖြင့် ဘဝပြောင်းဘိမူ ထိုပုဂ္ဂိုလ်သည် သုဂတိဘဝကောင်းသို့ ရောက်ရသည် (ဒီ ၂၊ ၁၁၆)' အထိ ကြီးကျယ်မြင့်မြတ်လှသော အဆိုပါ မြတ်ဗုဒ္ဓနှင့်ပတ်သက်သည့် နေရာတော်များမှာ ဘယ်ဆီရောက်၍ ဘယ်အရာကို ဖူးမြော်ရမှန်းမသိ ပုံပြင်လေလားဟု ထင်ရလောက်အောင်ပင် တိမ်မြုပ်သွားခဲ့ရသည်။ ဗုဒ္ဓဝင်နေရာတော်များ အမှောင်ကျ၍ ပျောက်ကွယ်နေခဲ့သည်မှာ နှစ်ပေါင်း ခြောက်ရာကျော် ကြာညောင်းခဲ့သည်။ သို့ရာတွင် ကြည်ညိုကြသူ ဥပါသကာ ဥပါသိကာများ ဗုဒ္ဓဘာသာဝင်များ ရှိနေသေးသရွေ့ ထိုဗုဒ္ဓဝင်နေရာတော်များသည်လည်း တစ်ချိန်ချိန်၌ တစ်နည်းနည်းဖြင့် ထင်ရှားပေါ်လွင်လာရမည်မှာ ဧကန်ပင် ဖြစ်ချေသည်။

လွန်ခဲ့သောနှစ်ပေါင်း တစ်ရာကျော် အချိန်ကာလမှစ၍ သမိုင်းအမြင်တို့ ပြောင်းလဲသွားပြီး ရှေးဟောင်းသုတေသနပညာရပ်များ ပွင့်လန်းတိုးတက်လာသည်နှင့်အမျှ 'လုမ္ဗိနီ ဂယာ၊ မိဂဒါ၊ ကုသိနာရာမည်။ သံဝေဇနိယ၊ လေးဌာန၊ ဖူးကြအလီလီ' ဟူသော သံဝေဇနိယ လေးဌာနအပါအဝင် အရေးပါသည့် ဗုဒ္ဓဝင်နေရာတော်များသည်လည်း စူးစမ်း လေ့လာစရာ နေရာများအဖြစ် ထိပ်တန်းသို့ ရောက်လာသည်။ သို့ဖြင့် ခိုင်လုံသည့် ရှေးဟောင်းတိပိဋကတ်ပါဠိတော် အဆိုအမိန့်များ၊

၁၉၈၅–ခုနှစ်တွင် စင်္ကာပူနိုင်ငံသို့ ပြောင်းရွှေ့သီတင်းသုံးပြီး ဗုဒ္ဓ မင်္ဂလာအဖွဲ့နှင့် အခြားဗုဒ္ဓဘာသာအဖွဲ့အစည်းများ၏ စိတ်ဓာတ်ရေးရာ အကြံပေးပုဂ္ဂိုလ်အဖြစ် ဆောင်ရွက်သည်။ စင်္ကာပူနိုင်ငံ ပညာရေးဌာန၏ သင်ရိုးညွှန်းတမ်း တိုးတက်ရေးသိပ္ပံတွင် ဟောပြောပို့ချပြီး ဤသိပ္ပံ အတွက် ရုပ်မြင်သံကြားမှ ထုတ်လွှင့်ဟောပြောသူဖြစ်သည်။ ၁၉၉၇–ခု နှစ်မျှစ၍ ယူကေ၊ ဂျာမနီ၊ ဩစတြီးယား၊ ဟောင်ကောင်၊ အိန္ဒိယနှင့် ဩစတြေးလျနိုင်ငံများ၌ ဗုဒ္ဓဘာသာအကြောင်း ကျယ်ပြန့်စွာ ဟောပြော ခဲ့သည်။ အက်စ်ဓမ္မိကသည် အိန္ဒိယနိုင်ငံရှိ ဗုဒ္ဓဝင်နေရာတော်များကို အထူးစိတ်ဝင်စားပြီး တိပိဋကပါဠိတော်များ၌ ဖော်ပြထားသည့် ဗုဒ္ဓရှင် တော်မြတ်ဒေသစာရီ ကြွချီတော်မူခဲ့သည့် နေရာတော်များကို အပတ် တကုတ် ရှာဖွေရင်း အိန္ဒိယတစ်ခွင်သို့ အကြိမ်ကြိမ် ခရီးလှည့်လည် လျက်ရှိသည်။ အက်စ်ဓမ္မိကသည် ကျမ်းစာပေါင်း ၂၀–ကျော် ရေး သားထုတ်ဝေပြီးဖြစ်သည်။ ယင်းကျမ်းများအနက် *All about Buddhism, Gemstones of the Good Dhamma, Navel of the Earth* စာသောစာအုပ်များမှာ ထင်ရှားသည်။ *Good Question Good Answer* စာအုပ်ကို ဘာသာ ၁၅–မျိုးဖြင့် ပြန်ဆိုထုတ်ဝေခြင်းခံရသည်။

ဘုရားဖူးပုဂ္ဂိုလ်များနှင့် ဗုဒ္ဓဝင်နေရာတော်များအကြောင်း လေ့လာ လိုက်စားသူများအနေဖြင့် ဤမြန်မာပြန်မှတစ်ဆင့် ဖော်ပြပါ ဗုဒ္ဓဘာသာ ပညာရှင် ပုဂ္ဂိုလ်တစ်ယောက်၏ ဗုဒ္ဓဝင်နေရာတော်များအကြောင်း လေ့ လာမှုများကို ဖတ်ရှု၍ ကောင်းမြတ်မှန်ကန်သည့် နားလည်သမှုတစ်ရပ် ရရှိလျက် ကြည်ညိုသဒ္ဓါ တိုးပွားနိုင်မည်ဟု မျှော်လင့်ပါသည်။

အရှင်ကေလာသ

၂၀၀၁–ခုနှစ်၊ ဇူလိုင်လ ၃၀–ရက်။



ဖော်ပြသည့် ဗုဒ္ဓဝင်လမ်းညွှန်စာအုပ်များ လိုအပ်လာသည်။ အကြောင်းမူ မိမိဖူးမြော်ရသည့် ဗုဒ္ဓဝင်နေရာတော်တစ်ခု၏ နောက်ခံသမိုင်း၊ အနှစ် သာရနှင့် လေးနက်မှုတို့ကို သိထားမှသာလျှင် ဗုဒ္ဓဝင်နေရာတော် အစစ် အမှန်ကို ခွဲခြားသိနားလည်သည်သာမက စိတ်အာရုံ၌ ပိုမိုထက်သန် ပြင်းပြသည့် ကြည်ညိုစိတ်များ ဖြစ်ပေါ်လာနိုင်သောကြောင့်ဖြစ်သည်။ သူများတွေရှိခိုးကြသဖြင့် မိမိလည်း လိုက်၍ ရှိခိုးလိုက်ရခြင်းမျိုး ဖြစ်ပါ က အပျော်တမ်းခရီးသွားခြင်းဟု ဆိုသည်ထက်ပို၍ အဓိပ္ပာယ် မသက် ရောက်နိုင်ဘဲ စုတိပြတ်ကြွေ သေလွန်ပြီးနောက် သုဂတိဘဝကိုသေချာ စေသည့် ကောင်းကျိုးချမ်းသာနှင့် ဝေးနေဦးမည်လည်း ဖြစ်သည်။ ထို့ ကြောင့် ဘုရားဖူးသည် မိမိမကြာမီ သွားရောက်ဖူးမြော်မည့် ဗုဒ္ဓဝင် နေရာတော်များအကြောင်း ရေးသားထားသည့် စာအုပ်များကို ဘုရား ဖူး မသွားရောက်မီ ကြိုတင်ရှာဖွေဖတ်ရှုလေ့လာထားသင့်သည်။

အက်စ်ဓမ္မိက (S. Dhammika) အရှင်မြတ်ရေးသားသည့် *Middle Land Middle Way – A Pilgrim's Guide to the Buddha's India* အမည်ရှိ စာအုပ်သည် ဗုဒ္ဓဝင်နေရာတော်များနှင့် ပတ်သက်သည့် အချက်အလက် များကို ထေရဝါဒကျမ်းဂန် ဗဟုသုတရော ရှေးဟောင်းသုတေသန ပညာရှင်များ၏ ကြိုးပမ်းတူးဖော်မှုများအကြောင်းကိုပါ အသိပညာ ပေး စွမ်းနိုင်သည့် စာအုပ်ကောင်းတစ်အုပ်ဖြစ်သည်ဟု ယူဆပြီး မြန်မာဗုဒ္ဓ ဘာသာဘုရားဖူးများနှင့် ဗုဒ္ဓဝင်နေရာတော်များအကြောင်း စိတ်ပါဝင် စားသူများအတွက် ဘာသာပြန်ဆို တင်ပြခြင်းဖြစ်သည်။ စာအုပ်အမည် ကို သူ့အတိုင်းဆိုလျှင် ‘မဇ္ဈိမဒေသမဇ္ဈိမပဋိပဒါလမ်းစဉ် – မြတ်ဗုဒ္ဓဇာတိ အိန္ဒိယသို့ ဘုရားဖူးလမ်းညွှန်’ဟု တိုက်ရိုက် ပြန်ဆိုသင့်သော်လည်း မြန်မာပရိသတ်နှင့် နီးစပ်ပြီး ခေါ်ဝေါ်ရလွယ်ကူစေရန် ‘မြတ်ဗုဒ္ဓပွင့်တော် မူရာမဇ္ဈိမဒေသ’ဟု ပြန်ဆိုပါသည်။ သီရိလင်္ကာနိုင်ငံ၊ ဗုဒ္ဓစာပေဖြန့်ချိရေး အသင်းမှ ၁၉၉၂ ခုနှစ် ထုတ်ဝေသည့် စာအုပ်တွင် ဗုဒ္ဓဝင်နေရာတော် ၁၆–ခု ပါဝင်သည်။ သို့ရာတွင် ဤစာအုပ်ကိုဘာသာပြန်ဆိုပြီး၍ စာရေး

သူ အက်စ်ဓမ္မိကအရှင်မြတ်ထံ ပုံနှိပ်ထုတ်ဝေခွင့်နှင့် မြန်မာဘာသာပြန် အတွက် အမှာစာရေးပေးရန် တောင်းပန်သောအခါ အရှင်မြတ်က အလွယ်တကူ ဝမ်းပန်းတသာ ခွင့်ပြုသည့်အပြင် ဖြည့်စွက်ရန် အခန်း သစ်သုံးခု (စမ္ပာ၊ ကောသရိယ၊ ဒေါဏ)တို့ကို ပေးပို့လိုက်၍ ဗုဒ္ဓဝင် နေရာ ၁၉–ခု ဖြစ်လာသည်။ ထို့ပြင် ပတ္တနားအဆက် ဟရိုပူရမြို့ ရာဇ ဂြိုဟ်အဆက် ဂျေထိန၊ ကောသမ္ဗီအဆက် ပရဘောသနှင့် ကုက္ကုဋ္ဌ ပါဒဂိရိ ပြင်ဆင်ချက်တို့ကိုပါ ရရှိ၍ ပိုမိုပြည့်စုံသွားပါသည်။ ဤစာအုပ် သည် ထေရဝါဒပါဠိတော် အဋ္ဌကထာ မှတ်တမ်းများကို နောက်ခံပြု၍ ရှေးဟောင်းသုတေသန ရှုထောင့်မှ တင်ပြထားသဖြင့် စိတ်ဝင်စားဖွယ် ကောင်းပြီး ဘုရားဖူးပုဂ္ဂိုလ်သည် ဗုဒ္ဓဝင်နေရာတော်တစ်ခုစီ၏ ခေတ် အဆက်ဆက် ခမ်းနားတောက်ပခဲ့ပုံ နောက်ခံသမိုင်းဆိုင်ရာ ဗဟုသုတ ကို အတော်အတန် နားလည်သွားမည်သာမက ကိုယ်ပိုင် အတွေး အမြင်သစ်များကိုလည်း ဧကန်ရရှိမည် ဖြစ်သည်။

စာပြုပုဂ္ဂိုလ်သည် ဗုဒ္ဓဝင်နေရာတော်အသီးသီး၏ မြတ်ဗုဒ္ဓ လက် ထက်တော်က သမိုင်းဝင်ဖြစ်ရပ်များကို ခေတ်အမြင်ဖြင့် ကျွမ်းကျင် ပိုင် နိုင်စွာ သုတေသနပြုတင်ပြထားသဖြင့် မှိုခိုအားထားလောက်ပြီး နား လည်လွယ်သော အချက်အလက်များကို ဖော်ပြထားသည်။ ကျမ်းကိုး များ အထူးသဖြင့် ထေရဝါဒပါဠိတော် အဋ္ဌကထာမှ ထုတ်နုတ်ကိုးကား ဖော်ပြမှုများ ခိုင်လုံပြီး အဓိပ္ပာယ်ကောက်ယူပုံ ဆန်းသစ်သည်။ ဗုဒ္ဓဝင် နေရာတော်နှင့် ပတ်သက်သည့် အချက်အလက်ကို ကျမ်းဂန်မှ ဆွဲယူ ဆက်စပ်ပြရာ၌ ထူးခြားမှုများရှိသည်။

ဤစာအုပ်၌ လက်တွေ့ သမိုင်းရှုထောင့်နှင့် ရှေးဟောင်းသုတေ သန အမြင်များဖြင့် ရေးသားတင်ပြမှုကို ဦးစားပေးထားသောကြောင့် အချို့ဖော်ပြချက်အနည်းငယ်မှာ သဒ္ဓါတရားအခြေခံဖြင့် ရေးသားဖော်ပြ သည့် မြန်မာပညာရှင်ကြီးများ၏အတွေးအမြင်နှင့် မဆိုစလောက်ကွာဟ ချက်များ တွေ့ရသည်။ ဘာသာပြန်ဆိုရာ၌ အသေးစိတ်တစ်လုံးမကျန် ပြန်ဆိုမှုကို နှစ်သက်ပြီး အဆိုပါကွာဟချက်အနည်းငယ်မှာ အငြင်းမပွား



လောက်ဟု ယူဆခြင်းတို့ကြောင့် ချန်လှပ်ထားခြင်း မပြုပါ။ ဥပမာ - ဗုဒ္ဓရှင်တော်မြတ်၏ ရှည်လျားလှသည့် နောက်ဆုံးခရီး ဒေသစာရီနှင့် ပတ်သက်၍ ဤကျမ်းက 'ဗုဒ္ဓရှင်တော်မြတ်သည် နောက်ဆုံးပရိနိဗ္ဗာန် စံလွန်တော်မမူမီ (မွေးရပ်မြေ) ကပိလဝတ္ထုသို့ နောက်ဆုံးအကြိမ် ကြွ ရောက်လိုသည့် ရည်ရွယ်ချက်ဖြင့် ယင်းခရီးရှည်ကို ကြွချီခဲ့ဖွယ်ရှိ ကြောင်း' ဆိုထားသည်။ သို့ရာတွင် မဟာဗုဒ္ဓကျမ်း (အတွဲ ၅၊ စာ - ၄၉)၌မူ '၁) မဟာသုဒဿနသုတ္တန်ကို ဟောကြားတော်မူလိုခြင်း ၂) သုဘဒ္ဒပရိဗိုဇ်ကို ချေချွတ်လိုခြင်း ၃) ဓာတ်တော်များကို မျှတစွာ ဝေငှ ပေးနိုင်သည့် ဒေါဏပုဏ္ဏားရှိခြင်းတို့ကြောင့် ကုသိနာရုံသို့ ကြွချီတော် မူခြင်းဖြစ်ကြောင်း' ပြဆိုသည်။ အမှန်သော် သမိုင်းသုတေသီ တစ် ယောက်အဖို့ ယင်းသို့ မှန်းဆနိုင်ခွင့် ရှိသည်ဟု ယူဆပါသည်။

ယင်းသို့သော ဖော်ပြချက်အနည်းငယ်ကို စာဖတ်သူအနေဖြင့် နှစ် သက်လျှင်ယူပြီး မနှစ်သက်ပါက ပယ်ရုံသာဖြစ်၍ ဤဘာသာပြန်၌ကား မူရင်းကျမ်း၌ ပါရှိသည်ကို မဖြုတ်ပယ်ဘဲ မူရင်းကျမ်း အတိုင်းသာ ထည့်သွင်း ပြန်ဆိုထားပါသည်။ ဘာသာပြန်ဆိုရာ၌ ပြင်ဆင်ဖြည့်စွက် ခွင့်မရှိဟု ယုံကြည်သည့်အတိုင်း တတ်စွမ်းသမျှ ကြိုးပမ်းပါသည်။

ဤကျမ်းစာကို ရေးသားပြုစုသူ အက်စ်ဓမ္မိကသည် ဩစတြေးလျ နိုင်ငံတွင် ၁၉၅၁–ခုနှစ်တွင် ခရစ်ယန်ဘာသာ ဝင်မိသားစုမှ မွေးဖွား ခဲ့သည်။ အသက် ၁၈–နှစ်အရွယ်၌ ဗုဒ္ဓဘာသာဝင်ဖြစ်လာပြီး အသက် ၂၄–နှစ်တွင် အိန္ဒိယနိုင်ငံ သာဝတ္ထိမြို့၌ သာမဏေပြုသည်။ ၎င်းနောက် သီရိလင်္ကာနိုင်ငံသို့ ကြွရောက်ပြီး ကိုလမ်ဘိုမြို့ ကေလဏိယတက္က သိုလ်၌ ဗုဒ္ဓဘာသာကို လေ့လာပြီး M.A. ဘွဲ့ရသည်။ သီရိလင်္ကာနိုင်ငံ တွင် ဆက်လက်နေထိုင်ရင်း ဗုဒ္ဓသာသနာတော် ပြန့်ပွားရေး အားပေး ဆောင်ရွက်ခဲ့သည်။ တက္ကသိုလ်များ၌ ဗုဒ္ဓဘာသာအကြောင်းနှင့် အရှေ့ တိုင်း ဘာသာတရားများ အကြောင်းကို ဟောပြောပို့ချခဲ့သည်။ ထို့ပြင် ဩစတြေးလျနှင့် အာရှနိုင်ငံတစ်လွှားရှိ ရေဒီယိုနှင့် ရုပ်မြင်သံကြား ဌာန များမှလည်း ဗုဒ္ဓဘာသာအကြောင်း ဟောပြောသည်။

ပြောင်းလဲမှုများ ပေါ်ထွန်းခဲ့သည့်နေရာ ဖြစ်သည်။ မြတ်ဗုဒ္ဓသည် မဇ္ဈိမဒေသတွင် ဖွားမြင်တော်မူ၍ အိန္ဒိယ၏ သဲဖုန် ထူထပ်သော လမ်းများတွင် ခရီးဒေသစာရီ ကြွချီတော်မူလျက် အိန္ဒိယ၏ ခြောက်သွေ့သစ်တောများ၌ တရားဘာဝနာ အားထုတ်ပြီး မြို့ကြီးမြို့ငယ် ကျေးရွာတစ်ခွင် တရားဒေသနတော်များ ဟောကြားတော်မူရင်း အချိန်ကုန်လွန်တော်မူခဲ့သည်။ မဇ္ဈိမဒေသကား ဗုဒ္ဓဝါဒ၏ အရေးပါသည့် ကနဦးရာစုနှစ်များအတွင်း ဗုဒ္ဓဝါဒကို (စည်ပင်ပြန့်ပွားအောင်) ပြုစု ပျိုးထောင်ပေးခဲ့သည်။ နောက်ဆုံးတွင် (ဗုဒ္ဓဝါဒသည်) အိန္ဒိယနိုင်ငံ တစ်လွှားသို့ ပျံ့နှံ့သွားပြီး နောင်တွင် အိန္ဒိယ နယ်စပ်ကို ကျော်လွန်လျက် အာရှတိုက်၏ ဝေးလံလှသော နယ်မြေအစိတ်အပိုင်းများသို့တိုင် ပျံ့နှံ့သွားခြင်းဖြစ်သော်လည်း ဗုဒ္ဓဘာသာဝင်များသည် ဗုဒ္ဓဝါဒ၏ အမိနယ်မြေအဖြစ် မဇ္ဈိမဒေသကို ထာဝစဉ် ရင်းနှီးကျွမ်းဝင်လျက် ရှိကြသည်။

မဇ္ဈိမဒေသ၏ နယ်မြေအကျယ်အဝန်းကို ရှေးဟောင်းဗုဒ္ဓဘာသာကျမ်းဂန် (ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ) များ၌ အလွန်တိကျစွာ ဖွင့်ဆိုဖော်ပြထားသည်။ ဝိနယပိဋက (ဝိ ၃၊ ၂၈၇) တွင် မဇ္ဈိမဒေသသည် အရှေ့ဘက်၌ ဂဇင်္ဂလရွာကြီး၊ အရှေ့တောင်ဘက်တွင် သာလဝတီမြစ်၊ အနောက်မြောက်ဘက်တွင် သတကန္နိကမြို့၊ အနောက်ဘက်တွင် ထူနပုဏ္ဏားရွာထိ ကျယ်ပြန့်ပြီး မြောက်ဘက်နယ်စပ်ဒေသများကို ဥသီရဒ္ဓဇတောင်ကုန်းများဖြင့် ပိုင်းခြား သတ်မှတ်ထားကြောင်း ပြဆိုသည်။ အဆိုပါနယ်မြေ အမှတ်အသားများအနက် အများစုကို ယနေ့ခေတ်၌ မထုတ်ဖော်နိုင်ကြတော့ပေ။ သို့ရာတွင် ရှေးခေတ် မဇ္ဈိမဒေသဟူသည်ကို အကြမ်းဖြင့် ခေတ်သစ် ဗီဟာပြည်နယ်၊ ဥတ္တာပရာဒေ့ရှ်နှင့် နီပေါနိုင်ငံ၏ တာရာအိ (Tarai) ဒေသများနှင့် တူညီကြောင်း ပြဆိုကြသည်။

နိုင်ငံရေးအရဆိုသော် ဗုဒ္ဓရှင်တော်မြတ် သိတော်မူခဲ့သည့် အိန္ဒိယနိုင်ငံကို တိုင်းကြီး ဆယ့်ခြောက်တိုင်းတို့ဖြင့် ခွဲခြားထားသည်။ ၎င်းတို့အနက် အများစုတွင် ဗုဒ္ဓဘုရားရှင် သီတင်းသုံးတော်မူခဲ့ဖူး သို့မဟုတ် မြတ်ဗုဒ္ဓ၏ ရှည်လျားပြီး အောင်မြင်သော ဘဝသက်တမ်းကာလအတွင်း

## မဇ္ဈိမဒေသ

တောင်ဖက်ဒေသကား မဇ္ဈိမဒေသဟု ထင်ရှား၏။ ရာသီဥတု အပူအအေးမျှတသဖြင့် နှင်းခဲနှင်းမှုန်များမရှိ။ လူအများသည် ချမ်းသာကြွယ်ဝပြီး ရောင့်ရဲလွယ်ကြ၏။ လူခွန် သို့မဟုတ် အာဏာပိုင်တို့၏ တင်းကြပ် စည်းတားမှုဖြင့် နှောင့်ယှက်ခြင်း မခံကြရချေ။ ဘုရင့်မြေကို ထွန်ယက်စိုက်ပျိုးသူများသည်သာ မြေခွန်ပေးရပြီး သူတို့သည် မိမိနှစ်သက်ရာ အရပ်ဒေသသို့ လွတ်လပ်စွာ သွားလာ နေထိုင်နိုင်ကြ၏။ ဘုရင်သည် သေဒဏ်မချမှတ်ဘဲ အုပ်ချုပ်၏။ ပြစ်မှုကျူးလွန်သူများအား ၎င်းတို့ကျူးလွန်သော ပြစ်မှုအလျောက် ပေါ့ပေါ့ သို့မဟုတ် လေးလေး ပြစ်ဒဏ်ချမှတ်သည်။

အဆင့်မြင့်သစ္စာဖောက် လုပ်ကြံသူများအားပင် ညာဘက်လက်မျှကိုသာ ဖြတ်စေ၏။ မင်းခစားများ အစောင့်အကြပ်များနှင့် အခြွေအရံများအားလုံးသည် (နေထိုင်စရာ) အဆောက်အအုံများနှင့် ပင်စင်လစာများ ရရှိကြ၏။ ဤနိုင်ငံရှိ လူအများသည် သူတစ်ပါးအသက်ကို သတ်ဖြတ် ညှဉ်းဆဲခြင်းမရှိကြ။ သေရည်သေရက် မသောက်ကြ။ ကြက်သွန်နီ သို့မဟုတ် ကြက်သွန်ဖြူ မစားကြ။ ဤနိုင်ငံတွင် ဝက်၊ ကြက်များကို မမွေးမြူကြ။ သက်ရှိသတ္တဝါများကို ရောင်းဝယ်ခြင်းမရှိ။ ဈေးတွင် ဝက်သတ်သမား သို့မဟုတ် အရက်ရောင်းသမားမရှိ။ ကုန်ရောင်းကုန်ဝယ်ပြုရာတွင် ခရုခွံများကို ငွေကြေးအဖြစ် အသုံးပြုကြ၏။

ဇာတ်နိမ့်သူ၊ တံငါသည်များနှင့် မုဆိုးများသာ အသားရောင်းကြ၏။ မြတ်ဗုဒ္ဓပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက် ဘုရင်မင်း

များ၊ ရပ်မိရပ်ဖများနှင့် ဗုဒ္ဓဘာသာဝင် ဒကာဒကာမများသည် ရဟန်းသံဃာတော်များအတွက် ကျောင်းတိုက်များ တည်ဆောက်ပြီး နေထိုင်စရာကျောင်းဆောင်များ၊ ဥယျာဉ်ပန်းခြံများ၊ ကျွဲနွားလယ်မြေများနှင့် ယင်း (ရဟန်းတော်များ၏) လယ်မြေကို ထွန်ယက်စိုက်ပျိုးရန် အိမ်ထောင်ဦးစီးသူ အမျိုးသားများကိုပါ လှူဒါန်းထောက်ပံ့ထားကြ၏။

သံတွင် ထွင်းထုထားသော ပစ္စည်းပိုင်ဆိုင်ခွင့် စာချုပ်စာတမ်းများသည် ဘုရင်အဆက်ဆက် ဆင်းသက်ခဲ့ပြီး ယင်းကို မည်သူမျှ မဖျက်ဆီး (မချိုးဖောက်)ဝံ့ကြသောကြောင့် ယင်း စာချုပ် စာတမ်းများသည် အသက်ဝင်ဆဲ ဖြစ်၏။ ဘုန်းတော်ကြီးကျောင်းတိုက်များအား ခုတင် ညောင်စောင်း၊ ခေါင်းအုံးစသည်၊ အစားအစာ၊ ဖျော်ရည်နှင့် သင်္ကန်းများဖြင့် ရဟန်းသံဃာတော်များ လိုလေသေးမရှိရအောင် လှူဒါန်းထောက်ပံ့ထားကြ၏။ အရပ်ဒေသတိုင်းတွင် ဤနည်းနှင်နှင် မြင်တွေ့ရ၏။ ရဟန်းတော်များသည် မိမိဘဝကို ကိုယ်ကျင့်သီလ ဆောက်တည် ကျင့်သုံးရန်၊ ပိဋကတ်ကျမ်းစာကို ရွတ်အံသင်ကြားရန်၊ တရားဘာဝနာများအားထုတ်ရန် မြှုပ်နှံထားကြသည်။

ဖာဟီယန် (Fa Hien)၊
တရုတ်ရဟန်းတော်၊ အေဒီ ၃၉၉

# နိဒါန်း

> အာနန္ဒာ၊ ယုံကြည်မှု သဒ္ဓါတရားနှင့် ပြည့်စုံသူများအား စိတ်အားထက်သန်မှုကို ဖြစ်ပေါ်စေမည့် နေရာဌာန လေးမျိုးရှိပေ၏။ အဘယ်လေးမျိုးတို့နည်းဟူမူကား တထာဂတခေါ်တွင် ငါဘုရားရှင် ဖွားမြင်တော်မူသည့်နေရာ၊ ဤကား ပထမနေရာတည်း။ တထာဂတခေါ်တွင် ငါဘုရားရှင် ဗောဓိဉာဏ်ကို ရတော်မူခဲ့သည့်နေရာ၊ ဤကား ဒုတိယနေရာတည်း။ တထာဂတခေါ်တွင် ငါဘုရားရှင် ဓမ္မစကြာတရား ဟောကြားတော်မူခဲ့သည့်နေရာ၊ ဤကား တတိယနေရာတည်း။ တထာဂတခေါ်တွင် ငါဘုရားရှင် ပရိနိဗ္ဗာန် စံဝင်တော်မူခဲ့သည့်နေရာ၊ ဤကား စတုတ္ထနေရာတည်း။ သဒ္ဓါတရားနှင့်ပြည့်စုံသည့် ရဟန်း၊ ရဟန်းမိန်းမ၊ ဥပါသကာ၊ ဥပါသိကာမများသည် ဤ(ဖော်ပြပြီး) နေရာဌာနများသို့ သွားရောက် ဖူးမြော်သင့်ပေ၏။ ကြည်လင်သော စိတ်ထားဖြင့် ဤသံဝေဇနိယ ဌာနများသို့ ဘုရားဖူးလှည့်လည်စဉ် ကွယ်လွန်သူ မည်သူမဆိုသည် ခန္ဓာကိုယ်ပျက်၍ သေလွန်ပြီးနောက်၌ နတ်ပြည်လောကတွင် ပြန်လည်မွေးဖွားပေလိမ့်မည် (ဒီ ၂၊ ၁၁၆)။

မျက်မှောက်ခေတ်တွင် အိန္ဒိယဟုခေါ်ဆိုသောနိုင်ငံကို ဗုဒ္ဓမြတ်စွာနှင့် ဗုဒ္ဓမြတ်စွာ၏ ခေတ်ပြိုင်ပုဂ္ဂိုလ်များက သပြေပင်ကျွန်း (ဇမ္ဗူဒီပ) ဟုခေါ်ဝေါ်ကြသည်။ မိမိဖွားမြင်တော်မူခဲ့သည့် နယ်မြေနိုင်ငံနှင့်စပ်၍ မြွက်ကြားရာ၌ မြတ်ဗုဒ္ဓက ‘နှစ်လိုဖွယ် မြေပြန့်လွင်ပြင်များနှင့် ရေကန်များ အနည်းငယ်သာရှိပြီး နက်ရှိုင်းကြမ်းထော်သောနေရာများ၊ ကူးဖြတ်၍ မရနိုင်သောမြစ်များ၊ သိပ်သည်းထူထပ်သည့် ချုံနွယ်ပိတ်ပေါင်းများ၊ ဆူးချုံများနှင့် (လူသူ) မပေါက်ရောက်နိုင်သော တောင်စဉ်တောင်တန်းများမှာမူ ပိုမိုများပြား၏ (အံ ၁၊ ၃၆) ’ဟူ၍ မိန့်တော်မူခဲ့သည်။

ရာသီဥတုခြောက်သွေ့ပြီး ပတ်ဝန်းကျင် ကြမ်းတမ်းသော်လည်း အိန္ဒိယကား အီဂျစ်၊ တရုတ်နှင့် မက်ဆိုပိုတေးမီးယားဒေသတို့ကဲ့သို့ပင် လူ့ယဉ်ကျေးမှု စတင်ဖွံ့ဖြိုးခဲ့သည့် ဒေသကြီး တစ်ခုဖြစ်သည်။ ဂင်္ဂါမြစ်ဝှမ်းဒေသ သို့မဟုတ် မဇ္ဈိမဒေသဟုခေါ်သည့် ဤဒေသကား အိန္ဒိယယဉ်ကျေးမှု၏ အကြီးမြတ်ဆုံးသော အတွေးအမြင်များနှင့် ဆန်းသစ်

ကလျာဏီကျောက်စာ (မြန်မာနိုင်ငံ၊ ပဲခူးမြို့) ၌ ကမ္ဗောဇဘန်းတရား ပွား များအားထုတ်ခြင်းဖြင့် မိမိရရှိခဲ့သော (အဘိညာဏ်) တန်ခိုးကြောင့် ဗုဒ္ဓ ဂယာသို့ မှန်မှန် ကြွရောက်ရန် အခွင့်အလမ်း ရယူနိုင်ခဲ့သော ဆယ့်သုံး ရာစုခေတ်က မြန်မာရဟန်းတော် တစ်ပါးအကြောင်း ဖော်ပြသည် – ‘ယင်းသို့ (ဈာန်အဘိညာဏ်) နှင့် ပြည့်စုံခြင်း၌ ဤရဟန်းတော်သည် နံနက်တိုင်း မဂဓနိုင်ငံသို့ ကြွရောက်ပြီး ဥရုဝေလာ (အရပ်)ရှိ ဗောဓိ ရင်ပြင်ကို တံမြက်လှည်းလျက် သုဓမ္မပုရ (မြန်မာနိုင်ငံ အောက်ပိုင်းပဲခူး) မြို့သို့ ပြန်ကြွ၍ ဆွမ်းခံလှည့်လည်၏။ တစ်နံနက်တွင် ဤအရှင်မြတ် ဗောဓိရင်ပြင်ကို တံမြက်လှည်းနေစဉ် (ယခင်က) ဥရုဝေလာ၌ နေထိုင် ခဲ့ဖူးကြသည့် ကုန်သည် တစ်စုသည် သုဓမ္မပုရမြို့မှ မဂဓမြို့သို့ အလာ လမ်းခရီးတွင် ဤမထေရ်ကို မြင်တွေ့ကြသဖြင့် အပြန်တွင် ၎င်းတို့ မြင် တွေ့ခဲ့ရသည်ကို သုဓမ္မပုရမြို့သူ မြို့သားတို့အား ပြောပြကြသည်’။

သို့ရာတွင် မြန်မာနိုင်ငံမှလာရောက်ကြသည့် ဘုရားဖူးအများစုမှာ ရခိုင်ရိုးမကိုဖြတ်ကျော်လျက် ကမ်းရိုးတန်းတစ်လျှောက် ခြေလျင်ခရီး နှင်၍ ဘင်္ဂလားနယ်ထဲသို့ ဝင်ကြသည်။ သို့မဟုတ် မျှင့်ထူထပ်ပြီး ပင်လယ်ဓားပြ ပေါ်များလှသည့် သုန္ဒာရဘန်စ် (Sundarbans) မြစ် ကြောင်းအတိုင်း လှေဖြင့်သွားပြီးနောက် ဂင်္ဂါမြစ်ညာသို့ ရွက်လွှင့် (ဆန် တက်) ကြသည်။

(မဇ္ဈိမဒေသသို့ ဘုရားဖူး) ခရီးထွက်ခွာခဲ့ကြသူ အများစုမှာ မွေး ရပ်မြေသို့ လုံးဝမပြန်ကြတော့ဘဲ အချို့မှာမူ မဇ္ဈိမဒေသသို့ရောက်အောင် ပင် မစီမံနိုင်ခဲ့ကြချေ။ တရုတ်ရဟန်းတော် ချန်မင်း (Chang Min) သည် ယင်းသို့သော ပုဂ္ဂိုလ်မျိုးဖြစ်သည် ‘ထိုအရှင်၏ အဓိကရည်ရွယ်ချက်မှာ မဇ္ဈိမဒေသသို့ ရောက်ရှိရန်ဖြစ်သည်။ ထိုရည်ရွယ်ချက်ဖြင့် ရဟန်းတော် ချန်မင်းသည် ကုန်ပစ္စည်းအပြည့် တင်ဆောင်ထားသည့် ကုန်သင်္ဘော တစ်စင်းဖြင့် လိုက်ပါခဲ့သည်။ သင်္ဘောသည် ဆိပ်ကမ်းမှ ခွာပြီးနောက် ဒေသတစ်ခုလုံးကို ဖွေ့ရမ်းလျက် ပင်လယ်ပြင်ကို အလွန်ကြမ်းတမ်း လှုပ်ရှားစေသော ရုတ်တရက် တိုက်ခတ်သည့် တိုက်ဖုန်း (typphoon)



ခရီးဒေသစာရီ လှည့်လည်တော်မူခဲ့ဖူးသည်။ ယင်းတို့အနက် အရေး အပါဆုံးမှာ မဂဓနိုင်ငံတော်ဖြစ်သည်။ (ထိုအချိန်က) ဘုရင်ဗိမ္ဗိသာရအုပ် ချုပ်ခဲ့ပြီး၊ နောက်ပိုင်း မြတ်ဗုဒ္ဓ၏ (ဘဝသက်တမ်း) နောက်ဆုံး နှစ် ကာလများအတွင်း၌မူ အဇာတသတ္တုဘုရင် (ဗိမ္ဗိသာရ၏သား)က အုပ် ချုပ်ခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန် စံလွန်တော်မူပြီးနောက် များ မကြာမီတွင် မဂဓနိုင်ငံ၏မြို့တော်ကို ရာဇဂြိုဟ်မှ ပါဋလိပုတ္တ (ယနေ့ ခေတ် ပတ္တနား)သို့ ရွှေ့ပြောင်းခဲ့ပြီး မဂဓနိုင်ငံသည် နိုင်ငံတော် ချဲ့ထွင်မှု အစီအမံကို စတင်လုပ်ဆောင်ခဲ့သည်။ ဘီစီသုံးရာစုတွင် မဂဓသည် အိန္ဒိယ၏ (နယ်မြေ) အားလုံးနီးပါး၊ ပါကစ္စတန်နှင့် အာဖဂန်နစ္စတန် နိုင်ငံများအထိ အောင်မြင်ခဲ့ပြီး ဖြစ်သည်။

မဂဓနိုင်ငံတော်၏ အဓိကပြိုင်ဖက်မှာ အနောက်မြောက်ယွန်းယွန်း ရှိ သာဝတ္ထိမြို့တော်တည်ရှိရာ ကောသလနိုင်ငံဖြစ်သည်။ မြတ်ဗုဒ္ဓ သက် တော်ထင်ရှားရှိစဉ်က ဤနှစ်နိုင်ငံသည် အကြိမ်ကြိမ် စစ်မက် ဖြစ်ပွားခဲ့ ကြသည်။ ကောသလသည် မြတ်ဗုဒ္ဓ၏ မွေးရပ်မြေ သကျပြည်သူ့နိုင်ငံ ကိုပင် စိုးမိုးခြယ်လှယ်ထားသည်။ မြတ်ဗုဒ္ဓသည် ဘဝသက်တမ်း နောက်ဆုံးပိုင်းအချိန် နှစ်ပေါင်း နှစ်ဆယ်ပတ်လုံး ကောသလနိုင်ငံတွင် ကုန်လွန်တော်မူသည်။ ဘုရင်ပသေနဒီ ကောသလသည် ဗုဒ္ဓရှင်တော် မြတ်၏ အကြည်ညိုဆုံးသော တပည့်ပရိသတ်တွင် ပါဝင်သည်။

မဂဓနိုင်ငံတော်၏ မြောက်ဘက်တွင် လူမျိုးစု များစွာ စုပေါင်းဖွဲ့ စည်းထားသည့် ဝဇ္ဇီနိုင်ငံရှိသည်။ ယင်းလူမျိုးစု များစွာအနက် အရေး အပါဆုံးမှာ လိစ္ဆဝီများနှင့် ဝိဒေဟများ ဖြစ်ကြသည်။ ဗုဒ္ဓရှင်တော်မြတ် လက်ထက်တော်အခါက လိစ္ဆဝီများသည် အာဏာအရှိဆုံးလူမျိုးစု ဖြစ် ပြီး ၎င်းတို့၏မြို့တော် ဝေသာလီသည် လက်တွေ့အားဖြင့် လူမျိုးစုမျိုးစုံ (နေထိုင်သည့်) မြို့တော်ဖြစ်လာသည်။ ဗုဒ္ဓရှင်တော်မြတ်၏ ဘဝနှောင်း ပိုင်းကာလများတွင် မဂဓဘုရင်သည် ဝဇ္ဇီနိုင်ငံကို ကျူးကျော် တိုက်ခိုက် ရန် အစီအမံများ ချမှတ်နေပြီဖြစ်သည်။

ဗုဒ္ဓရှင်တော်မြတ်သည် အခါအားလျော်စွာ ကာသိနိုင်ငံသို့ (လည်း) ကြွရောက်တော်မူခဲ့သည်။ ဗုဒ္ဓလက်ထက်တော်က မဇ္ဈိမဒေသ အများစုကို စိုးမိုးထားခဲ့သည့် ကာသိတိုင်းသည် နိုင်ငံရေးအရ အရှိန်အဝါ ခမ်းနားတောက်ပမှု လျော့နည်းသွားပြီ ဖြစ်သည်။ သို့ရာတွင် နိုင်ငံရေး ကြမ္မာ အားလျော့နေလင့်ကစား ကာသိနိုင်ငံ၏မြို့တော် ဗာရာဏသီသည် ယနေ့တိုင် ထိုဒေသ၏ ယဉ်ကျေးမှုနှင့် စီးပွားရေးအချက်အချာ နေရာအဖြစ် ဆက်လက်၍ တည်ရှိနေဆဲဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ် တောထွက်တော်မမူမီ ဗုဒ္ဓလောင်းလျာမင်းသား (သိဒ္ဓတ္ထ)သည် ဗာရာဏသီမြို့မှ ထွက်သည့် အမွေးအကြိုင်(နံ့သာ)နှင့် ပိုးသားရွှေချည်ထိုးအဝတ်အထည်များကိုသာ အသုံးပြုခဲ့သည်။ မြို့တော် ဗာရာဏသီသည် ထိုထွက်ကုန် နှစ်ခုကြောင့် ထင်ရှားကျော်စောလှသည်။ ကာသိနိုင်ငံ၏ အနောက်ဘက် လှမ်းလှမ်းနှင့် ကောသလတိုင်း၏ တောင်ဘက်တွင် ဝံသတိုင်းရှိသည်။ ဗုဒ္ဓရှင်တော်မြတ် သက်တော်ထင်ရှားရှိစဉ်က အတန်ကြာသည်အထိ ဘုရင်ဥဒေန အုပ်ချုပ်သော နိုင်ငံဖြစ်ခဲ့သည်။ ဝံသတိုင်း၏မြို့တော် ကောသမ္ဗီသည် ယမုန်နာမြစ်ကမ်းတွင်တည်ရှိပြီး ယင်းမြို့သို့ ဗုဒ္ဓရှင်တော်မြတ်သည် အကြိမ်များစွာ ကြွရောက်တော်မူခဲ့သည်။

ဗုဒ္ဓဝါဒီတို့ အထွတ်အမြတ်ထားရာ နယ်မြေဖြစ်ခြင်း၌ မဇ္ဈိမဒေသသည် ရာစုနှစ် တစ်လျှောက်လုံး မြတ်ဗုဒ္ဓ၏ ဘဝနှင့်ပတ်သက်သည့် နေရာတော်များကို ဖူးမြော်ခြင်းအတွက် အနှောင့်အယှက်များစွာကို ကျော်လွှားရန်နှင့် အသက်ကို(ပင်) စွန့်လွှတ်ရန် ဘုရားဖူး အပေါင်းအား စိတ်ဓာတ်ခွန်အားကို ဖြစ်ပေါ်စေခဲ့သည်။ ဘုရားဖူးပုဂ္ဂိုလ်များမှာ အိန္ဒိယ ဒေသပေါင်းစုံ၊ တရုတ်၊ ကိုရီးယား၊ ဆုမတြာ၊ မြန်မာနှင့် သီရိလင်္ကာနိုင်ငံများမှ လာရောက်ခဲ့ကြသည်။ (တစ်ချိန်က) ဆိုဗီယက်ယူနီယံတွင် ပါဝင်ခဲ့သည့် ကာဇာကစ္စတန်ဟု ယခုခေါ်ဝေါ်သည့် အရပ်မှပင် အနည်းဆုံး ဘုရားဖူးခရီးသည် တစ်ဦးရှိခဲ့ကြောင်း သိကြရသည်။ တစ်ချိန်က ယင်းကာဇာကစ္စတန်ဒေသသည် ဗုဒ္ဓဝါဒထွန်းကားခဲ့သောနေရာ ဖြစ်သည်။

တရုတ် သို့မဟုတ် ကိုရီးယားမှ လာရသည့် ဘုရားဖူးခရီးသည်



တစ်ဦးအဖို့ ထိတ်လန့်ဖွယ် ကောင်းလှသည့် တာကလာမကန် (Takla-makan)သဲကန္တာရကို ဖြတ်သန်းပြီးနောက် ကမ္ဘာပေါ်တွင် အမြင့်မားဆုံးသော တောင်တန်းဒေသ အချို့ကိုလည်း ကျော်ဖြတ်ရသည်။ အခြားတစ်လမ်းမှာ ဘုရားဖူးများသည် သင်္ဘောစီး၍ ပင်လယ်ထဲတွင် လပေါင်းများစွာ အချိန်ကုန်ခံပြီး လေမုန်တိုင်းများ၊ ပင်လယ်ဓားပြများနှင့် နာမကျန်းဖြစ်ခြင်း စသည်ကို ရင်ဆိုင်လျက် ခရီးနှင်ခဲ့ကြရသည်။ သီရိလင်္ကာနှင့် ဂျာဗားခေါ် ဆုမတြာဒေသမှ ဘုရားဖူးများသည် တမရာလိပတိ (Tamralipati) ယခု အနောက်ဘင်္ဂလားပြည်နယ် ခါရဂပူရ (Kharagpur) မြို့အနီး တမ္မလုက (Tamluk) ဆိပ်ကမ်းမြို့သို့ ရောက်ရှိရန် ဘင်္ဂလားပင်လယ်အော်အတွင်း သင်္ဘောစီးပြီးမှ ဂင်္ဂါမြစ်ညာအတိုင်း ပတ္တနားမြို့သို့အရောက် ဆန်တက်ရသည်။ ထိုမှတစ်ဆင့် ခြေလျင်ခရီးဆက်ရသည်။ နီပေါနှင့်တိဗက်မှ လာရောက်ကြသည့် ဘုရားဖူးများအဖို့မူ ခရီးမဝေးကွာလှသော်လည်း ရာသီဥတုမှာ အကြီးမားဆုံး အနှောင့်အယှက် ဖြစ်သည်။ အေးမြသည့် လေကောင်းလေသန့် ရှိရာ ၎င်းတို့၏ အမိမြေ တောင်ကုန်းဒေသမှ မဇ္ဈိမဒေသ၏ ပူအိုက်ပြီး မြူမှုန်ထူထပ်ရာ ပတ်ဝန်းကျင်သို့ ဆင်းသက်ရခြင်းမှာ ထိုဘုရားဖူး ခရီးသွားများအဖို့ မကျန်းမမာဖြစ်ခြင်း သို့မဟုတ် သေဆုံးခြင်းဟုပင် အဓိပ္ပာယ်သက်ရောက်စေသည်။

ရှေးခေတ် ယိုးဒယားနိုင်ငံမှ မဇ္ဈိမဒေသသို့ သွားရောက်ခဲ့သည့် ဘုရားဖူးခရီးသည်တစ်ယောက်၏ တစ်ခုတည်း သောမှတ်တမ်း(လည်း) ရှိသည်။ အမည်နာမ မသိရသော အဆိုပါ (ယိုးဒယား) ရဟန်းတော်သည် ယိုးဒယားနိုင်ငံမြောက်ပိုင်း ဖွန်းဂ်(Fong)နှင့် လန်းပန်း (Lumpun) မြို့များကိုဖြတ်၍ ခြေလျင်ခရီးဖြင့် မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက်ပြီး ၎င်းမှတစ်ဆင့် အိန္ဒိယသို့ သွားရောက်ခဲ့သည်[၁]။ ကျော်ကြားလှသည့်

---

[၁] ဒုတိယကမ္ဘာစစ်မတိုင်မီက ကျော်ကြားလှသည့် ယိုးဒယားရဟန်းတော် လန်ပိုအင်(Lungpo In)သည် မြန်မာနိုင်ငံ အထက်ပိုင်းနှင့် အာသံဒေသတို့ကို ဖြတ်လျက် ခြေလျင်ခရီးဖြင့် အိန္ဒိယသို့ ဘုရားဖူး သွားရောက်ခဲ့သည် (စာရေးသူ)။

ဗုဒ္ဓရှင်တော်မြတ်က တပည့်သာဝကများအား လုမ္ဗိနီ၊ ဗုဒ္ဓဂယာ၊ မိဂဒါဝုန်နှင့် ကုသိနာရုံ (ဟူသော သံဝေဇနိယ) ဌာနများသို့ ဘဝတစ်သက်တာတွင် အနည်းဆုံး တစ်ကြိမ် သွားရောက်ရန် မိန့်ကြားတော်မူသည့်မှာ ဤ(ဖော်ပြပြီး)အကြောင်းကြောင့် ဖြစ်နိုင်သည်။ ရာစုနှစ်ပေါင်းများစွာ ကြာညောင်းသည်အထိ (ဗုဒ္ဓဝင်)နေရာတော်များအနေဖြင့် ဘုရားဖူးပုဂ္ဂိုလ်များ၏ အချက်အချာ ဒေသများဖြစ်ခဲ့သည်။ သို့ရာတွင် ဗုဒ္ဓဝါဒထွန်းကားလာခြင်းနှင့် ဘုရားဖူးခရီးသွားရောက်မှု တိုးတက် များပြား ထင်ရှားလာခြင်းတို့ကြောင့် ဗုဒ္ဓဝင်နေရာတော်အများစုသည် (အဖူးအမြော်) သွားရောက်ရာဌာနများ ဖြစ်လာကြသည်။ အေဒီ ၂–ရာစုခန့်က ဖွဲ့ဆိုခဲ့သော အသောကဝဒါန (Asokavadāna)ကဗျာတွင် ယင်းသို့သော ဘုရားဖူးနေရာတော် သုံးဆယ့်နှစ်ဌာနအကြောင်း ဖော်ပြထားသည်။

သို့ရာတွင် ၁၉–ရာစုနှောင်းပိုင်း အချိန်မှစ၍ ဗုဒ္ဓဘာသာဆိုင်ရာ ဘုရားကျောင်းများကို ပြန်လည်ရှာဖွေတွေ့ရှိခဲ့ပြီး ပြန်လည်ထိန်းသိမ်းခဲ့သဖြင့် ဘုရားဖူးများ တဖြည်းဖြည်း ပြန်လည်ရောက်ရှိလာကြသည်။ ယနေ့ခေတ်တွင် ဘုရားဖူး အများအပြား လာရောက်ကြပြီး ဗုဒ္ဓဘာသာနိုင်ငံများမှပုဂ္ဂိုလ်များ လာရောက် ဖူးမြော်နိုင်ကြသကဲ့သို့ ဥရောပ၊ အမေရိကနှင့် ဩစတြေးလျနိုင်ငံများမှ ဘုရားဖူးများလည်း လာရောက်ဖူးမြင်နိုင်ကြသည်။

ခေတ်သစ်ကာလတွင် မဇ္ဈိမဒေသသို့ ဘုရားဖူးခရီးများမှာ ရှေးအခါကထက် ပိုမိုလွယ်ကူသော်လည်း အကျိုးတရားမှာမူ ကြီးကျယ်မြဲသာတည်း။ ကြာပန်းတို့မည်သည် စိုစွတ်ရာသီရေအိုင်များနှင့် ရွံ့ညွန်ထူထပ်သည့် ကျေးလက်ရေ ကန်များတွင် ပွင့်လန်းကြသည့်အတိုင်း သုတ္တန်တရားတော်များ၌ ဗုဒ္ဓရှင်တော်မြတ် မကြာခဏ ဥပမာပြုသုံးစွဲခဲ့သော (ယင်း)ကြာပန်းများကို ကြည့်ရှုရခြင်းသည် စိတ်နှလုံးကို အလွန်တရာ နှိုးဆွပေးနိုင်သော အတွေ့အကြုံတစ်ရပ် ဖြစ်နိုင်သည်။ ဗုဒ္ဓရှင်တော်မြတ် လက်ထက်တော်အခါက ရသေ့ရဟန်းများကဲ့သို့ပင် လူသူစည်ကားရာ လမ်းမများပေါ်၌ ဆွမ်းခံလှည့်လည်နေကြသော ပရိဗိုဇ်



မုန်တိုင်းကြောင့် ရှေ့သို့ ဆက်လက် မသွားနိုင်တော့ချေ။ တစ်နာရီအတွင်း သင်္ဘောစတင် နစ်မြုပ်သည်။ ဝရုန်းသုန်းကား အထိတ်တလန့် ကြီးစွာဖြစ်လျက် သင်္ဘောပေါ်ရှိ သင်္ဘောသားများနှင့် ကုန်သည်များသည် အတူပါလာသည့် လှေငယ်ပေါ်တွင် နေရာရရှိရေးအတွက် လုယက်ကြသည်။ သင်္ဘောမာလိန်မှူးမှာ ဗုဒ္ဓဘာသာဝင် ဖြစ်သဖြင့် လှေငယ်ပေါ်ရောက်သွားသောအခါ ၎င်းက ရဟန်းတော် ချန်မင်းအား မိမိတို့နှင့် လိုက်ပါခဲ့ရန် ပင့်ခေါ်သည်။ သို့သော် ရဟန်းတော်က "ငါ့နေရာမှာ အခြားတစ်ယောက် ခေါ်သွားပါ။ ငါမသွားတော့ဘူး"ဟု ပြန်ကြားသည်။ ရဟန်းတော်သည် အခြားပုဂ္ဂိုလ်များအတွက် လှေငယ်ပေါ်သို့ မဆင်းဘဲ နေသွားခဲ့သည်'။ ရဟန်းတော် ချန်မင်းသည် သင်္ဘောမြုပ်သောအခါ ဓမ္မကျမ်းစာ ရွတ်ဖတ် သရဇ္ဈာယ်ရင်း တည်ငြိမ်စွာ ထိုင်နေလေသည်။

မဇ္ဈိမဒေသသို့ အရောက်သွားရန် စီမံကြသော်လည်း ဘုရားဖူးများသည် ရာသီဥတုဆိုးရွားခြင်း၊ မကြာခဏဖြစ်ပေါ်သည့် နိုင်ငံရေး ပဋိပက္ခနှင့် ရှည်လျားပြီး လူသူမဲ့လမ်းများနှင့် ကြုံတွေ့ရခြင်း စသည့် ထူးထွေများပြားသော အခက်အခဲများကို ရင်ဆိုင်ခဲ့ကြရသည်။ ဗုဒ္ဓဂယာသို့ ရောက်ပြီးနောက် ရက်အနည်းငယ် အကြာမှာပင် ကွယ်လွန်သွားရှာသည့် ကိုရီးယား ရဟန်းတော် ရှုအန်ကို (Hsuan K'o) အကြောင်းကိုလည်း ဖတ်ရှုရသည်။ အခြားဘုရားဖူးတစ်ယောက်ဖြစ်သည့် တရုတ်ရဟန်းတော် ယိကျင် (I Tsing)မှာမူ မမျှော်လင့်ဘဲ သူခိုးဓားပြများနှင့် ကြုံတွေ့ရလျက် အသက်ဘေးမှ သီသီကလေး လွတ်မြောက်ပြီး (၎င်း၏ဖြစ်ရပ်မှာ) ပြောပြစရာ ပုံပြင်တစ်ခုသဖွယ်ကျန်ရစ်သည်။ ခိုးသားဓားပြများက မိမိအသက်ကို ခြိမ်းခြောက်နေစဉ်မှာပင် ယိကျင်သည် မိမိ၏ ဘုရားဖူးခရီး ပြီးဆုံးနိုင်စွမ်း မရှိခဲ့သည်ကိုသာလျှင် စိုးရိမ်ခဲ့သည် 'ထို (အသက်ဘေးနှင့် ရင်ဆိုင်ကြုံရသည့်) အချိန်က ကျွန်ုပ်သည် ငါ့အဖို့ ကမ္ဘာလောကကို နောက်ဆုံး နှုတ်ဆက်ရမည့်အချိန် အမှန်တကယ် နီးကပ်နေပြီး မြင့်မြတ်သော (ဗုဒ္ဓဝင်)နေရာတော်များကို ဖူးမြော်လိုသည့် ငါ့ဆန္ဒ မပြည့်ဝနိုင်တော့ပါတကားဟူ၍ (သာ) တွေးမိခဲ့သည်'။

သတ္တိပြောင်မြောက်ကြသည့် အချို့သော ပုဂ္ဂိုလ်ကျော်များမှာကား မဇ္ဈိမဒေသသို့ ခရီးနှစ်ခေါက် သို့မဟုတ် သုံးခေါက်ပင် သွားရောက်ရန် ကြိုးစားခဲ့ကြသည်။ တရုတ်ရဟန်းတော် ဟူယင်ချီ (Huien-Chi)သည် ခရစ်နှစ် ၆၂၈–တွင် တရုတ်အနောက်ဖျားနှင့် အာဖဂန်နစ္စတန်နိုင်ငံများကို ကျော်ဖြတ်၍ အိန္ဒိယသို့ သွားရောက်ပြီး ဗုဒ္ဓဂယာတွင် လေးနှစ်နှင့် နာလန္ဒာတွင် သုံးနှစ် အသီးသီး သီတင်းသုံးခဲ့သည်။ နောက်ဆုံးတွင် တိဗက်မှတစ်ဆင့် တရုတ်ပြည်သို့ ပြန်ခဲ့သည်။ ဆယ့်ရှစ်နှစ် ကြာသော အခါ နောက်ထပ်တစ်ဖန် (မဇ္ဈိမဒေသသို့) သွားရောက်ခဲ့ပြန်သည်။ သို့သော် အမိနိုင်ငံသို့ ပြန်ရန်ကြိုးစားသောအခါ တိဗက်နှင့် အိန္ဒိယမြောက်ပိုင်းတွင် (ဖြစ်ပွားနေသော) နိုင်ငံရေးပဋိပက္ခများကြောင့် ပြန်မရောက်နိုင်ခဲ့တော့ပေ။ သို့ဖြစ်၍ ဟူယင်ချီသည် အမိနိုင်ငံနှင့် အလွန်ဝေးကွာသော်လည်း မိမိနှလုံးသားနှင့် အလွန်နီးစပ်လျက်ရှိသော မဇ္ဈိမဒေသတွင် ဘဝနိဂုံး အဆုံးသတ်ရန် ဆုံးဖြတ်လိုက်သည်။

အမှန်စင်စစ် (ဗုဒ္ဓဂယာသို့) ဘုရားဖူးခရီး အောင်မြင်စွာ ပြီးမြောက်လျက် ဘေးအန္တရာယ်ကင်းစွာ အိမ်ပြန်နိုင်ခဲ့ကြသော ပုဂ္ဂိုလ်များမှာ အများသူငါထက် ပိုမိုပြင်းပြထက်သန်သော သဒ္ဓါတရားကြောင့် ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ် ကြွလှမ်းတော်မူခဲ့သည့် နေရာတော်များတွင် ၎င်း(ဘုရားဖူး)တို့ ကိုယ်တိုင် လျှောက်လှမ်းခဲ့ရသည့် အတွေ့အကြုံသည် ဘဝတစ်သက်တာပတ်လုံး ၎င်းတို့နှင့်အတူတည်ရှိနေမည့် နှစ်သက်မှုကို ပေးစွမ်းနိုင်သည်။ မဇ္ဈိမဒေသ ဘုရားဖူးခရီးသည်အနည်းစုသာ ၎င်းတို့ ခရီးစဉ်အကြောင်း မှတ်တမ်းများ (ရေးသား)ထားခဲ့ကြသည်။ သို့တစေ မပျက်မစီးကျန်ရှိနေသော (အဆိုပါ)မှတ်တမ်းများကား ပြင်ပဗဟိဒ္ဓ ရုပ်ပိုင်းဆိုင်ရာ အနှောင့်အယှက်များအပေါ် သဒ္ဓါကြည်ညိုမှု၏ အောင်ပွဲသက်သေများ ဖြစ်ကြသည်။ ဘုရားဖူးခရီး သွားရောက်ရန် သည်းခံမှု၊ သတ္တိ၊ သဒ္ဓါတရားနှင့် အခက်အခဲများကို ကြည်ရွှင်စွာ ရင်ဆိုင်နိုင်မှုတို့ လိုအပ်သည်။ အမိနိုင်ငံသို့ ပြန်လည်ရောက်ရှိလာကြသော ပုဂ္ဂိုလ်များသည် ထိုအရည်အသွေးများကို အားကိုးခဲ့ကြကြောင်း တွေ့ရသည်။





အသောက၏ ပြုပြင်ပြောင်းလဲမှုအားလုံးအနက် ကာလအရှည်ကြာဆုံး အကျိုးသက်မှုရှိခဲ့သည်မှာ ဗုဒ္ဓသာသနာတော် ပြန့်ပွားရေး ကြိုးပမ်းမှုများဖြစ်သည်။ အသောကသည် မြို့တော်ပါဋလိပုတ်(ပတ္တနား)တွင် တတိယသံဂါယနာတင်ပွဲ ကျင်းပခဲ့ပြီး သံဃာတော်များ စည်းလုံး ညီညွတ်ရေးအတွက် ဆောင်ရွက်ခဲ့သည်။ အတွေ့အကြုံရင့်ကျက်တော်မူကြသည့် ရဟန်းတော်များအား အိန္ဒိယနိုင်ငံတော်တစ်ဝန်းလုံးနှင့် ဆီးရီးယား၊ အီဂျစ်နှင့် မက်ဆီဒိုနီယားဒေသများသို့တိုင် (သာသနာပြု) စေလွှတ်ခဲ့သည်။ ယင်းနိုင်ငံရပ်ခြား သာသနာပြုအဖွဲ့များအနက် အအောင်မြင်ဆုံးမှာ သီရိလင်္ကာနိုင်ငံသို့ ကြွရောက်ခဲ့သော အသောက၏သားတော် အရှင်မဟိန္ဒခေါင်းဆောင်သည့် (သာသနာပြု) အဖွဲ့ဖြစ်သည်။

အစဉ်အလာအရ အသောကသည် မြတ်ဗုဒ္ဓ၏ဓာတ်တော်များကို ဥပနာ (ထည့်သွင်း)၍ တည်ထားခဲ့သည့် စေတီတော်ရှစ်ဆူအနက် ခုနစ်ဆူကို ဖွင့်လှစ်ပြီး အပုံပေါင်း ၈၄၀၀၀ (ရှစ်သောင်းလေးထောင်) ပုံလျက် ယင်းတို့ကို (တစ်ပုံစီ) ဥပနာ၍ စေတီတော်ပေါင်း ၈၄၀၀၀ တည်ထားခဲ့ကြောင်း သိရသည်။ စေတီတော်ပေါင်း ၈၄၀၀၀ အရေအတွက်ဟူသည် များလွန်းလှသည်မှာ မှန်သော်လည်း အိန္ဒိယနိုင်ငံအနှံ့အပြားတွင် (တွေ့ရသည့်) မြောက်မြားစွာသော စေတီတော်များကို မူလဘူတအားဖြင့် မောရိယခေတ်အတွင်းက တည်ဆောက်ခဲ့သည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ကျောက်စာများအနက် တစ်ခုတွင် အသောကမင်းကြီးသည် အပျော်ခရီးသွားသည့် ဘုရင်၏ပုံမှန်ဝါသနာကို စွန့်လွှတ်ပြီး ၎င်းအစား ဘုရားဖူးခရီးများ သို့မဟုတ် ၎င်း၏အခေါ်အဝေါ်အရ 'ဓမ္မခရီး'များ လှည့်လည်ခဲ့သည်။ ဘီစီ ၂၆၀– တွင် အသောကသည် ဗုဒ္ဓဂယာသို့ ဘုရားဖူးခရီးသွားရောက်ခဲ့ပြီး နောက်ထပ် ဆယ်နှစ်အကြာတွင် လုမ္ဗိနီသို့ (ဘုရားဖူး) သွားရောက်ခဲ့သည်။

ခေတ်သစ်ဘုရားဖူးများသည် မဇ္ဈိမဒေသ၊ အမှန်သော် အိန္ဒိယနိုင်ငံအနှံ့ရှိ မင်းကြီးစိုက်ထူခဲ့သည့် ကျောက်စာတိုင်ကြီးများကပင် မင်းကြီး၏ အရှိန်အဝါ ဩဇာကြီးမားမှုကို (ယနေ့တိုင်) တွေ့မြင်နိုင်ဆဲ ဖြစ်သည်။



များကို တွေ့မြင်ရခြင်းသည်လည်း လူ၏စိတ်ပိုင်းဘဝ ပြီးပြည့်စုံမှု အတွက် ထာဝစဉ် ရှာဖွေနေမှုအပေါ် ပြင်းပြစွာ သတိပေးနှိုးဆော်မှု တစ်ရပ် ဖြစ်ပေလိမ့်မည်။

စာရေးသူ (ဩစတြေလျနိုင်ငံသား အက်စ်ဓမ္မိက)သည် တစ်ခါသော် မင်းသားသိဒ္ဓတ္ထကဲ့သို့ပင် အသက်အရွယ်ကြောင့် ထောင့်မှန်ကျကွေးညွတ်နေပြီဖြစ်သည့် ဆင်းရဲသား အဖိုးအိုတစ်ယောက်၊ လမ်းဘေးတွင် ရောဂါသည် သူတောင်းစားတစ်ယောက်၊ မသာအသုဘအခမ်းအနားတစ်ခုနှင့် လှည့်လည်သွားလာနေသူ ပရိဗိုဇ်တစ်ယောက်တို့ကို နာရီပိုင်းမျှအတွင်း အမှတ်မထင် ကြုံတွေ့ခဲ့ရဖူးပါသည်။ ဤကဲ့သို့သော အတွေ့အကြုံမျိုးသည် ဓမ္မကို နားလည်ရန် သစ်လွင်ထင်ရှားသည့် အတိုင်းအတာတစ်ခုအထိ အားဖြည့်ပေးနိုင်ပါသည်။ ဤမျှမကသေး၊ ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးပြီး တရားဓမ္မဟောတော်မူခဲ့သည့် နေရာများတွင် ကမ္မဋ္ဌာန်းရှုမှတ်၍ လှူဒါန်းပူဇော်မှုများ ပြုလုပ်ရခြင်းသည် မည်သည့် ဘုရားဖူးသွားရာဌာတွင်မဆို တွေ့ရမြဲလက္ခဏာ တစ်ရပ်ဖြစ်သော လူအများ ပျာယာခတ်ခြင်း၊ အသံဗလံနှင့် ရောင်းခြင်း ဝယ်ခြင်းများရှိသော်ငြားလည်း သေချာ(ကောင်းမွန်)သည့် စိတ်ပိုင်းဘဝ လက်တွေ့ အတွေ့အကြုံတစ်ရပ်ကို ခံစားရနိုင်သည်။ ဤစိတ်ပိုင်း အတွေ့အကြုံသည် အိမ်ပြန်ရောက်ပြီးနောက် အချိန်များစွာ ကြာသည့်တိုင် ဘုရားဖူးခရီးသည်၏ သဒ္ဓါတရားနှင့် ကျင့်ကြံအားထုတ်မှုကို လန်းဆန်းစေနိုင်သည်။

မဇ္ဈိမဒေသခရီးစဉ်ကို အပြည့်အဝ နားလည်နိုင်ရန် ခေတ်သစ်ဘုရားဖူးများသည် ထိုမြင့်မြတ်သည့်နေရာဌာန အသီးသီး၏ ဘာသာရေး၊ သမိုင်းနှင့် ရှေးဟောင်းသုတေသနဆိုင်ရာ နောက်ခံအချက်အလက်များနှင့် ပတ်သက်၍ အတွေးအမြင် ရှိထားရန် လိုအပ်သည်။ ထိုဗုဒ္ဓဝင်နေရာတော်များ၏ သမိုင်းစဉ်အများစုကို ရှေးခေတ်က ထိုဌာနများသို့ ဘုရားဖူးခရီး ကြွရောက်ခဲ့ကြသော ဘုရားဖူးခရီးသည်ကြီးများ ရေးမှတ်ထားခဲ့သည့် မှတ်တမ်းများမှ ရရှိခြင်းဖြစ်သည်။ ဤစာအုပ်တွင် ယင်းဘုရားဖူး မှတ်တမ်းများထဲမှ အချို့ကို မကြာခဏ ရည်ညွှန်းပြဆို

မည်ဖြစ်သဖြင့် ထိုဘုရားဖူးပုဂ္ဂိုလ်များ၏ ဘဝအကြောင်းကို သိထားသင့်ပါသည်။ ထိုနည်းတူစွာပင် ဘုရားဖူးပုဂ္ဂိုလ် တစ်ယောက် သွားရောက်လိုသည့် အထိမ်းအမှတ်နေရာ အမျိုးအစားနှင့်ရော ဗုဒ္ဓအနုပညာ၏ ကွဲပြားသည့် နှစ်ကာလအပိုင်းအခြား ပုံသဏ္ဍာန် (ဟန်)များနှင့်ပါ သက်ဆိုင်သည့် အသိပညာ ဗဟုသုတများသည်လည်း ဘုရားဖူးခရီးသည်၏ နားလည်မှုကို ကြွယ်ဝစေပေလိမ့်မည်။

## ဘုရားဖူးခရီးသည်ကြီးများ

### အသောကမင်းကြီး

ဘီစီ ၄၈၃–ခုနှစ်[၂]၊ ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မမူမီကပင် ရှင်တော်မြတ်၏ အသက်ထင်ရှားရှိစဉ်အတွင်း အရေးတကြီး (အထင်အရှား)ဖြစ်ပျက်ခဲ့သော နေရာများသို့ လူအများ သွားရောက်ခဲ့ကြပြီးဖြစ်သည်။ သို့ရာတွင် ကျွန်ုပ်တို့သိရသည့် ဘုရားဖူးခရီး သွားရောက်ခဲ့သူ ပုဂ္ဂိုလ်တစ်ယောက်နှင့် ပတ်သက်သည့် သမိုင်းတွင် ပထမဦးဆုံးသော မှတ်တမ်းကား အိန္ဒိယကေရာဇ် မဟာအသောကမင်းတရား သို့မဟုတ် ၎င်းကိုယ်တိုင် မိမိကိုယ်ကိုမိမိ ရည်ညွှန်းခဲ့သည့်အတိုင်း (ဆိုရမူ) နတ်

---

[၂] ပညာရှင်အချို့က မြတ်ဗုဒ္ဓကို ဘီစီ ၅၆၃–တွင် ဖွားမြင်သည်ဟုယူဆကြပြီး အချို့ကမူ ဘီစီ ၆၂၃–ဟု ယူဆသည်။ မြန်မာနှစ် ၁၃၆၂–သည် (သက္ကရာဇ်ဖြိုကိန်း ကေကေအဋ္ဌဖွေး ထပ်ပေါင်း၍) ရောက်ဆဲ သာသနာနှစ် ၂၅၄၄–ဖြစ်သည်။ ယင်းမှ ရောက်ဆဲ အေဒီ ၂၀၀၁ ကို နုတ်သော် ဘီစီ ၅၄၃ ကျန်သည်။ ယင်းသည် ဗုဒ္ဓပရိနိဗ္ဗာန်စံသည့်နှစ် (ပထမသံဂါယနာတင်သည့်နှစ်) ဖြစ်သည်။ ထို့ကြောင့် မြတ်ဗုဒ္ဓဖွားနှစ်ကို မြန်မာတို့က (သက်တော် ၈၀ ထပ်ပေါင်း၍) ဘီစီ ၆၂၃–ဟု လက်ခံသည်။ ဘီစီ ၅၄၃ နှင့် ရောက်ဆဲ အေဒီကို ပေါင်း၍ရသော ခုနှစ်သည် ဗြိတိသျှခေတ်မတိုင်မီ သီရိလင်္ကာနိုင်ငံသုံး ကောဇာသက္ကရာဇ်လည်း ဖြစ်သည်။ မဟာဝံသကျမ်းကို အင်္ဂလိပ်ဘာပြန်သူ ပါဠိပညာရှင် ဝီလျံဂိုင်ဂါ (Wilhelm Geiger) သည် ကမ္ဘာ့သမိုင်း၊ အိန္ဒိယသမိုင်း၊ ကျောက်စာများနှင့် ညှိနှိုင်းပြီး ဘီစီ ၆၂၃ မှ နှစ် ပေါင်း ၆၀– နုတ်ပစ်ခဲ့သဖြင့် ဗုဒ္ဓဖွားမြင်တော်မူသောနှစ် အယူအဆနှစ်မျိုး ကွဲပြားသွားသည်။



တို့ ချစ်မြတ်နိုးခြင်းခံရသူ ဒေဝါနံပိယဒဿီမင်းကြီး၏ အကြောင်းဖြစ်သည်။ ဘီစီ ၂၇၀–၌ ထီးနန်းရပြီးသောအခါ ဘုရင်အသောကသည် မောရိယမင်းဆက်၏ တတိယမြောက် ကေရာဇ်ဖြစ်လာလျက် အာဖဂန်နစ္စတန်မှ ဘင်္ဂလားဒေ့ရှ်အထိ ကျယ်ပြောလှသည့် အင်ပါယာကြီးကို ဆက်ခံပြီး အိန္ဒိယတောင်ဖျား အကျဆုံးဒေသနှင့် ယနေ့ခေတ် သြရိသပြည်နယ် (ထိုအချိန်က ကလိင်္ဂတိုင်း)တို့မှ တစ်ပါး အိန္ဒိယနိုင်ငံတစ်ဝန်းလုံးကို မိမိလက်အောက်ခံ ပြုခဲ့သည်။ စစ်ပွဲများ တစ်ခုပြီးတစ်ခု ဆင်နွှဲခြင်းသည် ဘိသိက်မခံမီ ဖြစ်ခဲ့ပြီး ထိုအချိန်အတွင်း ၎င်း၏ညီတော်နောင်တော် အများအပြားကို ကွပ်မျက်ပစ်ခဲ့သည်။

ရှစ်နှစ်ကြာပြီးနောက် အသောကသည် ကလိင်္ဂနိုင်ငံအား နယ်ချဲ့စစ်ပွဲကို စတင်လုပ်ဆောင်သည်။ ထိုစစ်ပွဲအတွင်း ၎င်း (ဘုရင်အသောကကိုယ်တိုင်)၏ စကားအရ '(လူပေါင်း)တစ်သိန်းခွဲ ပြည်နှင်ဒဏ်ခံရ၏။ တစ်သိန်း ကွပ်မျက်ခြင်း ခံရ၏။ အခြား အကြောင်းများကြောင့်(လည်း) များစွာ သေကြေပျက်စီးကြ၏' (ဟုသိရသည်)။ မိမိ လုပ်ဆောင်ခဲ့သည်နှင့် ပတ်သက်၍ သဘောပေါက် နားလည်ခြင်းသည် အသောကအား တုန်လှုပ်ချောက်ချားစေပြီး အုပ်ချုပ်ရေးပုံစံအပေါ် အထူးသဖြင့် ဗုဒ္ဓဝါဒအပေါ် နက်ရှိုင်းစွာ သက်ရောက်စေသည့် နှလုံးသားအတွင်း ပြောင်းလဲမှု တစ်ရပ်ကို ဖြစ်ပေါ်စေခဲ့သည်။ ဘုရင်အသောကသည် ဗုဒ္ဓသာသနာကို ကိုင်းရှိုင်းသူတစ်ယောက်ဖြစ်လာပြီး မိမိ၏အင်ပါယာကို ဗုဒ္ဓဝါဒအခြေခံ ကိုယ်ကျင့်တရားများနှင့်အညီ အုပ်ချုပ်ရန် အစွမ်းကုန် ကြိုးပမ်းခဲ့သည်။ အသောကသည် တိုးချဲ့သည့် နိုင်ငံခြားရေးမူဝါဒကို စွန့်လွှတ်ပြီး စီမံခန့်ခွဲမှုနှင့် တရားစီရင်ရေး စနစ်များကို ပြုပြင်ပြောင်းလဲပစ်လိုက်သည်။ ဘာသာဝါဒ အမျိုးမျိုးတို့အကြား သင့်မြတ်စွာ အတူတကွ နေထိုင်မှုကို တိုးမြှင့်ရန် အပြုသဘောဆောင်သည့် ခြေလှမ်းများ ရယူခဲ့သည်။ ဆေးဘက်ဝင် သစ်ပင်များ မရနိုင်သည့်နေရာ ဒေသများ၌ ယင်း(ဆေးဘက်ဝင်သစ်ပင်)များကို စိုက်ပျိုးထုတ်လုပ်စေခဲ့သည်။ သားရိုင်း တိရစ္ဆာန်များအား ကာကွယ်စောင့်ကြပ်မှုပေးခဲ့သည်။

တွင် ကျွန်းငယ်တစ်ခုပေါ်သို့ ရောက်သွားပြီး သင်္ဘောကို ပြန်လည်ပြု ပြင်ပြီးနောက် ခရီးဆက်ခဲ့ကြသည်။ ဖာဟီယန်သည် ဂျာဗားကျွန်းတွင် ငါးလခန့် နေထိုင်ရသဖြင့် ထိုကျွန်း၌ ဗုဒ္ဓဘာသာဝင် အနည်းငယ်ရှိသော် လည်း ဟိန္ဒူဝါဒသည် လူအများ၏ အဓိက ဘာသာတရား ဖြစ်ကြောင်း တွေ့ရသည်။ အခြားသင်္ဘောသား နှစ်ရာခန့်နှင့်အတူ ရက်ပေါင်းငါးဆယ် စာ စားနပ်ရိက္ခာများ သယ်ဆောင်လျက် အခြားသင်္ဘော တစ်စင်းကို စီးပြီး ပြန်တော်ပြန်ခရီးကို စတင်ခဲ့ပြန်သည်။

တစ်လခန့် သင်္ဘောခရီးနှင်ပြီးနောက် သင်္ဘောသည် လေမုန်တိုင်း များနှင့် ကြုံရပြန်သည်။ ၎င်းတို့အချင်းချင်း ဆွေးနွေးကြပြီးနောက် သင်္ဘောပေါ်ရှိ ပုဂ္ဂိုလ်များက ဤသို့ဆိုသည် ‘ငါတို့ ဤကဲ့သို့ ကံဆိုးမိုး မှောင်ကျပြီး အန္တရာယ်နှင့် ကြုံရခြင်းမှာ သင်္ဘောပေါ်တွင် လိုက်ပါလာ သည့် ရဟန်းကြောင့်ဖြစ်သည်။ ဤရဟန်းကို ငါတို့ ပထမဆုံး ဆိုက် ရောက်သည့် ကျွန်းပေါ်တွင် ထားပစ်ခဲ့ကြစို့။ တစ်ယောက်ကိုအကြောင်း ပြု၍ ငါတို့အားလုံး၏ အသက်မဆုံးရှုံးသင့်’။ ဤသို့ဆွေးနွေး တိုင်ပင် ကြစဉ် ရဟန်းတော်ဖာဟီယန်နှင့် ခင်မင်ရင်းနှီးပြီးဖြစ်သည့် ဗုဒ္ဓဘာသာ ဥပါသကာ တစ်ယောက်က ဤသို့ဆိုသည် ‘အကယ်၍ ခင်ဗျားတို့ ဤရဟန်းတော်ကို ထားပစ်ခဲ့ကြမည်ဆိုလျှင် ငါ့ကိုလည်း ထားပစ်ခဲ့ပါ။ ဒါမှမဟုတ် ငါ့ကို သတ်ပစ်လျှင် ပိုကောင်းလိမ့်မည်။ အကြောင်းမူ အ ကယ်၍ ဤရဟန်းကို ကျွန်းတစ်ကျွန်းပေါ်မှာ ထားပစ်ခဲ့လျှင် တရုတ် ပြည်ကိုရောက်သောအခါ ကျွန်ုပ်သည် ဘုရင်ကေရာဇ်ထံ သွားပြီး ခင် ဗျားတို့၏ လုပ်ဆောင်မှုကို အကြောင်းကြားရပေလိမ့်မည်။ ကေရာဇ် သည် ဗုဒ္ဓသာသနာကို လွန်စွာယုံကြည်ပြီး ရဟန်းတော်များအား များ စွာ ချီးမြှောက်တော်မူသည်’။

ဤခြိမ်းခြောက်မှုသည် သင်္ဘောသားများကို ငြိမ်သက်စေသော် လည်း ရဟန်းတော် ဖာဟီယန်အဖို့မူ ကျန်သေးသော ခရီးစဉ်နှင့် ပတ်သက်၍ သဲထိတ်ရင်ဖို ကြုံခဲ့ရမည်မှာ သေချာလှပေသည်။ အေဒီ ၄၁၄–ခုနှစ်၊ တရုတ်ပြည်သို့ ပြန်ရောက်သောအခါ ရဟန်းတော် ဖာဟီ



ယင်းကျောက်စာတိုင်ကြီးများအား အသောကမင်းကြီး၏ သုံးဆယ့်ရှစ် နှစ်ကြာ စိုးမိုးအုပ်ချုပ်စဉ် ကာလအတွင်း ထုတ်ပြန်ခဲ့သည့် အမိန့် ပြန် တမ်းများကို မှတ်တမ်းတင်ရန်၊ ဗုဒ္ဓဝင်နေရာတော်များစွာကို မှတ်သား ထားရန်နှင့် ၎င်း၏မြို့တော် ပတ္တနားမှ လုမ္ဗိနီသို့ ဘုရားဖူးလမ်း တစ် ဝက်၏ခရီးစဉ်ကို ဖော်ပြရန် အသုံးပြုခဲ့သည်။ ယင်းကျောက်စာတိုင် များသည် ယခုခေတ်တွင် ရှေးဟောင်းအိန္ဒိယလူမျိုးများ၏ အနုပညာ၊ ဒဿနနှင့် အတတ်ပညာထူးချွန်မှုတို့အတွက် နှုတ်မမြွက်သည့် သက် သေများအဖြစ် ရပ်တည်လျက်ရှိကြသည်။

ယင်းကျောက်စာတိုင်များအနက် အချို့မှာ ကျိုးပျက်ကုန်ကြပြီဖြစ် သော်လည်း အရှည်ဆုံးမှာ ၁၅ မီတာမြင့်ပြီး ၎င်းတို့အားလုံးသည် ရာစု နှစ်ပေါင်းများစွာ ကြာညောင်းသည့်တိုင် ဝိသေသလက္ခဏာများကို ဖော် ဆောင်ကြဆဲဖြစ်သည်အထိ ထူးထူးခြားခြားစံချိန်မြင့် တောက်ပြောင် ချောမွတ်မှုကို ပြသလျက်ရှိကြသည်။ ကျောက်စာတိုင်တိုင်းကို ပန်းပါ သည့် ခေါင်းပိုင်းပုံ၊ တစ်ခါတစ်ရံ နွားလားဥသဘပုံ၊ တစ်ခါတစ်ရံ ရဲရင့် သည့် ခြသေ့်ပုံများဖြင့် အထွတ်တပ်ထားပြီး ၎င်းတို့အနက် အချို့မှာ အိန္ဒိယအနုပညာ၏ ဂန္ထဝင်မြောက် လက်ရာများအဖြစ် အများကကျယ် ပြန့်စွာ အသိအမှတ်ပြုခြင်းခံရသည်။ ယင်းကျောက်စာအားလုံးကို ဗာရာ ဏသီမြို့ တောင်ဘက်ရှိ ချူနာရ (Chunar)အရပ်ရှိ ကျောက်ကျင်းတွင် ပြုလုပ်ပြီး ယင်းမှတစ်ဆင့် စိုက်ထူမည့်နေရာဌာနသို့အရောက် တစ်ခါ တစ်ရံတွင် ကီလိုမီတာ ရာပေါင်းများစွာကွာဝေးသည့် နေရာသို့တိုင် ဆွဲယူခဲ့ရသည်။

**တရုတ်ရဟန်းတော် ဖာဟီယန်** (Fa Hien)

နောက်ပိုင်းခေတ်တွင် (မဇ္ဈိမဒေသ ဗုဒ္ဓဝင်နေရာတော်များသို့) ဘုရားဖူး ပုဂ္ဂိုလ်များ အစုလိုက်အပြုံလိုက် ရောက်ရှိလာအောင် လှုံ့ဆော်ပေးသည့် ပထမဆုံး (ပုဂ္ဂိုလ်)မှာ တရုတ်ရဟန်းတော် ဖာဟီယန်ဖြစ်သည်။ ဗုဒ္ဓဝါဒ ဆိုင်ရာကျမ်းဂန်များ၏ စစ်မှန်သောမူပွားများရရှိရန်နှင့် ကြီးကျယ်သည့် ခရီးသွား စွန့်စားမှုတွင်ပါဝင်သော ခရီးစဉ်တစ်ရပ်ကို စတင်ခဲ့ကြသည်။

မိမိ၏ ဘာသာစကားမှတစ်ပါး အခြားဘာသာစကားကို မပြောတတ် ရုံသာမက ရိက္ခာများလည်း မလုံလောက်ဘဲ အိန္ဒိယဟူသည် အနောက်ဘက်တစ်နေရာတွင် ရှိသည်ဟူသော ဝိုးတိုးဝါးတားအသိဖြင့် ရဟန်းတော်ဖာဟီယန်နှင့် အဖော်များသည် မိမိတို့၏ သဒ္ဓါ(ယုံကြည်မှု) မှတစ်ပါးအခြားသော လမ်းညွှန် သို့မဟုတ် ထောက်ပံ့မည့်အရာ တစ်စုံတစ်ခုမျှမရှိခဲ့ချေ။ ကြမ်းတမ်းခက်ထန်လှသည့် တာကလာမကန် (Taklama-kan) သဲကန္တာရကို ဖြတ်သန်းရာ၌ တစ်ခုတည်းသော လမ်းညွှန်မှာ ကံနည်းရှာသူ (ယခင်) ခရီးသွားများ၏ အရိုးခြောက်များသာတည်း။

ဘုရားဖူးရဟန်းတော်များသည် (သဲကန္တာရအနီးရှိ) အိုအေစစ်မြို့တော် ခိုတန် (Khotan)ကို ဖြတ်သန်းပြီး ဟိန္ဒူကုရှ် (Hindu Kush) တောင်တန်းများကို ကျော်လွှားရသည်။ နောက်ဆုံးတွင် ပက်ရှ်ဝါ (Peshawar) ဒေသအတွင်းသို့ ဆိုက်ရောက်သွားကြသည်။ ပက်ရှ်ဝါတွင် ကနိသျှက(Kaniskha)ဘုရင် တည်ထားကိုးကွယ်ခဲ့ပြီး ရှေးခေတ် ကမ္ဘာပေါ်တွင် အမြင့်ဆုံး အဆောက်အအုံတစ်ခုဖြစ်ဖွယ်ရှိသည့် စေတီတော်မြတ်ကြီးအား တအံ့တသြ ဖူးမြော်ကြရသည်။ ဘုရားဖူး ရဟန်းတော်များ မဇ္ဈိမဒေသသို့ ရောက်ရှိသွားချိန်တွင် အဖော်ရဟန်းတော်နှစ်ပါး ပျံလွန်တော်မူသွားကြပြီး ဖာဟီယန်နှင့် ၎င်း၏မိတ်ဆွေ တာအိုချင် (Ta-oChing)တို့ နှစ်ဦးမျှသာ ခရီးဆက်ရန် ကျန်ရှိကြတော့သည်။ ဤရဟန်းတော်နှစ်ပါးသည် ဘုန်းတော်ကြီးကျောင်းတိုက်များ ဘုရားကျောင်းများနှင့် မဇ္ဈိမဒေသတစ်ခွင်ရှိ ဗုဒ္ဓရှင်တော်မြတ်နှင့် ပတ်သက်သည့် နေရာဒေသများသို့ သွားရောက်ကြသည်။ ပတ္တနားတွင် သက္ကတကျမ်းစာများနှင့် သက္ကတဘာသာစကားများကို သင်ယူရင်း ဝိနယကျမ်းစာကို ကူးယူလျက် သုံးနှစ်ကြာသွားကြသည်။

ခရီးဆက်ရန် အချိန်ကျရောက်သောအခါ တာအိုချင်က ဖာဟီယန်အား ဓမ္မကိုနားလည်ပြီး ကောင်းစွာကျင့်ကြံ အားထုတ်ရာ (ဤ)မဇ္ဈိမဒေသတွင် ကျန်ရစ်လိုကြောင်း ပြောဆိုသည်။ သို့ဖြစ်၍ ဖာဟီယန်သည် တစ်ဦးတည်း ဝမ်းနည်းစွာ ခရီးဆက်ခဲ့သည်။ ဖာဟီယန်သည် တမရာ



လိပတိ (ဆိပ်ကမ်းမြို့)တွင် ပါဠိတော်များကူးယူရင်း နောက်ထပ် နှစ်နှစ်ကြာသွားသည်။ ၎င်းနောက် (အိန္ဒိယ) အရှေ့ဘက်ကမ်းခြေမှ သီရိလင်္ကာသို့ ကုန်သင်္ဘောဖြင့် လိုက်ပါသွားခဲ့သည်။ ဖာဟီယန်သည် သီရိလင်္ကာနိုင်ငံ၌ အိန္ဒိယမှာကဲ့သို့ပင် ဗုဒ္ဓသာနာတော် ထွန်းကားနေသည်ကို တွေ့ရပြီး ထိုအချိန်က တရုတ်နိုင်ငံတွင်မရှိသေးသော ဒီဃနိကာယ်၊ သံယုတ္တနိကာယ်နှင့် အခြားပါဠိတော်မူများကို ရရှိလေသည်။

တစ်နေ့သ၌ ရဟန်းတော်ဖာဟီယန်သည် ကျောင်းတိုက်တစ်ခုသို့ လည်ပတ်စဉ် ဘုရားခန်းအတွင်း တရုတ်ပြည်လုပ် ယပ်တောင်တစ်ခုကို လှူဒါန်းနေသည့် ဘုရားရှိခိုးဝတ်ပြုသူ တစ်ယောက်ကို တွေ့ရသည်။ ရဟန်းတော်ဖာဟီယန်သည် ယခုအခါတွင် အမိတရုတ်နိုင်ငံမှ နှစ်ပေါင်းများစွာ ဝေးကွာနေခဲ့ပြီးဖြစ်သဖြင့် ရုတ်တရက်မိမိချစ်မြတ်နိုးသည့် အမိမြေကို သတိရခြင်းသည် နှလုံးသားအတွင်း လွှမ်းမိုးသွားပြီး မျက်လုံးအိမ်တွင် မျက်ရည်များ ပြည့်လျှံသွားသည်။ အမိမြေသို့ ပြန်ချိန်တန်ပေပြီ။ မကြာမြင့်မီပင် ရဟန်းတော်ဖာဟီယန်သည် သင်္ဘောသားနှစ်ရာနှင့်အတူ ဂျာဗားကျွန်းသို့ ထွက်ခွာမည့်သင်္ဘောနှင့် လိုက်ပါခဲ့သည်။ သင်္ဘောသည် ဆိပ်ကမ်းမှထွက်ခွာ၍ နှစ်ရက်ကြာပြီးနောက် လေမုန်တိုင်းမိပြီး အက်ကွဲသွားသည်။ ခရီးသွားများသည် သင်္ဘောနစ်မသွားစေရန် ဆောက်ရွက်သည့်အနေဖြင့် ကုန်စည်များကို ရေထဲသို့ပစ်ချကြသည်။ ရဟန်းတော်ဖာဟီယန်သည်လည်း သင်္ဘောသားများက မိမိနှစ်ပေါင်းများစွာ စုဆောင်းကူးယူခဲ့ရသည့် အဖိုးတန်ကျမ်းဂန်များကို စွန့်ပစ်ဖို့မပြောနိုင်စေရန် မျှော်လင့်ချက်ဖြင့် မိမိကိုယ်ပိုင် ပစ္စည်းများကို ပင်လယ်ထဲသို့ ပစ်ချလိုက်သည်။

ရဟန်းတော်ဖာဟီယန်သည် ဤမျှခရီးရောက်ခဲ့ပြီး အခက်အခဲများစွာကို ကြံ့ကြံ့ခံလျက် အန္တရာယ်ပေါင်းများစွာကြောင့် အသက်ရှင်ကျန်ရစ်ပြီးသည့်နောက်တွင် မိမိ၏အသက်မဆုံးရှုံးစေရန် အဝလောကိတေသွာရ (ဘုရားလောင်း)ထံ၌ အနူးအညွတ် တောင်းပန်လေသည်။ လေမုန်တိုင်းသည် ဆယ့်သုံးရက်တိုင်တိုင် တိုက်ခတ်လျက် နောက်ဆုံး

ရဟန်းတော် ဟူယင်ဆန်သည် သဲကန္တာရကို ဖြတ်ပြီးနောက် ယခုခေတ် ရုရှား၊ ဗာမိယန် (Bamiyan)၊ ကဗူး၊ ပက်ရှဝါဒေသများတွင် ရှိသည့် တာ့ရှ်ကင့် (Tashkent)၊ ဆမာကန် (Samarkan) နှင့် ယခုခေတ် အာဖဂန်နစ္စတန် နိုင်ငံထဲတွင်ရှိသည့် လာဟိုရီ (Lahore) ဒေသများကို ဖြတ်ကျော်ခဲ့သည်။ ဟူယင်ဆန်သည် ထိုဒေသများအားလုံးတွင် ဗုဒ္ဓသာသနာတော် ထွန်းကားနေသည်နှင့် ကြုံရသည်။ မယုံကြည်နိုင်လောက်သော အခက်အခဲများနှင့် အန္တရာယ်များကို ကျော်လွှားပြီးနောက် ဟူယင်ဆန်သည် နောက်ဆုံး၌ မဇ္ဈိမဒေသသို့ ဆိုက်ရောက်သွားသည်။ ရဟန်းတော် ဟူယင်ဆန်အဖို့ ဗုဒ္ဓဝင်နေရာတော်များသို့ သွားရောက်လှည့်လည်စဉ်မှာပင် အန္တရာယ်နှင့် ကြုံတွေ့ရသေးသည်။

အခါတစ်ပါး၌ အယုဒ္ဓယမြို့ကို သွားရောက်ပြီးနောက် မြစ်အကြေအရပ်သို့ (အဆင်းတွင်) ရဟန်းတော်ဟူယင်ဆန် စီးနင်းလိုက်ပါသည့် လှေကို ဓားပြများ လုယက်တိုက်ခိုက်သည်။ ဓားပြများသည် လှေကို ကမ်းစပ်သို့ ကြိုးဖြင့်ဆွဲယူပြီး ထိတ်လန့်ကြောက်ရွံ့နေကြသည့် ခရီးသွားများထဲမှ အဖိုးတန်ပစ္စည်းများကို လိုက်လံရှာဖွေကြသည်။ ဓားပြများသည် ဟိန္ဒူနတ်သမီး ဒူရဂါ (Durga)ကို ကိုးကွယ်သူများဖြစ်ကြသဖြင့် ဟူယင်ဆန်၏ တင့်တယ်လှပသည့် အသားအရေကို တွေ့မြင်ကြခြင်း၌ ၎င်းတို့သည် ဟူယင်ဆန်ကို (သတ်ဖြတ်၍) နတ်သမီးအား ယဇ်ပူဇော်သင့်၏ဟု ဆုံးဖြတ်ကြသည်။ ဓားပြများ၏ ကြံရွယ်ချက်ကို ထိတ်လန့်နေသည့် ဟူယင်ဆန် သိသွားသောအခါ ကြောက်ရွံ့ရွံ့ဖြင့် ဤသို့ဆိုလိုက်၏ 'အကယ်၍ အသုံးမကျဘဲ အညစ်အကြေးတွေ ပြည့်နေသည့် ငါ့ခန္ဓာကိုယ်သည် မောင်တို့ရည်ရွယ်သည့် ယဇ်ပူဇော်မှုအတွက် အမှန်တကယ် သင့်တော်သည်ဆိုလျှင် ငါ၏ဤခန္ဓာကိုယ်ကို မတွန့်တိုပါ။ သို့ရာတွင် ဝေးကွာလှသောဒေသမှ ဤအရပ်သို့ လာခြင်းအတွက် ငါ့ရည်ရွယ်ချက်မှာ မဟာဗောဓိ (စေတီတော်အတွင်းရှိ) ဆင်းတုတော်နှင့် ဂိဇ္ဈကုဋ်တောင် (ပေါ်ရှိ) ဆင်းတုတော်ကို ဖူးမြော်ရန်၊ ပိဋကတ်ကျမ်းဂန်များနှင့် ဗုဒ္ဓဓမ္မကို ရယူရန်ဖြစ်ပြီး ငါ့ရည်ရွယ်ချက် မပြည့်



ယန်သည် ပြည်ပတွင် ၁၄–နှစ် ကြာသြောင်းခဲ့ပြီဖြစ်သည်။ ဖာဟီယန်သည် မိမိ၏ဂန္ထဝင်မြောက် ခရီးစဉ်မှတ်တမ်းကိုရေးခဲ့ပြီး ကျန်ရှိသေးသော ၎င်း၏ ဘဝသက်တမ်းကို ၎င်းနှင့်အတူ သယ်ယူလာခဲ့သည့် ကျမ်းဂန်များကို ဘာသာပြန်ဆိုရင်း ကုန်လွန်စေသည်။ နောက်ဆုံး အသက်ရှစ်ဆယ်အရွယ်၌ ရဟန်းတော် ဖာဟီယန် ကွယ်လွန်သည်။

ရဟန်းတော်ဖာဟီယန်သည် သတ္တိပြောင်မြောက်သော ခရီးသွားရဟန်းတော် တစ်ပါးဖြစ်သည်သာမက ၎င်း၏ ရိုးသားမှန်ကန်မှု၊ အပြောအဆိုအပြစ်ကင်းမှုနှင့် ရတနာသုံးပါးအား အလေးအနက်ယုံကြည်မှုတို့ကြောင့် ဖာဟီယန်ကို သိကျွမ်းသူအားလုံးက ချစ်မြတ်နိုးကြသည်။ ဖာဟီယန် သီတင်းသုံးတော်မူရာ ကျောင်းတိုက်ရှိ သီတင်းသုံးဖော်များအား ဖာဟီယန် (ပြောပြ)ထားသည့် စိတ်ထဲတွင် စွဲထင်ဖွယ်(ဖြစ်ရပ်)များကို သီတင်းသုံးဖော် ရဟန်းတော်တစ်ပါးက အောက်ပါ စကားလုံးများဖြင့် ပြန်ပြောင်း ဖော်ပြထားခဲ့သည် -

'ကျွန်ုပ်တို့ ရဟန်းတော်ဖာဟီယန်အား ကြိုဆိုခဲ့သည်မှာ သက္ကရာဇ် ၄၁၆–ခုနှစ်၊ ယင် (Tsin) မင်းဆက်မှ ယိရှီ (Yihsi) (ဘုရင်)၏ တစ်ဆယ့်ခြောက်နှစ်မြောက် နွေရာသီဥပုသ်စောင့်သုံးမှု အပြီးတွင် ဖြစ်သည်။ ရဟန်းတော်ဖာဟီယန် ကျွန်ုပ်တို့နှင့်အတူ တရားဓမ္မ ဟောကြားလျက်နေထိုင်စဉ် ကျွန်ုပ်တို့က ဖာဟီယန်၏ ခရီးစဉ်အကြောင်းကို ထပ်ခါထပ်ခါ မေးမြန်းကြသည်။ ဖာဟီယန်သည် အမှန်အတိုင်းပြောဆိုပြီး ဟန်မဆောင်သူ ဖော်ရွေသူ တစ်ယောက်ဖြစ်ကြောင်း တွေ့ရသည်။ သို့ဖြစ်၍ ကျွန်ုပ်တို့က ရဟန်းတော်ဖာဟီယန်အား ၎င်းယခင်က အကျဉ်းချုပ်မျှ ပြောပြထားသည့် (ခရီးစဉ်)နှင့်ပတ်သက်၍ ပိုမိုအသေးစိတ်ပြောပြရန် တိုက်တွန်းကြသည်။ သို့ဖြင့် ဖာဟီယန်သည် တစ်ဖန်ထပ်၍ ၎င်း၏အကြောင်းကို အစမှအဆုံးတိုင် ပြန်ပြောင်းပြောပြသည်။ ဖာဟီယန်က ''ကျွန်ုပ်တွေ့ကြုံခဲ့ရသည့်အရာ အားလုံးကို ပြန်လည်စဉ်းစားကြည့်လိုက်သည့်အခါ ကျွန်ုပ်၏နှလုံးသား လှုပ်ရှားလာပြီး ချွေးဒီးဒီးကျ၏။ ကျွန်ုပ်သည် ထိုအန္တရာယ်အားလုံးကို မိမိ၏ကိုယ်ကျိုးအတွက် ကြိ

ရှယ်ချက်ကြောင့် ကျော်လွှားနိုင်ခဲ့သည် မဟုတ်ချေ။ မပြောင်းလဲသော ရည်ရွယ်ချက်ရှိပြီး ရိုးသားသူဖြစ်ခြင်း၊ တစ်ခုတည်းသော စိတ်ထား ရှိခြင်းတို့ကြောင့်သာ (ကျော်လွှားနိုင်ခဲ့ခြင်း) ဖြစ်သည်။ ထိုကြောင်းတရားကြောင့်ပင် သေကြေပျက်စီးရန် သေချာသလောက်ဖြစ်ပြီး အသက်ရှင်ကျန်ရစ်ခြင်းအတွက် (အပုံ)တစ်သောင်းတွင် တစ်ခုတည်းသော (လွတ်မြောက်မှု) အခွင့်အလမ်းသာရှိသည့် ခရီးကို စတင်ခဲ့ခြင်း ဖြစ်သည်” ဟု မိန့်ဆိုသည်။

‘သူ (ရဟန်းတော်ဖာဟီယန်) ပြောပြချက်ကြောင့် ကျွန်ုပ်တို့ စိတ်လှုပ်ရှားရပါ၏။ ဤကဲ့သို့သော ပုဂ္ဂိုလ်ကား ယခင်ကရောယခုပါ ရှာမှရှားဖြစ်ပါ၏။ ကြီးမြတ်သော (ဗုဒ္ဓ)ဝါဒသည် အရှေ့ဘက်သို့ ခရီးနှင်ခဲ့စဉ်ကတည်းက ကိုယ်ကျိုးမဖက်ဘဲ ဓမ္မကိုရှာဖွေခြင်းတွင် ဖာဟီယန်နှင့်တူသူ တစ်ဦးတစ်လေမျှ မရှိဖူးပါချေ။ ဖာဟီယန်၏ စံနမူနာဖြင့် ကျွန်ုပ်တို့သည် ရိုးသားသည့်နှလုံးသားရှိသူအား အရာခပ်သိမ်းဖြစ်နိုင်ကြောင်းနှင့် အကယ်၍ ခိုင်မြဲသော ဆုံးဖြတ်ချက်ရှိလျှင် အရာခပ်သိမ်း ပြီးမြောက် အောင်မြင်နိုင်ကြောင်း သိရပါသည်။ သို့အတွက် ဖာဟီယန်သည် အခြားပုဂ္ဂိုလ်များ တန်ဖိုးထားသည်ကို စွန့်လွှတ်ပြီး အခြားပုဂ္ဂိုလ်များ စွန့်လွှတ်သည်ကို တန်ဖိုးထားသောကြောင့် အောင်မြင်ခဲ့သည်ဟု ဆိုလျှင် မမှန်ပေဘူးလား’။

**တရုတ်ရဟန်းတော် ဟူယင်ဆန်** (Huien Tsiang)

ရဟန်တော်ဖာဟီယန်၏ စံနမူကြောင့် စိတ်အားထက်သန်သွားပြီး အိန္ဒိယသို့ သွားရောက်ခဲ့သူ အခြားသောဘုရားဖူး တစ်ယောက်မှာ ထင်ရှားကျော်ကြားလှသည့် ရဟန်းတော် ဟူယင်ဆန်ဖြစ်သည်။ ရဟန်းတော်ဟူယင်ဆန်သည် အေဒီ ၆၀၄–ခုနှစ်တွင် ဘာသာတရားကိုင်းရှိုင်းသည့် မိသားစုတစ်ခု၌ မွေးဖွားခဲ့ပြီး ငယ်စဉ်ကပင် သာသနာ့ဘောင်သို့ဝင် ရောက်ခွင့်ရခဲ့သည်။ အသက်နှစ်ဆယ် မတိုင်မီအတွင်း ဟူယင်ဆန်သည် ၎င်း၏ကျယ်ပြန့်သော ပညာဉာဏ်ကို အကြောင်းပြု၍ ကျော်ကြားမှုရရှိခဲ့သည်။ အသက် ၂၆–နှစ်တွင် အိန္ဒိယသို့သွားရောက်ပြီး ဗုဒ္ဓစာပေ



ကျမ်းဂန်များကို စုဆောင်းရန်၊ အိန္ဒိယပညာရှင်များထံမှ ဓမ္မကို သင်ယူလေ့လာရန်နှင့် ဗုဒ္ဓဝင်နေရာတော်များသို့ သွားရောက်ဖူးမြော်ရန် ဆုံးဖြတ်ခဲ့သည်။ ဟူယင်ဆန်သည် ဘုရင့်တရားရုံးတွင် တရုတ်ပြည်မှ ထွက်ခွာခွင့်လျှောက်လွှာ တင်လိုက်သည်။ ယင်းလျှောက်လွှာ ငြင်းပယ်ခံရသောအခါ တိတ်တဆိတ် ထွက်ခွာရန် ဆုံးဖြတ်ခဲ့သည်။

ရဟန်းတော် ဟူယင်ဆန်သည် တရုတ်ပြည်အနောက်ဖျား နယ်စပ်ဒေသသို့ ရောက်သွားသောအခါ ၎င်း၏ စီးတော်မြင်းသေဆုံးသွားသည်။ ဟူယင်ဆန်နှင့် အတူလိုက်ပါလာကြသည့် ရဟန်းတော်နှစ်ပါးသည် (ရှေ့ဆက်မည့်) ခရီးစဉ်နှင့်ပတ်သက်၍ သံသယစကား အလေးအနက် မြွက်ဆိုလာကြပြီး ပြန်လှည့်ရန်ပြောကြားကြသည်။ ထိုဒေသကို အုပ်ချုပ်သူ (မြို့စား)က ရှေ့တွင်ရှိသည့် နယ်မြေအကြောင်း ပြောပြသောအခါ ဟူယင်ဆန်၏ စိတ်နှလုံးတို့ ထိခိုက်ရသည်။ အဖော်ရဟန်းတော် နှစ်ပါးမှာမူ ဟူယင်ဆန်အား ထားပစ်ခဲ့ကြသဖြင့် ဟူယင်ဆန်သည် ဘာဆက်လုပ်ရမည်ကို စဉ်စားရင်း ကွာချော (Kwachow) မြို့တွင် တစ်လလုံးလုံး သောင်တင်နေသည်။ ထိုစဉ် ဘုရင်ဧကရာဇ်ထံမှ မြို့စားထံသို့ ရဟန်းတော်တစ်ပါး တရုတ်ပြည်မှထွက်ပြေးရန် ကြိုးစားနေကြောင်းနှင့် အကယ်၍တွေ့လျှင် ထိုရဟန်းတော်အား ဖမ်းထားပြီး ပြန်လည်ပို့ပေးရန် အမိန့်စာချွန် ရောက်လာသည်။ ထိုအခါမြို့စားက ရဟန်းတော်ဟူယင်ဆန်အား အမိန့်စာချွန်တွင်ပါသူ ဟုတ်မှန်ပါသလား ဟုမေးလျှောက်သည်။ ဟူယင်ဆန်က ဟုတ်မှန်ကြောင်း ဖြေကြားသောအခါ ဗုဒ္ဓသာသနာကို နက်ရှိုင်းစွာကိုးကွယ်သူ မြို့စားသည် မျက်လွှာချထားသည့် ရဟန်းတော်အား ‘အရှင်မြတ်သည် ဤကဲ့သို့ သောအစီအမံအတွက် အမှန်တကယ် စွမ်းဆောင်နိုင်သူ ဖြစ်သောကြောင့် တပည့်တော်သည် အရှင်မြတ်အတွက် ဤအမိန့်စာချွန်ကို ဖျက်ဆီးလိုက်ပါမည်’ ဟုလျှောက်ထားပြီး ရဟန်းတော်၏ရှေ့မှောက်မှာပင် အမိန့်စာချွန်ကို ဆုတ်ပစ်လိုက်သည်။ ‘ကဲ အရှင်ဘုရား၊ မြန်မြန်သာ ကြွတော်မူပါဘုရား’ ဟု မြို့စားက လျှောက်ထားသည်။

**တိဗက်ရဟန်းတော်အရှင်ဓမ္မသာမိ** (Dharmasvamin)

တိဗက်ရဟန်းတော် အရှင်ဓမ္မသာမိသည် အေဒီ ၁၃–ရာစုတွင် (အိန္ဒိယ) ဗုဒ္ဓဝင်နေရာတော်များ ဖျက်ဆီးခြင်းမခံရမီ အိန္ဒိယသို့ နောက်ဆုံး ရောက်ရှိခဲ့သည့် ဘုရားဖူးပုဂ္ဂိုလ်ဖြစ်ဖွယ်ရှိသည်။ တိဗက်ဗုဒ္ဓဘာသာဝင် များသည် ဘုရားဖူးရန်နှင့်ပညာသင်ယူရန် မဇ္ဈိမဒေသသို့ ရာစုနှစ်ပေါင်း များစွာ(ပတ်လုံး) သွားရောက်နေခဲ့ကြခြင်းဖြစ်သည်။ သို့ရာတွင် အရှင် ဓမ္မသာမိတစ်ပါးတည်းသာ မိမိခရီးစဉ်နှင့်ပတ်သက်၍ မှတ်တမ်းကျန် ရစ်သည်။ ထိုခရီးစဉ်အသေးစိတ်ကို အရှင်ဓမ္မသာမိက မိမိ၏အတ္ထုပ္ပတ္တိ ကိုရေးသူ ဥပါသကာ ချိုးစ်ဒါရ် (Chos-dar) အား ပြောပြခဲ့သည်။

အရှင်ဓမ္မသာမိသည် ဗုဒ္ဓစာပေကျမ်းဂန်များကို သင်ယူသကဲ့သို့ ဆေးပညာ၊ ပန်းပုပညာ၊ ဗိသုကာပညာများကိုလည်း လေ့လာဆည်းပူး သည်။ အရှင်ဓမ္မသာမိ၏ အတ္ထုပ္ပတ္တိကိုရေးသူက အရှင်ဓမ္မသာမိ အသိ ပညာသင်ယူမှုကို မြတ်နိုးလိုစိတ်မှာ အသက် ၁၇–နှစ်နှင့် ၄၅–နှစ် အတွင်း အရှင်မြတ်သည် ဖောင်တိန်၊ မင်နှင့် မိမိလက်ကို မကွဲကွာ စေရန် တောင်းဆုဆိုထားသည်အထိပင် ကြီးမားလှကြောင်း ဆိုထား သည်။ အရှင်ဓမ္မသာမိ စာပေလေ့လာရန် မထွက်ခွာမီ နီပေါနိုင်ငံရှိ သယမ္ဘူစေတီတော်၌ ဗုဒ္ဓဂယာသို့ ဘုရားဖူးမရောက်မချင်း အမိနိုင်ငံသို့ မပြန်ရန်လည်း အဓိဋ္ဌာန်ပြုခဲ့သည်။ ရှစ်နှစ်ကြာ ပညာသင်ကြားမှု ပြီး ဆုံးသောအခါ အိန္ဒိယနိုင်ငံသို့ သွားရောက်မည့် ရည်ရွယ်ချက်ကို သီ တင်းသုံးဖော်များအား ဖော်ပြလိုက်သည်။ သီတင်းသုံးဖော်ရဟန်းများ က ယင်းသို့သောခရီးကို သွားခြင်းမှာ အသက်ကိုစွန့် လိုက်ခြင်းပင် ဖြစ်ကြောင်းပြောပြလျက် ဓမ္မသာမိအား (မသွားရန်) ဖျောင်းဖျကြသည်။ သို့ရာတွင် ၎င်း၏ဆရာ (မထေရ်)က ‘အိန္ဒိယကို သွားသော်လည်း သင့် မှာ အန္တရာယ်ရှိလိမ့်မည်မဟုတ်။ တို့သားအဖ (တပည့်နှင့်ဆရာ) ကောန် မုချ ပြန်လည် တွေ့ဆုံကြရလိမ့်ဦးမည်’ ဟု အားပေးစကားဆိုသည်။

သို့ဖြင့် အေဒီ ၁၂၃၄–ခုနှစ်၊ အသက် ၃၇–နှစ် အရွယ်တွင် အရှင် ဓမ္မသာမိ မဇ္ဈိမဒေသသို့ ထွက်ခွာခဲ့သည်။ ထိုအချိန်တွင် မဇ္ဈိမဒေသကြီး



စုံသေးသောကြောင့် ငါ့ကျေးဇူးရှင် မောင်တို့အနေဖြင့် ငါ့ကိုသတ်လျှင် မောင်တို့ဆီ ကြမ္မာဆိုး ရောက်လာမည်ကို ငါစိုးရိမ်ပေ၏’။

ဓားပြများသည် ရဟန်းတော် ဟူယင်ဆန်၏ ပြောစကားများကို ဂရုမစိုက်သည့်အပြင် အခြားခရီးသည်များ၏ အသနားခံတောင်းပန်ခြင်း ကိုလည်း နားမထောင်သဖြင့် ယဇ်ပူဇော်မှု (မပြုရန်) ဓားပြများအား မဟန့်တားနိုင်ကြချေ။ ရဟန်းတော်ဟူယင်ဆန်သည် မိမိ (ဘဝ)၏ နောက်ဆုံးအချိန်အတွက် စိတ်ကို တည်ငြိမ်စွာ ထားလိုက်ချိန်တွင် ရုတ်တရက် လေပြင်းတိုက်ခတ်လာပြီး အနီးအနားရှိ သစ်ပင်အချို့ လဲ ကျလျက် မြေမှုန်များ(ထအောင်) ဖွေ့ယမ်းပစ်လိုက်သည်။ ဤဖြစ်ရပ်ကို အယူသည်း သူခိုးဓားပြများက မကောင်းဆိုးရွား တစ်ရပ်ဟုယူဆပြီး ဟူယင်ဆန်နှင့် ခရီးသည်များအား လွှတ်ပေးလိုက်သည်။ (ဟူယင်ဆန် အပါအဝင်) ခရီးသည်များသည် လွန်စွာ စိတ်သက်သာရာရသွားကြပြီး ခရီးဆက်ရန် အခွင့်သာသွားကြသည်။

နောက်ဆုံး၌ ဟူယင်ဆန်သည် နာလန္ဒာ (တက္ကသိုလ်)သို့ ဆိုက် ရောက်သွားပြီး စာပေသင်ယူခြင်း၊ သင်ကြား ပို့ချပေးခြင်းဖြင့် ငါးနှစ် ကြာ (အေဒီ ၆၃၅–၆၄၀) နေထိုင်သည်။ နာလန္ဒာတွင် နေထိုင်စဉ် အတွင်း ဗုဒ္ဓဂယာနှင့် အခြားသော အိန္ဒိယဒေသများသို့ အခါအားလျော် စွာ သွားရောက်ခဲ့သည်။ ဟူယင်ဆန်၏ နက်နဲသော အသိပညာသည် ဟူယင်ဆန်အား စာသင်သားများနှင့် ဆရာသမားများ၏ လေးစားမှုကို တိုးမြင့်စေသည်။ နောက်ဆုံး၌ ဟူယင်ဆန်က မိမိ၏ တရုတ်ပြည်သို့ ပြန်ရန် ရည်ရွယ်ချက်ကို ကြေညာလိုက်သောအခါ (ကျောင်းသားများ ရော ဆရာများပါ) ဟူယင်ဆန်အား သွားခွင့်မပြုလိုဘဲ ရှိကြသည်။ ထို သတင်းကို ကြားရသည့် ရဟန်းတော်များအားလုံး ဟူယင်ဆန်ထံ စုရုံး ရောက်ရှိလာကြပြီး (နာလန္ဒာတွင်) ဆက်လက်သီတင်းသုံးရန် တောင်း ပန်ကြသည်။ ဟူယင်ဆန်အား ဖျောင်းဖျရန် မစွမ်းနိုင်ကြသဖြင့် ရဟန်း တော်များသည် ဟူယင်ဆန်ကို ၎င်း၏ဆရာဖြစ်သူ သီလဘဒ္ဒမထေရ်ထံ ခေါ်ဆောင်သွားကြသည်။ ဆရာမထေရ်က အဘယ် အကြောင်းကြောင့်

ခွဲခွာလိုသနည်းဟု မေးမြန်းသည်တွင် ဟူယင်ဆန်က နူတ်လျှာ ကောင်းကောင်းဖြင့် ဤသို့စိတ်ဝင်စားဖွယ် ဖြေကြားလျှောက်ထားသည် ‘ဤနိုင်ငံသည်ကား ရှင်တော်ဗုဒ္ဓ ဖွားမြင်တော်မူ သည့်နေရာဖြစ်ပါသည်။ သို့ဖြစ်၍ ဤ(ရှင်တော်ဗုဒ္ဓ)နယ်မြေအား ချစ်ခင်နှစ်သက်သည်သာဖြစ်ပါသည်။ (တပည့်တော်) ဟူယင်ဆန် ဤနိုင်ငံသို့လာရောက်ခြင်း၏ တစ်ခုတည်းသော ရည်ရွယ်ချက်မှာ မိမိ(တရုတ်)လူမျိုးများ၏ ကောင်းကျိုးချမ်းသာအတွက် မြင့်မြတ်သော သစ္စာဓမ္မကို သင်ယူရန်ဖြစ်ပါသည်။ တပည့်တော် (ဟူယင်ဆန်) ဤအရပ်သို့ ရောက်ကတည်းက (ဆရာဖြစ်သူ) အရှင်ဘုရားသည် ယောဂါစာရဘူမိသျှတ္တရကျမ်းကို ရှင်းပြရန်နှင့် သံသယရှိသည့် စာပိုဒ်များကို စုံစမ်းလေ့လာရန် (ဟူသော) တပည့်တော်၏ကိစ္စကို ချီးမြှောက်ပြီးဖြစ်သည့်ပြင် ဂိုဏ်းဂဏအသီးသီးမှ သင်ကြားချက်များကိုလည်း ကြားနာပြီးဖြစ်ပါသည်။ တပည့်တော်၏စိတ်သည် အလွန်ပျော်ရွှင်ပြီး ဤနေရာသို့ တပည့်တော်၏ လာရောက်ခြင်းမှာ အလွန့်အလွန်အကျိုးရှိပါကြောင်း တပည့်တော် အလေးအနက်လျှောက်ထားပါသည်ဘုရား။ ယခုအခါတွင် တပည့်တော်သည် (အမိနိုင်ငံသို့) ပြန်သွားပြီး (ဆရာအရှင်ထံမှ) တပည့်တော် သင်ယူထားသည်များကို အခြားပုဂ္ဂိုလ်များအားလည်း ဘာသာပြန်ဆိုရှင်းပြရန် ဆန္ဒရှိပါသည်။ ယင်း (တပည့်တော်၏သင်ကြားချက်)တို့ကို ကြားနာပြီး နားလည် သဘောပေါက်ခြင်းဖြင့် ၎င်းတို့လည်း တပည့်တော်ကဲ့သို့ပင် အရှင်ဘုရားအပေါ် ကျေးဇူးတင်စေလိုသည့် ဆန္ဒရှိပါသည်။ ဤအကြောင်းကြောင့် တပည့်တော်ပြန်သွားခြင်းကိစ္စကို နှောင့်နှေးရန်ရော ဤနေရာမှာ ဆက်လက်၍ နေထိုင်ရန်ပါ အလိုမရှိဘဲဖြစ်နေပါသည်။

သီလဘဒြမထေရ်သည် ဤလျှောက်ထားချက်အပေါ် အလွန် သဘောကျသွားပြီး သွားရမည့် ခရီးရှည်အတွက် ဟူယင်ဆန်အား ကူညီပြင်ဆင်ပေးကြရန် ရဟန်းတော်များအား မိန့်ကြားတော်မူသည်။ ဟူယင်ဆန်သည် အိန္ဒိယသို့ ကြမ်းတမ်းစွာ တစ်ကိုယ်တည်း ရောက်ရှိလာပြီး ယခုအခါ၌မူ တန်ဖိုး မဖြတ်နိုင်သည့် စာအုပ်များ၊ ဓာတ်တော်များနှင့် ဗုဒ္ဓဆင်းတုတော်များအပြည့်ဖြင့် လာလမ်းအတိုင်းပြန်ရန် ဆင်ပေါ်သို့ တက်လိုက်ပြီး မိတ်ဆွေများ ချီးမွမ်းဂုဏ်ပြုသူများနှင့်အတူ စတင်ခရီးထွက်ခွာသည်။ အပြန်ခရီးတွင် ဟူယင်ဆန်၏စီးတော်ဆင် သေဆုံးသွားခြင်း၊ အိန္ဒုမြစ်ကိုဖြတ်ကူးစဉ် စာအုပ်များအားလုံး ဆုံးရှုံးလုနီးပါး ကြုံရသည့် မတော်တဆဖြစ်မှုမှတစ်ပါး ထူးခြားသည့် အဖြစ်အပျက်မရှိချေ။



တရုတ်နိုင်ငံနယ်စပ်သို့ ဆိုက်ရောက်သောအခါ ဟူယင်ဆန်သည် မိမိရောက်ရှိလာကြောင်းသိစေရန် ဘုရင့်တရားရုံးသို့ သတင်းပေးပို့သူတစ်ယောက်အား ကြိုတင်စေလွှတ်လိုက်သည်။ ဟူယင်ဆန် လိုယန်း (Loyang)မြို့သို့ ရောက်သောအခါ ဟူယင်ဆန် မြို့ထဲသို့ဝင်ရောက်လာသည်ကို ကြည့်ရှုရန် လူအုပ်ကြီးစုရုံးရောက်ရှိလာသည်။ ဘုရင်ဧကရာဇ်က မိမိ၏ခွင့်ပြုချက်မရဘဲ တိုင်းပြည်မှထွက်ခွာသွားခြင်းအတွက် နူးညံ့ပျော့ပျောင်းစွာ ပြစ်တင်ဝေဖန်သည်။ ၎င်းနောက် ယခင်က အခြားမည်သည့် ရဟန်းတော်အား ဧည့်ခံခြင်းမျိုးနှင့်မတူအောင် ပြုစုချီးမြှောက်တော်မူသည်။ ဟူယင်ဆန်သည် တစ်ဆယ့်ငါးနှစ်တိုင်တိုင် တိုင်းပြည်မှ ထွက်ခွာခဲ့ပြီး မြင်းကောင်ရေ နှစ်ဆယ်ဖြင့် သယ်ယူခဲ့သည့် စာအုပ်ပေါင်း ၆၅၇–အုပ်နှင့်အတူ ပြန်လည်ရောက်ရှိလာခဲ့ပြီး ဟူယင်ဆန်တွင် ကိုယ်တိုင်ကြုံတွေ့ခဲ့ရသည့် အတွေ့အကြုံများ၊ ရရှိခဲ့သည့် စွန့်စားမှုများနှင့် ပတ်သက်သည့် ပြောပြစရာ အံ့သြဖွယ်ဖြစ်ရပ်ပေါင်းများစွာရှိသည်။ ဘုရင်တောင်းပန်မှုကြောင့် ဟူယင်ဆန်သည် မိမိ၏ (အိန္ဒိယ)ဘုရားဖူးခရီးစဉ် မှတ်တမ်းစာအုပ် တစ်အုပ် ရေးခဲ့သည်။ ယင်းစာအုပ်ကား ယနေ့တိုင် အေဒီခုနစ်ရာစုအတွင်း အာရှတိုက်အလယ်ပိုင်းနှင့် အိန္ဒိယအကြောင်း အရေးအကြီးဆုံးသော အချက်အလက်များ ရှိနေသေးသည်အထိ အလွန်အသေးစိတ် (ဖော်ပြထား)ပြီး အချက်အလက်မှန်များနှင့် ပြည့်နှက်နေသည့် မှတ်တမ်းစာအုပ်ကြီးဖြစ်သည်။

ဟူယင်ဆန်သည် မိမိအိန္ဒိယမှယူဆောင်ခဲ့သည့် ကျမ်းစာစုစုပေါင်း အုပ်ရေ ၂၀–မျှကို ဘာသာပြန်လျက် သူ၏ ကျန်ဘဝအစိတ်အပိုင်းကို ကုန်လွန်စေပြီး အေဒီ ၆၆၄–တွင် ငြိမ်းချမ်းစွာ ကွယ်လွန်သည်။

ကန်နင်ဟမ်သည် ၁၈၁၄–ခုနှစ်တွင် မွေးဖွားပြီး အိန္ဒိယသို့ ဒုတိယဗိုလ်မှူးကြီးအဆင့်ဖြင့် ရောက်လာသည်။ ကန်နင်ဟမ်သည် နေရာဌာန အတော်များများတွင် တက်ကြွစွာအမှုထမ်းခဲ့ပြီး နောင်အခါ စီစဉ်ညွှန်ကြားသူ၊ မြေတိုင်း(အရာရှိ)၊ အင်ဂျင်နီယာအဖြစ် ထင်ရှားခဲ့သည်။

(အိန္ဒိယသို့) ရောက်၍မကြာမီ သူသည် အိန္ဒိယ၏ အတိတ်ကာလကို စိတ်ဝင်စားမှု တိုးပွားလာသည်။ ၎င်း၏ ရှည်လျားသော အိန္ဒိယမြောက်ပိုင်း လွင်ပြင်ခရီးစဉ်များအတွင်း ကန်နင်ဟမ်သည် ထောင်ပေါင်းများစွာသော ဘုရားကျောင်းများ၊ ခံတပ်ဟောင်းများနှင့် အခြားရှေးဟောင်း အမှတ်တရနေရာများသို့ သွားရောက်လည်ပတ်ခွင့်ကို လုံးဝအလွတ်မခံခဲ့ပေ။ (ထိုဘုရားကျောင်းစသည်၏) တည်နေရာများကို မှတ်သားခဲ့သည်။ ထိုခေတ်က ရှေးဟောင်းသုတေသနပညာသည် မွေးကင်းစမျှသာဖြစ်၍ ရတနာသိုက် လိုက်လံရှာဖွေခြင်း၊ အုတ်ဂူများကို လုယက်ခြင်း (ဟူသောအခြေအနေ)မှ ခြေတစ်လှမ်း လှမ်းကာစမျှသာဖြစ်သော်လည်း ကန်နင်ဟမ်၏ အဓိကရည်ရွယ်ချက်မှာ အိန္ဒိယလူမျိုးများ ကိုယ်တိုင် လုံးဝ မသိကြသေးဘဲ အနောက်တိုင်းသားများလည်း ဝိုးတိုးဝါးတားမျှသာသိသေးသော အိန္ဒိယရှေးဟောင်းသမိုင်းကို ကောင်းစွာ နားလည်ရန် စစ်မှန်သည့်ဆန္ဒရှိပုံရသည်။

ထိုအချိန်က ရှေးဟောင်းသုတေသနပညာသည် အန္တရာယ်ရှိနိုင်ပြီး စိတ်တထင့်ထင့်ဖြင့် လိုက်လံရှာဖွေရသည့် အရာလည်းဖြစ်သည်။ လမ်းများသည် ကြမ်းတမ်း သို့မဟုတ် မရှိသေး။ ငှက်ဖျားရောဂါသည် တွေ့ရမြဲ အန္တရာယ်ဖြစ်သည်။ လုယက်တိုက်ခိုက်မှုများလည်း နေရာမရွေးမကြာ ခဏကြုံရ၏။ ကန်နင်ဟမ် သွားရောက်သည့် နေရာများတွင် ဒေသခံများက မကူညီကြရုံမက ၎င်းတို့က ထိုဒေသအတွင်းရှိ အပျက်အစီးများအကြောင်း ဟိုဟိုဒီဒီ မဟုတ်မမှန် လိမ်ညာ ပြောဆိုကြသည်။ အဆိုးဆုံးမှာ ပုဏ္ဏား တရားဟောဆရာ (ဟိန္ဒူဘုန်းကြီး) များဖြစ်ကြသည်။ ၎င်းတို့က အချိန်ကြာကြာ စွန့်ပစ်ထားသည့် မည်သည့်အပျက်အစီး သို့မဟုတ် ဆင်းတုတော်ကိုမဆို ကန်နင်ဟမ်အနေဖြင့် စိတ်ဝင်



တစ်ခုလုံး ဝရုန်းသုန်းကားဖြစ်နေသည်။ အနောက်ဖက်မှ ကျူးကျော်ဝင်ရောက်သူ မူဆလင်များသည် တည်ရှိဆဲအုပ်ချုပ်ရေးကို ဖျက်ဆီးပစ်လိုက်ကြပြီး ၎င်းတို့၏ခေါင်းဆောင်ဖြင့် အစားမထိုးရသေးသော အချိန်ဖြစ်သည်။ သူခိုးဂိုဏ်းများနှင့် လုယက်ဖျက်ဆီးရန် အာသာငမ်းငမ်းတက်နေကြသော တိုက်ခိုက်ရေးသမား မူဆလင်စစ်သားအုပ်စုများသည် လမ်းများ၌လူသူကင်းမဲ့စေပြီး မြို့ငယ်မြို့ကြီးများကိုပင် အန္တရာယ်ပြုနေကြသည်။ အရှင်ဓမ္မသာမိသည် ကုန်သည်သုံးရာ လူအုပ်နှင့်အတူလိုက်ပါခဲ့သည်။ ၎င်းတို့အနက် တစ်ဆယ့်ခြောက်ယောက်မှာ အရှင်ဓမ္မသာမိကဲ့သို့ပင် ဗုဒ္ဓဂယာသို့ ဦးတည်ကြသည်။ နောက်ဆုံးတွင် အရှင်ဓမ္မသာမိသည် သွားလိုသည့်ခရီး လမ်းဆုံး(ဗုဒ္ဓဂယာ)သို့ ဆိုက်ရောက်သွားခဲ့သော်လည်း တိုက်ခိုက်လုယက်လာမည့် အန္တရာယ်ကို ရှောင်လွှဲရန် ထွက်ပြေး၍သာနေရတော့သည်။ အန္တရာယ် ကင်းဝေးသွားသောအခါ အရှင်ဓမ္မသာမိ ပြန်လာပြီး ကမ္ဗဋ္ဌာန်းထိုင်ခြင်း၊ ဘုရားရှိခိုးခြင်း၊ ဗုဒ္ဓဝင်နေရာတော်များကို ဖူးမြော်ခြင်းတို့(အပြင်) သက္ကတဘာသာစကားပြောတတ်သဖြင့် ဘုရားဖူးရဟန်းအဖွဲ့အား ဘာသာပြန်ပေးသူအဖြစ် ဆောင်ရွက်ခြင်းဖြင့် သုံးနှစ်တာ ကုန်လွန်သွားသည်။

ဗုဒ္ဓဂယာတွင် နေထိုင်ပြီးနောက် အရှင်ဓမ္မသာမိသည် ရာဇဂြိုဟ်နှင့် နာလန္ဒာတို့သို့ သွားရောက်သည်။ နာလန္ဒာတွင် အသက် ၉၀–အရွယ်ရှိ နာလန္ဒာတက္ကသိုလ်ကျောင်းအုပ်ကြီး ပညာရှင် ရာဟုလသိရိဘဒြမထေရ်ထံ၌ ပညာသင်ယူသည်။ သို့ရာတွင် နာလန္ဒာ၏ အေးချမ်းတည်ငြိမ်သော စာပေသင်ကြားရာ ပတ်ဝန်းကျင်သည် မကြာမီ နာကျင်ရိုင်းပျစွာ ပြိုကွဲ ပျက်စီးသွားခဲ့သည်။ မူဆလင် ကျူးကျော်သူများသည် နာလန္ဒာ အရှေ့ဘက် တစ်နေ့တာခရီး၌ တည်ရှိသော ဩဒန္တပူရီတက္ကသိုလ်ကို ဖျက်ဆီးပစ်ကြပြီး ဖြစ်သည်။ ယင်းတက္ကသိုလ်ကို ၎င်းတို့၏ အခြေကုပ်စစ်စခန်းအဖြစ် အသုံးချထားသည်။ ရာဟုလသိရိဘဒြ၏ တပည့်တစ်ပါးသည် ကျူးကျော်သူများ၏လက်တွင် ဖမ်းဆီးခြင်းခံနေရသော်လည်း ရန်သူတို့ မကြာမီ နာလန္ဒာကို စီးနင်းတိုက်ခိုက်ရန် စီစဉ်နေကြကြောင်း

လျှို့ဝှက်သတင်းကို ဆရာဖြစ်သူ ရာဟုလသိရိဘဒြထံသို့ တိတ်တဆိတ် ပို့ပေးနိုင်ခဲ့သည်။ တပည့်အားလုံးသည် ဆရာမထေရ်အား ထွက်ပြေးရန် တောင်းပန်ကြသည်။ မထေရ်ကြီးက ငြင်းဆိုသဖြင့် စာသင်သား ရဟန်းတော်များမှာ ၎င်းတို့ဘာသာ ရှောင်တိမ်း ထွက်ပြေးသွားကြသည်။ ထိုဆရာမထေရ်အိုနှင့် ဓမ္မသာမိတို့နှစ်ပါးသာ ကျန်ခဲ့ကြသည်။

'ဆရာမထေရ်က ဤသို့ဆို၏ ''မောင်တိဗက်၊ ငါနှင့်နေရစ်ရင် သင်မိုက်ရာ မကျပေဘူးလား။ ဒေသခံတွေနှင့် တပည့်တွေအားလုံး ထွက်ပြေးကုန်ကြပြီ။ ထွက်မပြေးလျှင် သင်လည်းပဲ အသတ်ခံရပေလိမ့်မည်''။ ယင်းသို့ ဆရာမထေရ်ကြီးက ပြစ်တင်ဝေဖန်သည်။ ဓမ္မသာမိက ''အသတ်ခံရမည်ဖြစ်ပေမယ့် တပည့်တော်ထွက်မပြေးတော့ပါ ဘုရား''ဟု ဖြေကြားသည်။ ဆရာမထေရ်သည် နှစ်သက်သွားပြီး ''သင်ဟာ သင့်ရဲ့ အဓိဋ္ဌာန်ချက်ကို မဖျက်ဘဲနေသပ။ သင့်ရဲ့ ဝန်ထုပ်ဝန်ပိုးကား ကြီးလေးလှပေ၏။ အခုအသင်က ငါ့ကိုချီမပြီး ယူမည်ဆိုလျှင် သင် ထွက်ပြေးမလား'' (ဟု ဆိုပြန်သည်)။ ''အကယ်၍ ဆရာအရှင် သွားရင် တပည့်တော်တို့နှစ်ပါးလုံး ထွက်ပြေးနိုင်တာပေါ့''။ ဤသို့ဖြင့် ဓမ္မသာမိသည် ဆရာမထေရ်အား ပခုံးပေါ်ထမ်းရွက်ပြီး ပြေးလေသည်။ ကျောက်တိုင်တစ်ခုကို ပတ်လှည့်ပြီးသောအခါ ဆရာမထေရ်က ''တို့ (ရန်သူ့လက်မှ) လွတ်ပါပြီ။ သကြားထုပ်ကလေး၊ ဆန်နည်းနည်းနှင့် တို့အချစ်တော်စာအုပ်တွေကို ထုတ်ကြစို့။ တို့ ဝေးဝေးမသွားနိုင်ကြတော့ဘူး။ တို့ (နှစ်ယောက်) အန္တရာယ်ကင်းနိုင်မည့် နည်းကို ငါသိပါတယ်''ဟု ဆိုလိုက်သည်'။

သူတို့ (ဆရာတပည့်) သည် မူဆလင်စစ်သားများ နာလန္ဒာကို လုယက် ရှာဖွေနေကြစဉ် ပင်မကျောင်းတိုက်ကြီးမှ ခပ်လှမ်းလှမ်းတွင်ရှိသော ဘုရားကျောင်းငယ် တစ်ခုအတွင်း ရှောင်ပုန်းနေကြသည်။ ထို့နောက် ယင်းရဟန်းတော်နှစ်ပါးသည် (နာလန္ဒာ) ကျောင်းတိုက်သို့ ပြန်လာနိုင်ကြသည်။ သို့ရာတွင် ထိုအချိန်အထိ ဖျက်ဆီးလုယက်ခြင်းမှ လွတ်မြောက်နေသေးသော အခြား ဘုရားပုထိုးများနှင့် ကျောင်းတိုက်



များကဲ့သို့ ဆုံးခန်းမတိုင်မီ အခိုက်အတံ့မျှသာ ဖြစ်ချေသည်။ သစ္စာဓမ္မမီးအိမ်သည် အိန္ဒိယနိုင်ငံတွင် နှစ်ပေါင်း တစ်ထောင့်ငါးရာခန့် ထွန်းလင်းတောက်ပလျက် ဓမ္မရောင်ခြည်ကို ဖြာလက်ခဲ့ပြီးနောက် ငြိမ်းတော့မည်ဆဲဆဲ (အချိန်) ဖြစ်ချေသည်။

ဓမ္မသာမိသည် စာပေလေ့လာသင်ကြားမှု ပြီးဆုံးသွားပြီး နောက်ဆုံး၌ တိဗက်သို့ပြန်ရန် ပြင်ဆင်သည်။ အသက်အရွယ် ကြီးရင့်ပြီးချိနဲ့နေပြီဖြစ်သော ရာဟုလသီရိဘဒြမထေရ်က မျက်ဝန်းတွင် မျက်ရည်ပြည့်လျက် တပည့်အား 'သင်ဟာ ကောင်းမြတ်တဲ့ ရဟန်းတစ်ပါးပေပဲ။ တိဗက်ကိုပြန်သွားပါလေ။ ငါမူကား အသက်အရွယ် အိုမင်းပြီ။ တိဗက်သည် ဝေးကွာလှ၏။ တို့တစ်တွေ ဒီဘဝမှာ တစ်ဖန်ပြန်တွေ့နိုင်ကြတော့မည်မဟုတ်။ သုခဝတီ (ဘုံ)မှာ ပြန်လည်ဆုံစည်းကြမယ်' ဟု မိန့်ဆိုသည်။ ဓမ္မသာမိသည် တိဗက်သို့ အန္တရာယ်ကင်းစွာ ပြန်ရောက်ခဲ့သည်။ သို့ရာတွင် နာမကျန်းဖြစ်နသဖြင့် ပတ္တနားတွင် လအတန်ကြာ သောင်တင်နေခဲ့သေးသည်။ ဓမ္မသာမိသည် အသက် ၆၇–နှစ်၊ အေဒီ ၁၂၆၃–ခုနှစ်တွင် ကွယ်လွန်သည်။ မဇ္ဈိမဒေသတွင် အချိန်အနည်းငယ်သာ နေထိုင်ခွင့် ရရှိခဲ့သော်လည်း ဓမ္မသာမိ၏ အတ္ထုပ္ပတ္တိသည် အလွန် စိတ်ဝင်စားဖွယ်ကောင်းလှ၏။ အကြောင်းမူ ယင်းအတ္တုပ္ပတ္တိ (မှတ်တမ်း)သည် ကျွန်ုပ်တို့အား အိန္ဒိယ၌ ဗုဒ္ဓဝါဒ ဝမ်းနည်းကြေကွဲဖွယ် ဆုံးခန်းတိုင်သွားပုံနှင့် ပတ်သက်၍ ရှားပါးလှသည့် မျက်မြင်သက်သေ မှတ်သားချက်များကို ဖော်ပြထားသောကြောင့်ဖြစ်သည်။

**ဆာအလက်စန္ဒာကန်နင်ဟမ် (**Sir Alexander Cunningham)

သူ့ဘဝကို ကျွန်ုပ်တို့လေ့လာမည့် အခြားပုဂ္ဂိုလ် တစ်ယောက်ကား ဘုရားဖူးတစ်ယောက်အဖြစ် မဇ္ဈိမဒေသသို့ လာရောက်ခဲ့သည်မဟုတ်သော်လည်း ခေတ်သစ်ဘုရားဖူးများအနေဖြင့် ဗုဒ္ဓဝင်နေရာတော်များ၌ တွေ့မြင်ရသော အရာအများစုသည် ဤပုဂ္ဂိုလ်၏ကြိုးပမ်းမှုကြောင့် ဖြစ်သဖြင့် ဤပုဂ္ဂိုလ်ကို ချန်လှပ်ထားရန် မဖြစ်နိုင်ချေ။ ဆာ အလက်စန္ဒာ

တုကိုးကွယ်သည့် ဘာသာတရားဖြစ်သည်ဟု ဆိုခြင်းထက် ပိုမို၍ ကိုယ်ပိုင်အလှ ကိုယ်ပိုင် ဆွဲဆောင်မှုများရှိသည့် ခေတ်မီပြီး ကိုယ်ကျင့် စာရိတ္တရေးရာ ဒဿနတစ်ခုဖြစ်ကြောင်း နားလည်ရန် အထောက်အကူ ပြုခဲ့သည်။ ဥရောပတိုက်သားများထံမှ မိမိဘာသာတရားအကြောင်း သိက္ခာကျစေသော ဖော်ပြချက်များကိုသာလျှင် ကြားရလေ့ရှိခဲ့ကြသော အရှေ့တိုင်းရှိ ဗုဒ္ဓဘာသာဝင်များသည် ထိုကဗျာကို နှစ်သက်ကြပြီး အာနိုးလ်အား သတ္တိခဲ လူစွမ်းကောင်းအဖြစ် မှတ်ယူကြသည်။

အာနိုးလ်သည် ဗုဒ္ဓဂယာနှင့် မိဂဒါဝုန်သို့ သွားရောက်လည်ပတ် လိုသည်မှာ ကြာခဲ့ပြီဖြစ်သဖြင့် သီရိလင်္ကာ၊ ယိုးဒယား၊ မြန်မာနှင့် ဂျပန်တို့သို့ (လာရောက်) လည်ပတ်ရန် ဖိတ်ကြားစာ အများအပြား ရရှိသောအခါ အရှေ့နိုင်ငံများသို့ သွားရောက်ရန်နှင့် တစ်ချိန်တည်းတွင် ကြာမြင့်စွာကတည်းက စိတ်ထဲတွင် ကိန်းဝပ်နေခဲ့သော မိမိဆန္ဒကို ပြီးပြည့်စုံစေရန် ဆုံးဖြတ်ခဲ့သည်။ (ဗုဒ္ဓဂယာသို့) ဆိုက်ရောက်၍ မဟာဗောဓိစေတီတော်၏ စင်္ကြံလမ်းတွင် ရပ်လိုက်မိစဉ် အာနိုးလ်သည် စေတီတော်၏ အနောက်ဘက်သို့ သွားပြီး မဟာဗောဓိပင်အောက်တွင် ငြိမ်သက်စွာရပ်မိလျက် မိမိအနေဖြင့် ဗောဓိပင်မှ ဗောဓိရွက်အနည်းငယ် ရယူနိုင်ပါလားဟု ဟိန္ဒူဘုန်းကြီးတစ်ယောက်အား မေးမြန်းသောအခါ ၎င်း(ဟိန္ဒူဘုန်းကြီး)က ‘လိုချင်သလောက်သာ ယူသွားပါ ဆဒ်၊ ငါတို့အဖို့ (ဤသစ်ရွက်) ဘာမှ အသုံးမကျပါဘူး ဆဒ်’ ဟု ဆိုသည်။

ယင်းနောက် အာနိုးလ်သည် မိဂဒါဝုန်သို့ သွားသည်။ နောင်တွင် ထို(မိဂဒါဝုန်) နေရာတော်နှင့် ပတ်သက်၍ အာနိုးလ်က ‘ဤနေရာထက် ပိုမိုမြင့်မြတ်သော နေရာတစ်ခုကို အခြားမည်သည့်နေရာတွင်မှ မတွေ့နိုင်ပါ’ ဟုဆိုခဲ့သည်။ ၎င်းနောက် ခရီးဆက်ခဲ့ပြီး သီရိလင်္ကာသို့ ဆိုက်ရောက်သောအခါ သီရိလင်္ကာ ဗုဒ္ဓဘာသာဝင်များ၏ အုတ်အော်သောင်းနင်း ကြိုဆိုမှုကို ခံရသည်။ အာနိုးလ်သည် ထိုအချိန်က ကျမ်းဂန်အတတ်ကျွမ်းဆုံးနှင့် သီရိလင်္ကာတွင် လျင်မြန်စွာ အရှိန်ရနေပြီဖြစ်သော ဗုဒ္ဓဘာသာပြန်လည်နိုးကြားရေးလှုပ်ရှားမှု ခေါင်းဆောင် မထေရ်



စားမှုအနည်းငယ် ပြုလိုက်သည်နှင့် (ယင်းအပျက်အစီးစသည်ကို) မြင့်မြတ်သော နေရာဖြစ်ကြောင်း ပြောဆိုပြီး ထိုနေရာကို ပုံကြမ်းဆွဲခွင့် သို့မဟုတ် တိုင်းတာခွင့်မပြုမီ ငွေကြေးတောင်းကြသည်။

ယင်းသို့ အခက်အခဲများ ရှိသော်လည်း ကန်နင်ဟမ်သည် ရှေးဟောင်းစာပေ အရေးအသားများစွာအား အဓိပ္ပာယ် ဖော်နည်းကို နားလည်ခဲ့သည်။ သူသည် နေရာဌာနများစွာကို မှတ်ထား သို့မဟုတ် သွားရောက်ကြည့်ရှုခဲ့သည်။ ထိုနေရာဌာန အများစုကို ခြုံငုံလေ့လာရင်း ၎င်းသည် အိန္ဒိယ၏ ရှေးဟောင်းမြေပုံဒင်္ဂါးတံဆိပ်လေ့လာမှုနှင့် အိန္ဒိယပန်းပုလေ့လာမှုများနှင့် ပတ်သက်သည့် မှန်ကန်ထူးခြားသည့် အသိပညာဗဟုတကို တိုးတက်အောင် စွမ်းနိုင်ခဲ့သည်။ သို့ဖြင့် ၁၈၆၁–ခုနှစ် ရှေးဟောင်းသုတေသနလေ့လာရေးအဖွဲ့ ဖွဲ့စည်းတည်ထောင်ရန် ဆုံးဖြတ်သောအခါ စစ်တပ်မှ အနားယူပြီးစဖြစ်သူ ကန်နင်ဟမ်သည် ယင်းအဖွဲ့၏ ပထမဆုံးသော ညွှန်ကြားရေးမှူးချုပ်အဖြစ် အလိုအလျောက် ရွေးချယ်ပြီး ဖြစ်သွားသည်။ ထိုအချိန်မှစ၍ ၁၈၈၅–ခုနှစ်တွင် အင်္ဂလန်သို့ ပြန်သည်အထိ ကန်နင်ဟမ်သည် ၎င်း၏ဘဝကို အိန္ဒိယ၏ အတိတ်သမိုင်းဖော်ထုတ်ရေးနှင့် ထိန်းသိမ်းရေးတို့အတွက် မြှုပ်နှံခဲ့သည်။

ဗုဒ္ဓဘာသာရှုထောင့်မှဆိုရသော် ကန်နင်ဟမ်၏ အရေးပါမှုသည် မြတ်ဗုဒ္ဓ၏ဘဝနှင့်ပတ်သက်သော တည်ရှိဆဲ နေရာဒေသများအကြောင်းအပေါ် ၎င်း၏တစ်ကိုယ်ရေ စိတ်ဝင်စားမှုကြောင့်ဖြစ်သည်။ ကန်နင်ဟမ်သည် ယခင်က အခြား များစွာသော ဝိတိုရိယ ခေတ်သားများကဲ့သို့ပင် အေဗန်ဂျေလိကယ်လ် ခရစ်ယန်တစ်ယောက်ဖြစ်သည်။ သူသည် မိမိ၏ မူလယုံကြည်မှုကို မြန်မြန်အစားထိုးလာသည်နှင့်အမျှ အိန္ဒိယ၏ တိုင်းရင်းဘာသာတရားများမှာ ပိုမိုကောင်းမွန်သည်ဟု ယုံကြည်သွားခဲ့သည်။ ၎င်း၏ စောစောပိုင်း ရေးသားချက်များတွင် ၎င်းအနေဖြင့် ရှေးဟောင်းသုတေသနပညာအပေါ် စိတ်ဝင်စားမှုသည် ခရစ်ယန်ဘာသာ ထွန်းကားရေးကို အထောက်အကူပြုမည့် အသုံးဝင်သည့် လက်နက်ကောင်းတစ်ခုဖြစ်မည်ဟု ထင်မြင်ကြောင်းပင် ဖော်ပြခဲ့သည်။ ဗုဒ္ဓဝါဒ

အကြောင်း ကောင်းစွာသိခွင့်ရသောအခါ တဖြည်းဖြည်း ဗုဒ္ဓဝါဒ၏ ဘဝအမြင်နှင့် အိန္ဒိယယဉ်ကျေးမှုအား ထောက်ကူထားခြင်းအပေါ် နက်ရှိုင်းစွာ လေးစားမှု တိုးပွားလာသည်။ ၎င်း၏ ကျယ်ပြောသော အတွေ့အကြုံ၊ အခြားပုဂ္ဂိုလ်များ၏ သုတေသနပြုချက်များ၊ တရုတ်ဘုရားဖူးရဟန်းတော်များ၏ မှတ်တမ်းများနှင့် ရင်းနှီးကျွမ်းဝင်မိခြင်း၊ မြောက်မြားလှသည့် မှန်းဆနိုင်မှုများကို အသုံးချလျက် ကန်နင်ဟမ်သည် သာဝတ္ထိ၊ ကောသမ္ဗီ၊ ကုသိနာရုံနှင့် ရာဇဂြိုဟ်ရှိ များစွာသောနေရာဌာနများကို အမှန်အတိုင်း ထုတ်ဖော် သို့မဟုတ် မှန်ကန်ကြောင်း သက်သေပြခဲ့သည်။ ကန်နင်ဟမ်သည် ယင်း (ဖော်ပြပြီး) ဒေသများကိုရောမစုရာ၊ မိဂဒါဝုန်နှင့် ဗုဒ္ဓဂယာ နေရာတော်များကိုပါ ဖော်ထုတ်ခဲ့သည်။

ကန်နင်ဟမ်သည် မဟာဗောဓိစေတီတော်မြတ်ကြီးအား ပိုမိုထူးခြားသည့် နှစ်သက်မှုရှိပုံရသည်။ သို့ဖြစ်၍ ရှေးဟောင်းသုတေသနလေ့လာရေးအဖွဲ့သို့ တင်ပြခဲ့သည့် ၎င်း၏ ပထမဆုံးသော လှုပ်ရှားမှုသည် ဗုဒ္ဓဂယာစေတီတော်ပရိဝုဏ်ကို တူးဖော်ပြီး ပန်းပုလက်ရာများနှင့် ကျောက်စာများကို ထိန်းသိမ်းရန်အတွက် စတင်လုပ်ဆောင်ရမည့် ခြေလှမ်းများကို စဉ်းစားနိုင်ရန် စေတီတော်မြတ်ကြီးသို့ သွားရောက်ရေးဖြစ်သည်။ ၎င်း၏ အကြံပြုချက်အရ ဗိုလ်ချုပ် မီးဒ် (General Mead) သည် ၁၈၆၃–တွင် စေတီတော်ကို တူးဖော်ခဲ့သည်။ သို့သော် မီးဒ်သည် ၎င်း၏တွေ့ရှိချက်ဆိုင်ရာ မှတ်တမ်းကို လုံးဝပုံနှိပ်ဖြန့်ချိခြင်း မပြုခဲ့ပေ။ ကန်နင်ဟမ်သည် ဗုဒ္ဓဂယာသို့ ၁၈၇၁–နှင့် ၁၈၇၅– ဗုဒ္ဓဘာသာ မဟာဗောဓိစေတီတော်မြတ်ကြီး’ တွင် ၎င်းအပါအဝင် အခြားပုဂ္ဂိုလ်များ၏ သုတေသနပြုချက်များ၊ ရှာဖွေတွေ့ရှိချက်များနှင့် စေတီတော်မြတ်၏ ပုံသဏ္ဍာန်များအားလုံးကို စုပေါင်းဖော်ပြထားသည်။

**ဆာအက်ဒွင်အာနိုးလ်** (Sir Edwin Arnold)

၁၈၀၉–ခုနှစ်တွင် ဗျူးခါနန် (Buchanan) မှ စတင်၍ အင်္ဂလိပ်ခရီးသည်များသည် ပြိုကွဲပျက်စီးနေသော အထိမ်းအမှတ် နေရာများကို ကြည့်ရှု



ရန်နှင့် ရှေးဟောင်းပစ္စည်းများ ရယူရန် မျှော်လင့်ချက်ဖြင့် အခါအားလျော်စွာ ဗုဒ္ဓဂယာ၊ မိဂဒါဝုန်ဒေသများသို့ လာရောက်ခဲ့ကြသည်။ စွန့်ပယ်ခံထားရသည့် လူသူမဲ့သော (ဗုဒ္ဓဝင်) နေရာများ၌ ရှေးဟောင်းပစ္စည်းများကို အလွယ်တကူရရှိနိုင်သည်။ သို့ရာတွင် ၁၈၈၅–ခုနှစ်၌ ဗုဒ္ဓဂယာသို့ လာရောက်ခဲ့သည့် အင်္ဂလိပ်လူမျိုးတစ်ယောက်ကား နေရာဒေသကို ကြည့်ရှုရန် သို့မဟုတ် ကမ္ဘာလှည့်ခရီးသည်အနေဖြင့် လာရောက်ခြင်းမဟုတ်ဘဲ ဘုရားဖူးအနေဖြင့် ရောက်ရှိလာခြင်း ဖြစ်သည်။ ထိုပုဂ္ဂိုလ်ကား အာဆက်ဒွင်အာနိုးလ်ဖြစ်၏။ အာနိုးလ်သည် ၁၈၅၇–ခုနှစ် (အိန္ဒိယနိုင်ငံ) ပူနီ(Pune) မြို့ ဒက်ကန်(Deccan)ကောလိပ်ကျောင်းအုပ်ကြီးရာထူး ခန့်အပ်ခံရသော အချိန်၌ ကဗျာဆရာ တစ်ယောက်အဖြစ် ကျော်ကြားနေပြီဖြစ်သည်။ ၎င်း၏လွတ်လပ်သော သဘောထားနှင့် သက္ကတဘာသာ အသိပညာကြောင့် မကြာမီ အိန္ဒိယဘာသာတရားများ အထူးသဖြင့် ဗုဒ္ဓဘာသာကို စိတ်ဝင်စားမှု တိုးပွားလာသည်။

၁၈၆၁–ခုနှစ်၊ အင်္ဂလန်သို့ ပြန်ရောက်သောအခါ အာနိုးလ်သည် နောင်အခါ ၎င်းအယ်ဒီတာဖြစ်လာမည့် ဒေးလီးတယ်လီဂရပ် သတင်းစာတွင် အထူးဆောင်းပါးရေးသူအဖြစ် အလုပ်လုပ်ခဲ့ပြီး ဗုဒ္ဓဝါဒကို ဆက်လက် လေ့လာသည်။ မည်သည့်ကျမ်းစာများကို ဖတ်ရှုသည်ဟု တိကျစွာ မသိရသော်လည်း (ထိုအချိန်က ဗုဒ္ဓဘာသာနှင့် ပတ်သက်သည့် မိုငြမ်းပြုစာအုပ်များ အနည်းအကျဉ်းသာရှိပြီး ဗုဒ္ဓဘာသာကျမ်းဂန် အင်္ဂလိပ်ဘာသာပြန်များလည်း နည်းပါးသေး၏) ၁၈၇၉–ခုနှစ်တွင် အာနိုးလ်သည် ဗုဒ္ဓဘဝဖြစ်တော်စဉ်နှင့် ဗုဒ္ဓ၏သင်ကြားချက်များကို အဘဖြစ်အပျက်မှန်အတိုင်း ကရုဏာရသမြောက်စွာ သရုပ်ဖော် (ရေးဖွဲ့) ထားသော ‘အာရှအလင်းရောင် (The Light of Asia)’ အမည်ရှိ ကျော်ကြားလှသည့် ကဗျာ(ရှည်)ကို ပုံနှိပ်ထုတ်ဝေလိုက်သည်။ ဤကဗျာသည် အလွန်အရေးပါသည့် အောင်မြင်မှု တစ်ရပ်ဖြစ်သွားပြီး ဗြိတိသျှလူမျိုးများအား ခရစ်ယန်သာသနာပြုပုဂ္ဂိုလ်များ၏ မှတ်တမ်းများတွင် ဖော်ပြသည့် ဗုဒ္ဓဘာသာဟူသည် စိတ်ပျက်ဖွယ်အဆိုးမြင် ရုပ်

မြတ်မဟာကို ထိန်းသိမ်းစောင့်ရှောက်ရန် တိုက်တွန်းသည်။ မင်းသား သိဒ္ဓတ္ထ ဗောဓိပင်အောက်မှာ ဗောဓိဉာဏ်ကို ရရှိခဲ့သည့် ဤနေရာကား ကမ္ဘာပေါ်တွင် မည်သည့်နေရာနှင့်မျှမတူအောင် မြင့်မြတ်လှပေ၏။ ဤဖိ အားသည် ကျွန်ုပ်၏စိတ်အာရုံသို့ ရုတ်တရက် ဝင်ရောက်လာသောအခါ ကျွန်ုပ်သည် ဘုန်းတော်ကြီး ကိုဇန်အား ကျွန်ုပ်နှင့်အတူ ပါဝင်လက်တွဲ နိုင်မည်လားဟု မေးမိသည်။ ကိုဇန်က ဝမ်းမြောက်ဝမ်းသာစွာ သဘော တူသည်။ ဤထက်ပိုသည်မှာ ကိုဇန်လည်း ကျွန်ုပ်နှင့်ထပ်တူပင် ခံစား နေမိကြောင်း ပြောပြသည်။ ဗုဒ္ဓဘာသာ ရဟန်းတော်အချို့ တာဝန်ယူ စောင့်ရှောက်ရန် ရောက်လာသည်အထိ ကျွန်ုပ်တို့နှစ်ယောက် ဤနေ ရာမြတ်၌ နေထိုင်ကြရန် အလေးအနက် ကတိပြုလိုက်ကြသည်’။

မဟာဗောဓိစေတီသည် ရာစုနှစ်ပေါင်းများစွာ ရှိခိုးပူဇော်ရာဌာန အဖြစ် မလှုပ်ရှားဘဲ ရှိနေခဲ့ပြီးဖြစ်သည်။ ၁၆ ရာစုကုန်လောက် ရောက် သောအခါ ခြေသလုံးအိမ်တိုင် ဟိန္ဒူဘုန်းကြီးအချို့ ဤနေရာသို့ ရောက် လာပြီး အနီးအနားဌ် အခြေချ နေထိုင်ကြသည်။ (နောင်အခါ) မဟန့်ဟု ထင်ရှားလာသည့် ၎င်းတို့ကို ဆက်ခံသူများသည် စွန့်ပစ်ခံ စေတီပျက် ကို ၎င်းတို့ပိုင်အဖြစ် ထင်မှတ်လာကြသည်။ (အိမ်ရာမထောင်သည့်) ရသေ့ရဟန်းဟုဆိုသော်လည်း ခေတ်သစ်မဟန့်ကား ချမ်းသာပြီး အာ ဏာထန်ပြင်းသူ မြေပိုင်ရှင်ဖြစ်သည်။ ပထမတွင် မဟန့်သည် ဓမ္မပါလ ရှိနေခြင်းကို မငြင်းဆိုပေ။ မဟန့်က ဓမ္မပါလအား အနီးအနားရှိ နားနေ ဆောင်(ဇရပ်) တစ်ဆောင်၏သော့ကို ပေးထားသဖြင့် ကောင်းစွာ နေ ထိုင်ရသည်။ ဓမ္မပါလသည် သီရိလင်္ကာ၊ မြန်မာနှင့်အိန္ဒိယနိုင်ငံရှိ ဓမ္မမိတ် ဆွေများနှင့် ဗုဒ္ဓဘာသာအဖွဲ့အစည်းများသို့ မဟာဗောဓိပင်၏ အခြေ အနေကိုဖော်ပြပြီး စေတီတော်ကြီးအား သင့်တင့်စွာ ထိန်းသိမ်းစောင့် ရှောက်ရန် အကူအညီတောင်းခံသည့်စာများ အလျင်အမြန် ရေးပို့သည်။

သို့တစေ မိမိမှာရှိသည့် ငွေကြေးအနည်းငယ်လည်း ပြတ်တောက် တော့မည်။ မိမိ၏အကူအညီတောင်းခံမှုအပေါ် တုံ့ပြန်မှုများမှာ(လည်း) နှေးကွေးလှသည်။ ဓမ္မပါလအနေဖြင့် မိမိ၏ကတိကို စွန့်လွှတ်ရတော့ မည်ကိုပင် စိုးရိမ်လာမိသည်။ ဓမ္မပါလသည် မိမိ၏ ဤမှောင်မိုက် ခက်ခဲ



ဖြစ်သူ ဒေလိဂါမ သီရိသုမင်္ဂလမထေရ်နှင့် တွေ့ဆုံသောအခါ အာနိုးလ် က မဟာဗောဓိစေတီတော်မြတ်ကြီး၏ ဝမ်းနည်းဖွယ် အခြေအနေကို ဖော်ပြလျက် စေတီတော်နှင့် ပတ်သက်ပြီး တစ်ခုခုဆောင်ရွက်နိုင်ရန် တိုက်တွန်းသည်။ အာနိုးလ်၏ အကြံပြုချက်ကို အလွန်စိတ်အား ထက် သန်စွာ ကြိုဆိုသဖြင့် အာနိုးလ်က အင်္ဂလန်နှင့်အိန္ဒိယရှိ ဗြိတိသျှအာဏာ ပိုင်များနှင့် တွေ့ဆုံပြောဆိုမည်ဖြစ်ကြောင်း ကတိပေးသည်။ ဗြိတိသျှ အစိုးရအုပ်ချုပ်မှု တည်ရှိဆဲဖြစ်သဖြင့် ဤကိစ္စမှာ အာနိုးလ်အဖို့ လွယ် ကူစွာ ဆောင်ရွက်နိုင်သောအရာဖြစ်သည်။

အာနိုးလ်သည် မဟာဗောဓိစေတီတော်အား ဗုဒ္ဓဘာသာဝင်များ ပြန်လည် ထိန်းသိမ်းရေးအတွက် ကောင်းမြတ်သော အတွေးအကြံရရှိ လျက် ထိုအကြံကို အကောင်အထည် ပေါ်လာစေပြီးနောက် ထိုကိစ္စ အပြီးရောက်သည်ထိ အခြားပုဂ္ဂိုလ်များက (ဆက်လက်၍) စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့ကြသည်။ သို့တစေ ထိုအချိန်ကတည်းကပင် အာနိုးလ် သည် သီရိလင်္ကာအုပ်ချုပ်ရေးမှူး၊ အိန္ဒိယနိုင်ငံဆိုင်ရာ အတွင်းဝန်ချုပ် ဖြစ်သူ ဗိုလ်ချုပ် ကန်နင်ဟမ် (ကန်နင်ဟမ်သည် ဤအကြံအစည်ကို လုံးဝခြွင်းချက်မရှိ စာနာထောက်ထားခဲ့သည်)နှင့် အိန္ဒိယဘုရင်ခံတို့ကို ပင် ကိုယ်တိုင်တွေ့ဆုံ သို့မဟုတ် စာရေးခဲ့ပြီး ၁၈၉၃–ခုနှစ်တွင် ဒေလီး တယ်လီဂရပ်သတင်းစာ၌ မဟာဗောဓိစေတီတော်အား ဗုဒ္ဓဘာသာဝင် တို့ (ပြန်လည်) ထိန်းသိမ်းရေးနှင့်ပတ်သက်၍ အရေးကောင်းကောင်း နှင့် ကရုဏာသက်ဖွယ် ဆောင်းပါးတစ်ပုဒ် ရေးသားခဲ့သည်။

၁၉၀၄–ခုနှစ်၌ အက်ဒွင်အာနိုးလ် ကွယ်လွန်သောအခါ နှစ်ဆယ့် တစ်နှစ်မတိုင်မီက အာနိုးလ်ရရှိခဲ့သည့် အကြံအစည်ကို (လူအများမသိ သို့မဟုတ်) သဘောမပေါက်နိုင်သေးဘဲ ရှိကြသည်။ အမှန်သော် နောက် ထပ် နှစ်ငါးဆယ်နီးပါးမျှ ကြာသည်အထိပင် နားမလည်နိုင်သေးဘဲ ရှိ ကြသည်။ သို့ရာတွင် ခေတ်သစ် ဗုဒ္ဓဘာသာဝင်ဘုရားဖူးများအဖို့ မဟာ ဗောဓိစေတီတော်တွင် ဘုရားရှိခိုးဝတ်ပြုသောအခါ သို့မဟုတ် စေတီ တော်ကို ဝန်းရံထားသည့် အေးချမ်းဆိတ်ငြိမ် ခြံဝင်းအတွင်း လှည့်

လည်သွားလာသောအခါ ဤအနောက်တိုင်းသား ရှေးဦးဗုဒ္ဓဘာသာဝင် တစ်ဦးအပေါ် ကျေးဇူးတင်ရမည်ဖြစ်ကြောင်း သတိရသင့်ပါသည်။

**အနာဂါရိကဓမ္မပါလ** (Anagarika Dharmapala)

အက်ဒွင်အာနိုးလ် ပထမဆုံး မွေးဖွားပေးလိုက်သော အတွေးအကြံကို (အကောင်အထည်ဖော်) ဆောင်ရွက်ခဲ့သူကား အနာဂါရိကဓမ္မပါလ ဖြစ်သည်။ ၁၈၆၄–ခုနှစ်တွင် ကြွယ်ဝချမ်းသာပြီး ဘာသာတရားကို အလေးအနက် ရိုသေကိုင်းရှိုင်းသည့် မိသားစုမှမွေးဖွားခဲ့သူ ဓမ္မပါလသည် အသက်ငယ်ရွယ်ချိန်တွင် ၁၈၇၀–ခုနှစ်များမှစ၍ သီရိလင်္ကာ တစ်နိုင်ငံလုံး လှုပ်လှုပ်ရွရွဖြစ်စေခဲ့သော ဗုဒ္ဓသာသနာတော် ပြန်လည်ရှင်သန်ရေး လှုပ်ရှားမှု၏ ဩဇာလွှမ်းမိုးခြင်းကို ခံခဲ့ရသည်။ ဓမ္မပါလသည် မိမိ၏ ထူးခြားသည့် အင်အားနှင့် စွမ်းရည်တို့ကို ဗုဒ္ဓသာသာနာတော် ရာစုနှစ်ပေါင်းများစွာ မလှုပ်မရှားဖြစ်နေခြင်းမှ လွတ်မြောက်ရေးအတွက် ကူညီထောက်ပံ့မှုတွင် မြှုပ်နှံလိုကြောင်း သိခဲ့သော်လည်း (ယင်းကိစ္စနှင့် ပတ်သက်၍) မိမိအနေဖြင့် မည်သို့ဆောင်ရွက်ရမည်ကို အတိအကျသဘောပေါက်ခဲ့သည်မှာ ဗုဒ္ဓဂယာသို့ ဘုရားဖူးခရီး သွားရောက်ပြီးမှဖြစ်သည်။

၁၈၉၁–ခုနှစ်တွင် ဓမ္မပါလသည် မိဂဒါဝုန်သို့ သွားရောက်သောအခါ မိမိတွေ့မြင်ရသည့် (အခြေအနေ)ကြောင့် ချောက်ချားမိပြီး စိတ်ထိခိုက်သွားသည်။ ဗုဒ္ဓရှင်တော်မြတ် ပထမဆုံး တရားဒေသနာ ဟောကြားတော်မူသည့် နေရာတော်မြတ်ကို ဒေသခံရွာသားတို့က နွားချေး၊ ဝက်ချေးများ စုပုံရန် အသုံးပြုနေကြသည်။ တစ်ချိန်က ကြီးကျယ် ခမ်းနားခဲ့သည့် ကျောင်းတိုက်ကြီးများ၊ ဘုရားကျောင်းများနှင့် စေတီတော်မြတ်များ၏ အပျက်အစီး အကြွင်းအကျန်များအား အဆောက်အအုံဆောက်လုပ်ရာ၌ ချေးပေါပေါအုတ်ချပ်များ ရရှိရန် ဖြိုချခြင်းမှလွဲ၍ မည်သူ တစ်ဦးတစ်ယောက်မျှ စိတ်မဝင်စားကြချေ။

ရက်အနည်းငယ် ကြာပြီးနောက် ဇန်နဝါရီလ ၂၂–ရက်နေ့တွင် ဓမ္မပါလနှင့် ၎င်း၏မိတ်ဆွေ ဂျပန်ရဟန်းတော် ကိုဇန် (Kozan)တို့သည်



ဗုဒ္ဓဂယာသို့ရောက်ရှိကြသည်။ မဟာဗောဓိစေတီတော်ကို နှစ်အနည်းငယ်အလွန်က ပြန်လည် ပြုပြင်ထားပြီးဖြစ်သော်လည်း စေတီတော်အား ဂရုတစိုက် ထိန်းသိမ်းစောင့်ရှောက်မည့်သူမရှိချေ။ စေတီတော်အနီးပတ်ဝန်းကျင်၌ သစ်ပင်များပေါက်ရောက်နေပြီး ညစ်ပတ်နေသည်။ ဝဇိရာသန[၇] နေရာတော်တွင် ဓမ္မပါလ ရှိခိုးပူဇော်လိုက်သောအခါ နှလုံးသားတွင် အလေးအနက် ကြည်ညိုယုံကြည်မှုမှ ပေါက်ဖွားလာသည့် စိတ်ဓာတ်အင်အား မြင့်ကြွမှုတစ်ရပ် ပေါ်ပေါက်ခဲ့သည်။ ဖြစ်ပျက်ခဲ့ပုံကို ၎င်း၏မှတ်တမ်းစာအုပ်၌ ဤသို့ဖော်ပြထားသည် ‘(ဂယာမြို့မှ) ခြောက်မိုင် မောင်းပြီးနောက် ကျွန်ုပ်တို့သည် မြေမြတ်နေရာသို့ ဆိုက်ရောက်ခဲ့ကြသည်။ တစ်မိုင်အတွင်း ကျွန်ုပ်တို့ဘုရားရှင်၏ ဆင်းတုတော်အကျိုးအပျက်များ ဟိုနေရာသည်နေရာ ကြဲပြန့်နေသည်ကို တွေ့မြင်နိုင်သည်။ မဟန္တ(ဟိန္ဒူဘုန်းကြီး)၏ ကျောင်းသို့အဝင် ဆင်ဝင်၏ ဟိုဘက်ဒီဘက်၌ ကမ္ဘဋ္ဌာန်းရှုမှတ်နေဟန်နှင့် တရားဒေသနာ ဟောကြားတော်မူနေဟန် ကျွန်ုပ်တို့ ဗုဒ္ဓရှင်တော်မြတ်၏ ဆင်းတုတော်များရှိသည်။ (မဟာဗောဓိ) စေတီတော်မြတ်ကြီးကား မြင့်မားခမ်းနားလှပါဘိ။ အပရာဇိတပလ္လင်တော်ပေါ်တွင် ထိုင်နေတော်မူသည့် မြတ်ဗုဒ္ဓ (ဆင်းတုတော်)နှင့် ပတ်ဝန်းကျင်တစ်ခွင်လုံးကို ပျံ့နှံ့လွှမ်းမိုးနေသည့် ကြီးမြတ်သော တည်ငြိမ်မှုတို့ကား ကြည်ညိုသူ ဥပါသကာ (တစ်ယောက်)၏ နှလုံးသားကို ဝမ်းနည်းမျက်ရည် လည်စေပါ၏။ အို၊ နှစ်သက်ဖွယ် ကောင်းစွ။

‘ဝဇိရာသနပလ္လင်တော်ကို ကျွန်ုပ်၏နဖူးပြင် ထိလိုက်မိသည်နှင့် ကျွန်ုပ်၏ နှလုံးသားထဲသို့ ရုတ်တရက် တွန်းအားတစ်ရပ် ဝင်ရောက်လာသည်။ ထိုတွန်းအားသည် ကျွန်ုပ်အား ဤနေရာတွင်နေ၍ ဤမြေ

---

[၇] အချို့က မဟာယာန (ဗုဒ္ဓဘာသာဝင်)တို့သည် ဗုဒ္ဓဂယာမဟာဗောဓိမဏ္ဍိုင်ရှိ အပရာဇိတပလ္လင်တော်ကို ‘ဝဇိရာသန’ဟု ခေါ်ဝေါ်ကြောင်း ပြဆိုသည်။ သို့ရာတွင် ‘အပရာဇိတပလ္လင်ဝရေ **ဝဇိရာသနေ** နိသိန္နကာလတော ပဋ္ဌာယ (ဥဒါန–ဋ္ဌ၊ ၂၉။ သာရတ္ထ–ဋီ ၃၊ ၁၃၃) နှင့် ‘**ဝဇိရာသနံ** ဝိယ အစလပလ္လင်္ကံ (သံ–ဋီ ၂။ ၂၈၂)တို့အရ ထိုအဆို မမှန်ဘဲ မူရင်းထေရဝါဒကျမ်းများ၌လည်း ‘ဝဇိရာသန’ အသုံးရှိကြောင်း မှတ်ယူရပါမည် (ဘာသာပြန်သူ)။

တော်မူကြပါ။ ခင်မင် ရင်းနှီးစွာ (မိတ်မပျက်ဘဲ) ဓာတ်တော်များကို ရှစ်ပုံပုံပါ။ သည်နောက် နေရာအနှံ့တွင် စေတီတော်များ (တည်၍) ထည့်သွင်း ဌာပနာကြပါ။ သတ္တဝါအားလုံး ဤစေတီတော်များကို ဖူးမြင်ပြီး သဒ္ဓါတရားတိုး ပွားနိုင်ကြပါလိမ့်မည် ဒီ ၂၊ ၁၃၆)’။

၎င်းနောက် ဒေါဏပုဏ္ဏားသည် ဗုဒ္ဓ၏ဓာတ်တော်များကို ဘက်မလိုက်ဘဲ (မျှမျှတတ) ရှစ်ပုံပုံသည်။ ဒေါဏသည် ၎င်း၏အကျိုး ဆောင်ကျဉ်းမှုအနေဖြင့် ဓာတ်တော်ထည့်သည့်အိုးကို ရရှိလေသည်။ ဤသို့ ဆောင်ရွက်ပြီးနောက် ပိပ္ပလဝန(Pipphalavana)အရပ်မှ မောရိယလူမျိုး အဖွဲ့တစ်ဖွဲ့ ရောက်လာသည်။ သို့သော် ဓာတ်တော်အားလုံး ခွဲဝေပြီးဖြစ်၍ ၎င်းတို့အား မီးပူဇော်သည့်နေရာမှ ပြာများကို ပေးလိုက်သည်။

ပထမဦးဆုံးသော ယင်းဗုဒ္ဓစေတီတော်များသည် ထိပ်ပိုင်းတွင် သစ်သားထီးတော်ပါရှိသည့် မြေပုံရိုးရိုးမျှသာ ဖြစ်ဖွယ်ရှိသည်။ ထီးတော်မှာ ဘုရင်မင်းနှင့်ဆိုင်သော ရှေးခေတ်အိန္ဒိယအထိမ်းအမှတ်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်သည် မိကောင်းဖခင် ဘုရင်မိသားစုမှ (ဖွားမြင်ခဲ့သူ) ဖြစ်ကြောင်း သတိရသင့်သည်။

ဖော်ပြပါ ရှေ့ပြေးပုံစံများမှ တစ်ဆင့် စေတီသည် သပ္ပာယ်လှပပြီး အသေးစိတ် အဆောက်အအုံ ပုံစံများအဖြစ်သို့ တိုးတက်ပြောင်းလဲလာပြီး သက်တော်ထင်ရှား ဘုရားရှင်၏သင်္ကေတ (ပုံသဏ္ဌာန်) အဖြစ် တွေ့ရှိလာရသည်။ (ဗုဒ္ဓဝင်နေရာတော်များရှိ) စေတီတော်များကို လေးမျိုး ခွဲခြားနိုင်သည်။ ၁) သာရီရိက = မြတ်ဗုဒ္ဓ သို့မဟုတ် မြတ်ဗုဒ္ဓ၏ အရိယာဖြစ်ပြီးသူ တပည့်သာဝက တစ်ပါးပါး၏ ဓာတ်တော် မွေတော်များကို ဌာပနာ(ထည့်သွင်း) ထားသည့် စေတီ၊ ၂) ပရိဘောဂ = မြတ်ဗုဒ္ဓ၏ အသုံးအဆောင်ပစ္စည်းများ ပါဝင်သည့် စေတီ၊ ၃) ဥဒ္ဒေသိက (ဥဒ္ဒိသက) = ဗုဒ္ဓရှင်တော်မြတ် သက်တော်ထင်ရှား ရှိစဉ်က အရေးကြီး ထင်ရှားသည့် ဖြစ်ရပ်များကို အထိမ်းအမှတ်ပြုပြီး တည်ထားသည့် အထိမ်းအမှတ်စေတီနှင့် ၄) နောက်ဆုံး တစ်မျိုးမှာ ကုသိုလ်ရရန် ရည်ရွယ်ပြီး တည်ထားသည့် အဓိဋ္ဌာန်စေတီ (Votive Stupas) ဟူ



သော အချိန်ကာလအတွင်း စေတီတော်၌ ကမ္မဋ္ဌာန်းရှုမှတ်ရင်း ခိုင်မာသည့် စိတ်ပိုင်းတွေ့ကြုံသိရှိမှု တစ်ရပ်ရရှိခဲ့သည် ‘ထိုည ၁၂–နာရီလောက်တွင် ကျွန်ုပ်တစ်သက်တာ၌ ပထမဆုံးအကြိမ် နားလည်မှုအားလုံးကို ကျော်လွန်သည့် ငြိမ်းချမ်းမှုတစ်ရပ်ကို ကျွန်ုပ် တွေ့ကြုံခံစားမိသည်။ အေးငြိမ်းလိုက်လေခြင်း’။

ဓမ္မပါလ၏ ဘဝရည်မှန်းချက်သည် ယခုအခါ လုံးဝဥဿုံ ပီပြင်လာချေပြီ။ ဗုဒ္ဓဂါဒတစ်ခုလုံးကဲ့သို့ပင် မဟာဗောဓိ စေတီတော်မြတ်သည်လည်း သက်ဝင်လှုပ်ရှားနေသည့် အရာများထက် ပိုမိုစိတ်ဝင်စားဖွယ်ကောင်းသည့် အတိတ်ကာလ၏ ဓာတ်မွေတော်တစ်ခု ဖြစ်လာသည်။ မိမိ (ဓမ္မပါလ)သည် ဗုဒ္ဓဂါဒကိုရော မဟာဗောဓိစေတီတော်ကိုပါ ပြန်လည် ထိန်းသိမ်းပြီး ရှင်သန်အောင် ဆောင်ရွက်ရလိမ့်မည်။ ဓမ္မပါလသည် မိမိအနေဖြင့် စေတီတော်အနီးမှထွက်ခွာပြီး (စေတီတော်အား) လူထုစိတ်ဝင်စားအောင် ဆောင်ရွက်ရန်နှင့် ဗုဒ္ဓဘာသာနိုင်ငံများ၏ ထောက်ခံမှုရရှိရန် ကြိုးစားမှသာလျှင် ဤ(ပြန်လည်ပြုပြင်ရန်နှင့် ရှင်သန်အောင် ဆောင်ရွက်ခြင်း) ကိစ္စကို ပြုလုပ်နိုင်မည်ဟု ဆုံးဖြတ်သည်။ ဓမ္မပါလသည် မဟာဗောဓိစေတီတော် ပြန်လည်ထိန်းသိမ်းရေး စည်းရုံးလှုံ့ဆော်ရန်နှင့် ပူးပေါင်းဆောင်ရွက်ရန် မဟာဗောဓိအသင်းနှင့် ယင်းအသင်း၏ တိုးတက်ရေးဆောင်ရွက်မှုအကြောင်းကို ဗုဒ္ဓဘာသာလောကအား သတင်းပေးရန် ပထမဆုံးသော နိုင်ငံတကာဗုဒ္ဓဘာသာစာစောင်တစ်ခုဖြစ်သည့် မဟာဗောဓိဂျာနယ်ကိုလည်း တည်ထောင်လိုက်သည်။ ဓမ္မပါလသည် သီရိလင်္ကာ၊ မြန်မာနိုင်ငံများသို့ လှည့်လည်ပြီး ပြည်သူ့အစည်းအဝေးများ၌ ဟောပြောသည်။ သီရိလင်္ကာမှ အိန္ဒိယသို့ ဘုရားဖူးအဖွဲ့များ ဖွဲ့စည်းသည်။

နောက်ပိုင်းနှစ်များတွင် အနာဂါရိကဓမ္မပါလ၏ဘဝသည် ပုံကြမ်းဖော်ပြရန် ခက်ခဲလောက်အောင်ပင် ဖြစ်ပျက် ကြုံဆုံရမှု ထူးခြားလှသည်။ ဓမ္မပါလသည် ၁၈၉၃–ခုနှစ် ချီကာဂို (အမေရိက)တွင် ကျင်းပသည့် ဘာသာပေါင်းစုံပါလီမန်၌ မိန့်ခွန်း ပြောကြား (အနောက်တိုင်း

၌ ဗုဒ္ဓဝါဒအကြောင်း ပထမဆုံးအကြိမ် ဟောပြောရခြင်းဖြစ်)သည်။ သီရိလင်္ကာတွင် ဗုဒ္ဓဘာသာသတင်းစာ အများအပြား တည်ထောင်ခဲ့သည်။ မဟာယာနနှင့် ထေရဝါဒတို့အကြား ရာစုနှစ်ပေါင်း များစွာအတွင်း ပထမဆုံးထိတွေ့မှုအတွက် ထိပ်တန်းက (ပါဝင်)ဆောင်ရွက်ခဲ့သူဖြစ်သည်။ စာသင်ကျောင်းများ၊ ဆေးပေးခန်းများနှင့် သက်မွေးဝမ်းကျောင်း လေ့ကျင့်ရေးတက္ကသိုလ်များ တည်ထောင်လျက် မိဂဒါဝုန်ကို ပြန်လည် ပြုပြင်မွမ်းမံပြီးနောက် ဗုဒ္ဓဝါဒ၏အချက်အချာ နေရာတစ်ခုအဖြစ်သို့ ပြန်လည်ရောက်ရှိလာအောင် ဖန်တီးခဲ့သည်။

ဓမ္မပါလ၏ ကြိုးပမ်းမှုများကြောင့် ဗုဒ္ဓဘာသာဝင်များသည် မဟာဗောဓိစေတီတော်တွင် တစ်ဖန်ပြန်လည်၍ ရှိခိုး ဝတ်ပြုလာနိုင်ကြသည်။ ဗုဒ္ဓဘာသာဝင်တို့ တရားဝင်ဝတ်ပြုဆုတောင်းခွင့်ကို ၁၉၄၀–ခုနှစ်အထိ မရရှိသေးသော်လည်း ထိုအခွင့်အရေးကို စတင်လှုပ်ရှားခဲ့သူမှာ အနာဂါရိက ဓမ္မပါလဖြစ်သည်။ ၁၉၃၃–ခုနှစ်၊ မိဂဒါဝုန်၌ မကွယ်လွန်မီကလေးတွင် 'ရှင်တော်ဗုဒ္ဓရဲ့ တရားဓမ္မကို ပြန့်ပွားအောင် လုပ်ဖို့ နှစ်ဆယ့်ငါးကြိမ်မက (လူ့ဘဝမှာ) ပြန်လည် မွေးဖွားလိုပါတယ်'ဟု ဆိုခဲ့သည်။

## ပန်းချီနှင့်ပန်းပု

### စေတီ

ဗုဒ္ဓဘာသာဆိုင်ရာ အထိမ်းအမှတ် နေရာတော်များ၏ အထင်ရှားဆုံးသော လက္ခဏာမှာ စေတီများဖြစ်သည်။ စေတီ နမူနာများကို မဇ္ဈိမဒေသရှိ ဗုဒ္ဓဝင်နေရာတော်များ အားလုံးနီးပါးတွင် တွေ့ရသည်။ စေတီ (Stupa) ဟူသော ဝေါဟာရ သည် အစုအပုံဟု အဓိပ္ပာယ်ရသည့် စတု (Stup)မှ ဆင်းသက်လာသည်။ ယင်း(စေတီ)၏ အဆောက်အအုံပုံစံသည် အခြေခံအားဖြင့် အထူးအရေးကြီး ပုဂ္ဂိုလ်များ၏ပြာကို ထည့်သွင်း(ဌာပနာ)ထားသည့် မြေပုံသာဖြစ်သည်။ အရှင်အာနန္ဒက မြတ်ဗုဒ္ဓအား စေတီတည်ထိုက်သည့် ပုဂ္ဂိုလ်များကို မေးလျှောက်သောအခါ ဗုဒ္ဓရှင်



တော်မြတ်က 'စေတီတည် ထိုက်သူ လေးမျိုးရှိပေ၏။ ယင်းတို့မှာ - ဗောဓိဉာဏ်ကို ရရှိပြီးဖြစ်သည့် တထာဂတခေါ်တွင် ငါဘုရားရှင်၊ ပစ္စေကဗုဒ္ဓါ၊ မြတ်ဗုဒ္ဓ၏ (အရိယာဖြစ်ပြီးသော) တပည့်သာဝက၊ စကြာဝတေးမင်းတို့ဖြစ်၏။ ထိုလေးယောက်တို့ကို အဘယ်ကြောင့် စေတီတည်ထိုက်သနည်းဟူမူ တစ်စုံတစ်ယောက်သည် ဤကား မြတ်စွာဘုရားရှင်၊ (ဤကား) ပစ္စေကဗုဒ္ဓါ အရှင်မြတ်များ၊ (ဤကား) အရိယာသာဝကများ၊ (ဤကား) စကြာဝတေးမင်း၏ စေတီတော်မြတ်ဖြစ်၏ဟု ဆင်ခြင်မိပါက စိတ်နှလုံး ငြိမ်းချမ်းပြီး စုတိပြတ်ကြွေ သေလွန်ပြီးသည်နောက်၌ မြင့်မြတ် သာလွန်သော နတ်ပြည်လောကသို့ ရောက်ရ၏။ ဤအကြောင်းကြောင့် ထို(ပုဂ္ဂိုလ်) လေးမျိုးတို့သည် စေတီတည်ထိုက်ခြင်းဖြစ်၏'ဟု မြွက်ဟ တော်မူသည် (ဒီ ၂။ ၁၁၇)။

ဗုဒ္ဓရှင်တော်မြတ်က ဆက်လက်၍ 'ထိုကြည်လင်သော စိတ်ထားဖြင့် ပန်းကိုဖြစ်စေ၊ နံ့သာကိုဖြစ်စေ၊ နံ့သာမှုန့်ကိုဖြစ်စေ စေတီတော်အားလှူဒါန်းလျှင် ယင်း(အလှူ)သည် ရှည်မြင့်စွာသော ကာလပတ်လုံးကောင်းကျိုး ချမ်းသာအတွက် ဖြစ်ပေလိမ့်မည် (ဒီ ၂။ ၁၁၇)'ဟုလည်း မိန့်တော်မူ၏။ ဗုဒ္ဓရှင်တော်မြတ် ကုသိနာရုံ၌ နောက်ဆုံး ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက် မြတ်ဗုဒ္ဓ၏ ဆွေတော်မျိုးတော်များ၊ များပြားလှသည့် ရှင်ဘုရင်များနှင့် လူမျိုးစုအဖွဲ့များ (ကုသိနာရုံသို့) ရောက်ရှိလာကြသည်။ ၎င်းတို့အားလုံးက (ဗုဒ္ဓ၏)ဓာတ်တော်ဝေစုကို ရပိုင်ခွင့်ရှိကြောင်း တောင်းဆိုကြသည်။ ရှစ်အုပ်စုအတွင်း သဘောမတူမှုများကြီးမား မြင့်တက်လာသည်။ ထိုအချိန်တွင် (ယင်းတို့၏ ဆရာဖြစ်ဖူးသူ) ဒေါဏပုဏ္ဏားက ဤသို့ဆိုသည် -

'အရှင်မင်းမြတ်တို့၊ ကျွန်ုပ်၏အကြံပြုချက်ကို နားထောင်တော်မူကြပါ။ ရှင်တော်ဗုဒ္ဓ၏ တရားဓမ္မများသည် သည်းခံခြင်းနှင့် ပတ်သက်ပါ၏။ ဗုဒ္ဓသည် အသာလွန်ဆုံးသော ယောကျ်ားမြတ်ပုဂ္ဂိုလ် ဖြစ်၍ ဓာတ်တော်များခွဲဝေမှုကြောင့် ဆူပူအငြင်းပွားမှု ဖြစ်ပေါ်လာခြင်းမှာ မသင့်လျော်ချေ။ လိုက်လျောညီထွေရှိခြင်း၊ ငြိမ်းချမ်းခြင်းဖြင့် အားလုံးညီညွတ်

လွန်းသည့် သာယာသော ပတ်ဝန်းကျင်များကို တွေ့ရှိနိုင်ကြသည်။ တစ်ချိန်တည်းတွင် ရဟန်းတော်များအနေဖြင့် ထိုပတ်ဝန်းကျင်မျိုး၌ ဤကဲ့သို့သော ပန်းခြံများမှာပင် တွေ့ရလေ့ရှိသည့် အခြားသော ပရိဗိုဇ်များနှင့်လည်း ပြောဆိုဆွေးနွေးခွင့်ရရှိကြသည်။

ဝိနယပိဋကအဆိုအရ ရာဇဂြိုဟ်မြို့မှ သူကြွယ်တစ်ယောက်သည် ရဟန်းတော်များ၏ တည်ငြိမ်သည့်သွင်ပြင်ကို ကြည်ညိုသဖြင့် ရဟန်းတော်များအား ကျောင်းငယ်များ ဆောက်လုပ်လှူဒါန်းပြီးနောက်၌ (ယင်းကျောင်းများ)သည် (အရှင်ဘုရားတို့အား) အပ်စပ်ပါသလားဟု မေးလျှောက်သောအခါ ဗုဒ္ဓရှင်တော်မြတ်က ‘ရဟန်းတို့၊ ဝိဟာရ = လေးဘက်မိုးကျောင်း၊ အၭုယောဂ = နှစ်ဖက်မိုးကျောင်း၊ ပါသာဒ = ပြာသာဒ်၊ ဟမ္မိယ = တိုက်ကတုံး၊ ဂုဟာ = လိုဏ်ဂူဟူသော နေထိုင်စရာကျောင်းငါးမျိုးကို ငါဘုရားခွင့်ပြု၏ (ဝိ ၄၊ ၂၉၀)’ဟူ၍ မိန့်တော်မူသည်။

ဂူမှတစ်ပါး ဖော်ပြပါကျောင်းငါးမျိုး၏ ကွဲပြားမှုမှာ မရှင်းလင်းချေ[၅]။ သို့သော် ယင်းငါးမျိုးလုံးကို မြေကြီး၊ သစ်သားနှင့် သက်ငယ်တို့ဖြင့် တည်ဆောက်ဖွယ်ရှိပြီး အဓိကအားဖြင့် အရွယ်ပမာဏနှင့် ပုံသဏ္ဍာန်အားဖြင့်သာ ကွဲပြားဖွယ်ရှိသည်။ ဗိမ္ဗိသာရမင်းက ဗုဒ္ဓအား မွေ့လျော်ဖွယ်ပန်းခြံတစ်ခု လှူဒါန်းပြီးနောက် အခြားပုဂ္ဂိုလ်များကလည်း အတုလိုက်၍ လှူဒါန်းလာကြပြီး ပိုမိုတည်မြဲခိုင်ခံ့သော အဆောက်အအုံများ ဆောက်လုပ်လာကြသည်။ ရဟန်းတော်များသည် တဖြည်းဖြည်း အခြေတကျ နေထိုင်လာကြသည်။ ထူးခြားသည်မှာ ကြံ့သတ္တဝါများကဲ့သို့ တစ်ကိုယ်တစ်ကာယ လှည့်လည်သွားလာခြင်း (သုတ္တနိ-၃၅ ဂါထာ)မှ

---

[၅] **ဝိဟာရော**တိ အၭုယောဂါဒိမုတ္တကော အဝသေသာဝါသော။ **အၭုယောဂေါ**တိ သုပဏ္ဏဝင်္ကဂေဟံ။ **ပါသာဒေါ**တိ ဒီဃပါသာဒေါ။ **ဟမ္မိယန္တိ** ဥပရိအာကာသတလေ ပတိဋ္ဌိတကူဋာဂါရော ပါသာဒေါယေဝ (ဝိ–ဋ္ဌ ၄၊ ၅၇)။ အၭုယောဂ၊ ပါသာဒ၊ ဟမ္မိယ၊ ဂုဟာမှတစ်ပါး ကျန်နေထိုင်စရာအားလုံးကို ဝိဟာရ၊ အၭုယောဂဟူသည် တစ်ဘက်မိုး၊ ပါသာဒဟူသည် နှစ်ဘက်မိုး၊ ဟမ္မိယဟူသည် တိုက်ကတုံးဟု မြန်မာ ပညာရှင်များ ပြန်ဆိုကြ၏။ သို့ရာတွင် ကျောင်းပုံစံအားလုံး ပေါ်လွင်၏ဟုကား မဆိုနိုင်ချေ (ဘာသာပြန်သူ)။



၍ဖြစ်သည်[၆]။ အဓိဋ္ဌာန်စေတီများတွင် ရာပေါင်းများစွာသော ဗုဒ္ဓဝင်နေရာငယ်များ၊ ဗုဒ္ဓကျမ်းစာမူများ၊ သို့မဟုတ် ထင်ရှားသည့် တရားတော်များ၏ အကျဉ်းချုပ် (ဓမ္မပရိယာယ်) ဥပမာ ‘ယေ ဓမ္မာ ဟေတုပ္ပဘဝါ၊ တေသံ ဟေတု တထာဂတော အာဟ၊ တေသဉ္စ ယော နိရောဓော၊ ဧဝံ ဝါဒီ မဟာသမဏော = အကြောင်းမှဖြစ်ပေါ်လာသော တရား၊ ထိုတရားတို့၏ အကြောင်းတရားကို တထာဂတဟောတော်မူ၏။ ထိုအကြောင်းတို့၏ ပြတ်စဲချုပ်ငြိမ်းရာ တရားကိုလည်း (ဟောတော်မူ၏)။ ရဟန်းမြတ်(ဗုဒ္ဓ)သည် ဤကဲ့သို့သော အယူဝါဒရှိတော်မူ၏’ စသည်ကို ရေးထွင်းထားသည့် မြေညက်ပြားများကို ထည့်သွင်း ဌာပနာလေ့ရှိကြသည်။ ရာပေါင်းများစွာသော အဓိဋ္ဌာန်စေတီများကို မဟာဗောဓိစေတီတော်၊ ကုသိနာရုံရှိ ပရိနိဗ္ဗာနစေတီတော်နှင့် နာလန္ဒာရှိ ဘုရားကျောင်းများပတ်လည်တွင် အစုလိုက်အပြုံလိုက် တွေ့ရသည်။

စေတီကို ပုံမှန်အားဖြင့် အစိတ်အပိုင်းငါးခုဖြင့် ဖွဲ့စည်းတည်ဆောက်လေ့ရှိကြသည်။ စည်ပုံ(မေဓိ)၊ ယင်း(စည်ပုံ)က ခံဆောင်ထားသည့် အမိုးခုံး(အဏ္ဍ)၊ အဏ္ဍ၏ထိပ်တွင် သေတ္တာပုံတစ်ခု သို့မဟုတ် ပလက်ဖောင်းမြင့် (ဟမ္မိက) လည်းရှိသည်။ ဤဟမ္မိက၏အလယ်မှ ထီးရိုး(ယရှတိ) တက်လာပြီး ယင်းထီးရိုးတွင် ထီးရွက်(ဆတ္တာဝလီ) တစ်ခု သို့မဟုတ် အများအပြား ဆောင်းမိုးထားသည်။ အိန္ဒိယအပြင်ဘက်တွင် ထီးရိုးနှင့်ထီးရွက်များသည် နောက်ဆုံး၌ အချွန်အထွတ်အဖြစ်သို့ပြောင်းလဲသွားသည်။ ယင်းပုံစံကို သီရိလင်္ကာ၊ ယိုးဒယားနှင့် တိဗက်စေတီများ၊ သို့မဟုတ် ဖောင်းရစ်များအထပ်ထပ်နှင့် ကွေးကောက် တံစက်မြိတ်များပါရှိသည့် တရုတ်နှင့်ဂျပန်စေတီများ၏ ပုံသဏ္ဍာန်ဖြစ်လာသည်။

---

[၆] ဤ၌ သရီရစေတီ၊ ဥဒ္ဒိဿစေတီ၊ ပရိဘောဂစေတီ (ဓမ္မပဒ–ဋ္ဌ ၂၊ ၁၆၁) သို့မဟုတ် ပရိဘောဂ စေတီ၊ ဓာတုစေတီ၊ ဓမ္မစေတီ (သာရတ္ထ–ဋီ ၁၊ ၁၇၂) ဟုဖော်ပြသော စေတီသုံးမျိုးနှင့် မတူကြောင်း မှတ်ယူသင့်ပါသည်။ အပါဒါန–ဋ္ဌ ၁၊ ၃၅၂ တွင် သာရီရိကစေတီ တစ်မျိုးကိုလည်း တွေ့ရသည်။ (ဘာသာပြန်သူ)။





## ခြံစည်းရိုးလက်ရန်း

ဗုဒ္ဓဝင်နေရာတော်များ၌ တွေ့ရသည့် အခြားဗိသုကာပုံစံ တစ်မျိုးမှာ စေတီတော်များကို ကာရံထားလေ့ရှိသည့် ခြံစည်းရိုးလက်ရန်း (ဝေဒိက) ဖြစ်သည်။ ခြံစည်းရိုးလက်ရန်းများကို သစ်ပင်များ၊ ကျောက်စာတိုင်များနှင့် စေတီတော်များကဲ့သို့သော အရိုအသေပြုခြင်း ခံရသည့် နေရာများကို ကာရံထားရန် အသုံးပြုခဲ့ပြီး မူလက သစ်သားဖြင့် ပြုလုပ်ခဲ့ကြသည်။ ကြာရှည်ခံပစ္စည်းကို အလိုရှိကြသောအခါ အဆိုပါသစ်သားလက်ရန်းများကို ကျောက်သားဖြင့် ပုံတူပြုလုပ်ခဲ့ကြသည်။ ခြံစည်းရိုးလက်ရန်းတွင် အပေါ်မတ်ကျောက်တိုင် (ထမ္ဘ)များ၊ လျောက်တန်း (သုဆိ)နှင့် ထိပ်ပိုင်းအနားသပ်တန်း (ဥဏှိသ)တို့ ပါဝင်ကြသည်။

ရှေးအကျဆုံး ဗုဒ္ဓအနုပညာလက်ရာတစ်မျိုးမှာ များသောအားဖြင့် အဝင်နေရာတွင်ရှိပြီး စွဲငြိဖွယ်တံခါးမုခ်ဦး (တောရဏ)ပါရှိသည့် စေတီတော်ခြံစည်းရိုးလက်ရန်းများ၏ ဒေါင်လိုက် ကျောက်တိုင်များတွင် ပါရှိသော ပန်းပုထွင်း လက်ရာများဖြစ်သည်။ အထူးခြားဆုံး အပြောင်မြောက်ဆုံး ခြံစည်းရိုးလက်ရန်းနမူနာများမှာ ဆန်ချိ (အရပ်)ရှိ ခမ်းနားစွာ ထွင်းထုထားသော လက်ရာများဖြစ်ကြသည်။ မဇ္ဈိမဒေသ၌ ယနေ့တိုင်တွေ့နိုင်သေးသည့် တစ်ခုတည်းသော လက်ရန်း(တိုင်)နှင့် မုခ်ဦးမှာ ဗုဒ္ဓဂယာတွင်ရှိသည်။

## ဘုန်းတော်ကြီးကျောင်းတိုက်များ

ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင်ကဲ့သို့ပင် ရှေးဦးဗုဒ္ဓဘာသာ ရဟန်းတော်များသည် တောများ၊ သစ်ပင်ရင်း သို့မဟုတ် အမိုးအကာမရှိသော နေရာများတွင် နေထိုင်လျက် ခရီးလှည့်လည် သွားလာနေထိုင်ကြသည်။ ထိုရဟန်းတော်များ နှစ်သက်ကျက်စားသည့် နေရာအချို့မှာ မြို့ကြီးမြို့ငယ်များ၏ အပြင်ကျကျနေရာများ၌ ချမ်းသာသည့် မြို့သူမြို့သားများ ထိန်း သိမ်းထားသော နှစ်သက်ဖွယ်ပန်းခြံ (အာရာမ)များဖြစ်ကြသည်။ ဤကဲ့သို့သော နေရာများတွင် ရဟန်းတော်များအနေဖြင့် (ဆွမ်းခံလှည့်လည်ရန်လိုအပ်သော) ဌာနေ(အခြေချနေထိုင်သူ)များနှင့် မဝေးလွန်းမနီး



လက်တော်အနေအထား



နို့နှင့်ရေ ရောနှောဘိသကဲ့သို့ အချင်းချင်း မေတ္တာမျက်လုံးဖြင့် ကြည့်ရှုကြလျက် ရင်းနှီးခြင်း၊ ညီညွတ်ခြင်းတို့ဖြင့် အတူတကွ နေထိုင်ခြင်း (မ ၃၊ ၁၅၆)သို့ တဖြည်းဖြည်း ပြောင်းလဲသွားသည်။

ဘုန်းတော်ကြီးကျောင်းအတွက် အထင်ရှားဆုံး အသုံးပြုသည့် ဝေါဟာရနှစ်ခုမှာ ရင်းမြစ်အားဖြင့် သံဃာ(အဖွဲ့အစည်း)က ပိုင်ဆိုင်သော ခြံဝင်းဟု အဓိပ္ပာယ်ရသည့် 'သံဃာရာမ'နှင့် အခြားတစ်ခုမှာ 'ဝိဟာရ'ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင် သီတင်းသုံးနေထိုင် အသုံးပြုသည့် ကျောင်းဆောင်ကိုမူ ဂန္ဓကုဋိ(နံ့သာတိုက်ခန်း)ဟု ရည်ညွှန်းဖော်ပြပြီး နှောင်းခေတ်ရာစုနှစ်များတွင် ဂန္ဓကုဋိဟူသောအမည်ကို မည်သည့် ဘုန်းတော်ကြီးကျောင်းတည်ဆောက်မှုတွင်မဆို ပင်မဘုရားခန်းအား ဂန္ဓကုဋိအဖြစ် သတ်မှတ်ထားကြသည်။ ဝိနယပိဋကတ၌ ကျောင်းများနှင့်ပတ်သက်၍ ဖော်ပြထားချက်များသည် ကျွန်ုပ်တို့အား အဆိုပါ ရှေးဦးပထမ (ရဟန်းတော်များအား) သင့်တော်သည့် ကျောင်းတိုက်များ မည်သို့မည်ပုံရှိသည်ဆိုသော အတွေးအမြင်ကို ရရှိစေသည်။

ထိုကျောင်းများ၌ ကျောင်းဝင်းအတွင်း အဝင်ဂိတ်ဆောင် (ဥပဋ္ဌာနသာလာ)၊ (ရဟန်းတော်)တစ်ပါးတည်း သီတင်းသုံးရာ တိုက်ယင်ခန်းငယ်များ (ပရိဝေဏ)၊ သိုလှောင်ခန်း (ကပ္ပိယကုဋိ)၊ မီးဖိုဆောင် (မီးတင်းကုပ် = အဂ္ဂိသာလာ)၊ အိမ်သာ (ဝစ္စကုဋိ)များရှိနိုင်ပြီး သောက်သုံးရေအတွက် ရေတွင်း တစ်ခုလည်း ပါရှိနိုင်သည်။ ရဟန်းတော်တစ်ပါး (သီတင်းသုံးရာ) အခန်းငယ်တွင် မင်းတုပ်ပါ တံခါးတစ်ခု၊ အကာအရံလက်ရန်းဖြစ်စေ၊ ဘားတန်းဖြစ်စေ ပါရှိသည့် ပြတင်းပေါက်တစ်ခုနှင့် ရှဉ့်များ၊ လင်းနို့များ မဝင်နိုင်စေရန် လိုက်ကာများပါရှိသည်။ အခန်းထဲတွင် အိပ်ရာ၊ ကုလားထိုင်၊ ကြမ်းခင်းကော်ဇော၊ ထွေးခံနှင့် ပစ္စည်းများချိတ်ဆွဲထားရန် ချိတ်တစ်ခုလည်းရှိသည်။ နာလန္ဒာရှိ အချို့သော (သံဃာနေ) အခန်းများ၌ နံရံတွင် စာအုပ်များ၊ မီးအိမ်များကိုထည့်ထားနိုင်သည့် ကလိုင်ပေါက်များရှိသည်။ အေဒီပထမရာစု နှစ်လောက်တွင် ဘုန်းတော်ကြီးကျောင်းများကို နောက်ထပ် နှစ်ပေါင်းထောင်ချီပြီး

ကြာနိုင်သည့်ပုံစံဖြင့် တည်ဆောက်ခဲ့ကြသည်။ တစ်ပါးတည်းနေ အခန်းငယ်များကို တစ်ဖက်စွန်းတွင် အဝင်ဆောင်နှင့် အခြားတစ်ဖက်စွန်းတွင် ဘုရားခန်းပါရှိသည့် လေးထောင့် သို့မဟုတ် စတုဂံပုံ ခြံဝင်းပတ်လည်၌ တည်ဆောက်ကြသည်။

## ဗုဒ္ဓဆင်းတုတော်

ကနဦး နှစ်ပေါင်းငါးရာနီးပါးမျှ ဗုဒ္ဓဆင်းတုတော်များ မပေါ်ပေါက်သေးပေ။ အနုပညာရှင်သည် ဗုဒ္ဓရှင်တော်မြတ် မျက်မှောက်ထင်ရှား ရှိခြင်းကို ညွှန်ပြလိုသောအခါ ထိုင်သူမဲ့ခုတင်ညောင်စောင်း၊ သို့မဟုတ် ပလ္လင်၊ သစ်ပင်၊ စေတီ၊ ခြေတော်ရာအစုံကဲ့သို့သော အထိမ်းအမှတ်များကို အသုံးပြုခဲ့ကြသည်။ ဗုဒ္ဓဂယာတွင် ယင်းသို့သော ခြေတော်ရာပါဒများနှင့် ဝိုင်းဝန်းသည့် ကျောက်တုံးကြီး သုံးခုရှိသည်။ ဘုရားဖူးများ ယနေ့တိုင် ဖူးမြော် ပူဇော်ကြဆဲဖြစ်သည်။ ပထမဆုံးသော ဗုဒ္ဓဆင်းတုတော် (ဗုဒ္ဓရူပ)များကို ဂရိတို့ ဩဇာသက်ရောက်ခံရဖွယ်ရှိသည့် ကုသန (Kusana) မင်းဆက်ခေတ်အတွင်း ထုလုပ်လာကြသည်။ နောက်ထပ် နှစ်ပေါင်း တစ်ထောင်ကာလကျော်သည်အထိ အိန္ဒိယအနုပညာရှင်များသည် ဗုဒ္ဓရှင်တော်မြတ်၏ ကရုဏာနှင့် ပညာတော်ကို ကျောက်နှင့် ကြေးတို့ဖြင့် ပုံဖော်ရန် ကြိုးပမ်းခဲ့ကြသည်။ အနုပညာရှင်များသည် ပြောင်မြောက်စွာ အောင်မြင်ခဲ့ကြသည်မှာ သံသယဖြစ်ဖွယ်မလိုချေ။

ဗုဒ္ဓဆင်းတုများသည် ပုံမှန်အားဖြင့် ကြာပွင့်ပလ္လင် (ပဒမာသန)ပေါ်၌ ထိုင် သို့မဟုတ် ရပ်ပြီး တစ်ခါတစ်ရံ လျောင်းတော်မူသည်။ လျောင်းတော်မူဟန်မှာ မြတ်ဗုဒ္ဓ ပရိနိဗ္ဗာန်စံတော်မူသည်ကို တင်စားသည်။ ဂုတ္တခေတ်လက်ရာများကဲ့သို့သော ရပ်တော်မူဆင်းတုများမှာ များသောအားဖြင့် သက်သောင့်သက်သာ အနေအထား 'သုံးမျိုးကွေး' (တြိဘင်္ဂ) မုဒြာများဖြစ်ကြပြီး ပလ္လခေတ် လက်ရာများမှာမူ တစ်စုံတစ်ခု သော အကြောင်းကြောင့် မတ်မတ်တည်တည် ပုံသဏ္ဌာန်များ ဖြစ်ကြသည်။ ကုလားထိုင် သို့မဟုတ် ပလ္လင်ပေါ်တွင် ထိုင်တော်မူ ဆင်းတုများ မှာ များသောအားဖြင့် ဗုဒ္ဓဂေါတမ(၏ပုံတော်များ) မဟုတ်ဘဲ နောင်ပွင့်မည့်



ဗုဒ္ဓလောင်းလျာ မေတ္တေယျ ဘုရားလောင်းပုံဖြစ်သည်။ ဗုဒ္ဓဆင်းတုအများစုမှာ ဦးခေါင်းတော်ထိပ်၌ မီးအိမ်ပုံတစ်ခု (ဥဏှိသ)၊ မျက်ခုံးနှစ်ခုအကြား သို့မဟုတ် နဖူးပေါ်တွင် အမှတ်အသား (ဥဏ္ဏာ) တစ်ခုနှင့် တစ်ခါတစ်ရံ လက်ဝါးနှင့် ခြေဖဝါးပြင်ပေါ်၌ စက်ဝိုင်းများပါရှိသည်။ ထိုအမှတ် အသားများမှာ မဟာပုရိသလက္ခဏာ ၃၂-ပါးထဲက အချို့ဖြစ်ပြီး ဘုရားရှင်အားလုံးတို့၏ ခန္ဓာကိုယ်၌ ပါရှိသည်ဟုဆိုသော မင်္ဂလာရှိသည့် အမှတ်အသားများ ဖြစ်ကြသည် (ဒီ ၃၊ ၁၁၆)။ နားရွက်ဖျားမှာ အမြဲတမ်းရှည်လျားနေပြီး ဗုဒ္ဓရှင်တော်မြတ်သည် တောမထွက်မီ အချိန်က အမှန်ရှိခဲ့သော ကြီးမားသည့်နားရွက်များကြောင့် (ဗုဒ္ဓဖြစ်ပြီးနောက်တွင်) ဤသို့ နားရွက်ရှည်များ ရှိလာသလားဟု စဉ်းစားဖွယ်ဖြစ်သည်။

ဗုဒ္ဓ၏သင်္ကန်း (စီဝရ)ကို ပုံမှန်အားဖြင့် ပုံစံနှစ်မျိုးဖြင့် ဖော်ပြလေ့ရှိကြသည်။ ပခုံးတစ်ဖက်လှစ်ဖော်ထားသည့်ဟန် သို့မဟုတ် သင်္ကန်းကို အပေါ်ပိုင်းကိုယ်ခန္ဓာအားလုံး ဖုံးထားသည့်ဟန်တို့ ဖြစ်သည်။ ဒုတိယနည်းဖြင့် သရုပ်ဖော်သည့်အခါ သင်္ကန်း၏အဆုံးစွန်းကို ဘယ်လက်တော်ဖြင့်ကိုင်ထားပြီး သင်းပိုင်(အန္တရဝါသက)ကို ခြေမျက်စိပတ်လည်တွင် တွေ့မြင်နိုင်သည်။ ဂုတ္တခေတ်ရုပ်တော်မူပုံများတွင် အပေါ်ရုံသင်္ကန်းသည် ခန္ဓာကိုယ်တွင် တွဲလောင်းကျနေလေ့ရှိပြီး သင်းပိုင်ကို ပတ်ထားသည့် ခါးပတ်ကိုတွေ့မြင်နိုင်သည်။

ရှေးဦး ဗုဒ္ဓဆင်းတုများတွင် မဏိ(ဦးခေါင်း)တော် နောက်ဘက်၌ ရောင်လျှံစက်ဝန်း(ပဘာမဏ္ဍလ) ပါရှိပြီး ဂုတ္တနှင့်ပလ္လခေတ်လက်ရာများ၌မူ ခန္ဓာတစ်ကိုယ်လုံး၏ နောက်ဖက်၌ ရှည်မျောသည့် ရောင်လျှံစက်ဝန်းပါသည်။ တစ်ခါတစ်ရံ အဆိုပါရောင်လျှံစက်ဝန်း၌ ဗုဒ္ဓသက်တော်ထင်ရှားရှိစဉ်က အဖြစ်အပျက်များကို သရုပ်ဖော်ထားသည်။

ဆင်းတုတော်များ၏ လက်တော်များကို မုဒြာပုံစံများစွာဖြင့် ထားလေ့ရှိသည်။ လက်နှစ်ဖက်စလုံး ရင်ခွင်ပေါ်ထားသည်မှာ ဈာန်သမာပတ်ဝင်စားနေသည့်ဟန် (ဈာနမုဒြာ)၊ လက်နှစ်ဖက်လုံး ရင်ဘတ်ရှေ့တွင် မြှောက်ထားသည်မှာ တရားစကြာကို လည်စေဟန် (ဓမ္မစက္ကပဝတ္တန

**ဂုတ္တခေတ်**

အေဒီ ၃၂၀–နောက်ပိုင်း ရာစုနှစ် ၃၀၀–ခန့် ရှည်ကြာခဲ့သော ဂုတ္တခေတ်သည် အိန္ဒိယယဉ်ကျေးမှု၏ ရွှေခေတ်ဖြစ်သည်။ ဂုတ္တဘုရင်အများစုသည် ဟိန္ဒူဘာသာဝင်များဖြစ်ကြသည်။ သို့ရာတွင် ဗုဒ္ဓဝါဒသည် ထို(ဟိန္ဒူဘုရင်များ)၏ အင်အားကောင်းသည့် အုပ်ချုပ်ရေးဖြစ်ထွန်းနေသော ပတ်ဝန်းကျင်တွင် ငြိမ်းချမ်းပြီး အဆင့်မြင့်စွာ ထွန်းလင်းခဲ့သည်။ အယ်လိုရာ၊ အဂျန္တာတို့၌ရှိသော အလှပဆုံးသော ဂူဘုရားကျောင်းအများအပြားနှင့် ပန်းချီပန်းပုများမှာ ဤဂုတ္တခေတ် နှောင်းပိုင်းခေတ်လက်ရာများဖြစ်ကြသည်။

ဤခေတ်အတွင်း နာလန္ဒာတွင် ၂၅–မီတာမြင့်သည့် သတ္တု(ဖြင့်ပြုလုပ်သောဗုဒ္ဓ) ဆင်းတုတစ်ဆူ တည်ဆောက်ခဲ့ကြောင်း ဟူယင်ဆန်က ဖော်ပြသည်။ စူလတန်ဂန်ဇ (Sultanganj)အရပ်မှ သပ္ပာယ်လှသည့် ဗုဒ္ဓကြေးဆင်းတုတော် (ယခုဘာမင်ဂန်ပြတိုက်၊ အင်္ဂလန်)သည် ဂုတ္တခေတ်ပြုလုပ်သည့် သတ္တုဘီးငယ်များ၏ စွမ်းရည်နှင့်ပတ်သက်သော အတွေးအမြင်များကို ရရှိစေသည်။ ထိုနည်းတူစွာ မိဂဒါဝုန်မှ အသပ္ပာယ်ဆုံးသော ကျောက်သား ပန်းပုလက်ရာများသည်လည်း ဤ(ဂုတ္တ)ခေတ်လက်ရာများ ဖြစ်ကြသည်။ ဂုတ္တခေတ်ကုန်အထိ အိန္ဒိယမြောက်ဖျားဒေသအများစုသည် အာရှအလယ်ပိုင်းမှ ဟန်(Hun)လူမျိုးတို့၏ ကျူးကျော်မှုများကြောင့် အကြီးအကျယ်ပျက်စီးခဲ့သည်။ မဇ္ဈိမဒေသရှိ ဗုဒ္ဓဝင်နေရာတော် အများအပြားသည် ဤခေတ်ကာလအတွင်း၌ ပျက်စီးခဲ့ကြောင်း အထောက်အထားများက ဖော်ပြလျက်ရှိသည်။

**ပလ္လဝခေတ်နှင့် သေနခေတ်များ**

အေဒီ ၈–ရာစုမှသည် ၁၃–ရာစု အနောက်ဖက်မှ မူဆလင်ကျူးကျော်သူများ ကျူးကျော်ဝင်ရောက်ချိန်အထိ ဘင်္ဂလားနယ်နှင့် မဇ္ဈိမဒေသ၏ အရှေ့ဖျားပိုင်းကို ပလ္လဝနှင့် နောင်တွင် သေနမင်းဆက်များ အုပ်ချုပ်ခဲ့သည်။ ပလ္လဝဘုရင်များအားလုံး ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြသည်။ ဤမင်း



မုဒြာ)၊ လက်ဝါးကို အပြင်ဘက်သို့ ရွှေ့ဆိုင်းထားလျက် လက်တစ်ဖက်ကို မြှောက်ထားသည်မှာ ကြောက်ရွံ့မှုကင်းသည်ကို ဖော်ပြသည့်ဟန် (အဘယမုဒြာ)ဖြစ်ပြီး လက်ဝါးကို အပြင်ဘက်သို့ ရွှေ့ဆိုင်းထားလျက် လက်ကို အောက်သို့ချထားသည့်ဟန်မှာ ဆုတော်ပေးသည့်ဟန် (ဝရဒါနမုဒြာ)ဖြစ်သည်။ မြေကြီးကို (လက်ဖြင့်) ထိထားသည့်ဟန် (ဘူမိဖဿမုဒြာ)တွင် လက်တော်တစ်ဖက် ရင်ခွင်တွင်ရှိပြီး အခြားတစ်ဖက်ကို ဒူးပေါ်တင်လျက် လက်ချောင်းများဖြင့် မြေကြီးကို ထိထားသည်။ **လလိတဝိတ္ထာရကျမ်း**အရ ဗောဓိဉာဏ်ကိုရပြီးနောက် မကြာမီ မြတ်ဗုဒ္ဓသည် မြေကြီးကို (လက်ချောင်းဖြင့်)ထိပြီး မိမိ၏ မြတ်သော အောင်မြင်မှုအတွက် သက်သေပြရန် မြေကြီးကို တိုင်တည်ခဲ့ကြောင်း သိရသည်။ တစ်ခါတစ်ရံ၌ ဗုဒ္ဓဆင်းတုတော်များ၏ဘေးတွင် ဥပါသကာများ၏ ရုပ်တုငယ်များ ပါရှိသည်။ ဥပါသကာများသည် ရှိခိုးပူဇော်နေသည့်ဟန် (အဉ္ဇလိမုဒြာ)ဖြင့် လက်ဝါး (နှစ်ခု)ပူးလျက် ရင်ဘတ်ပေါ်တွင် မြှောက်ချီထားကြသည်။

## ခေတ်အပိုင်းအခြားများ

အိန္ဒိယနိုင်ငံတွင် နှစ်ပေါင်း ၁၇၀၀ နီးပါးထွန်းကားခဲ့ပြီး အိန္ဒိယတိုက်ငယ်၏ နယ်စွန်နယ်ဖျား ဒေသများသို့တိုင် ပျံ့နှံ့သွားပြီးနောက် ဗုဒ္ဓဝါဒသည် အိန္ဒိယအနုပညာ၏ ဒေသဆိုင်ရာနှင့် မင်းဆက်များဆိုင်ရာ အမျိုးအစားများစွာတို့ကို ကိုယ်စားပြုသည်။ မဇ္ဈိမဒေသတွင် ထူးခြားပြောင်မြောက်ခဲ့သော ဗုဒ္ဓဝါဒအနုသုခုမပညာ၏ ခေတ်ကာလအပိုင်းအခြား ကို အကျဉ်းချုပ်မျှ ဖော်ပြလိုပါသည်။

**မောရိယခေတ်**

ပထမဆုံးသော ဗုဒ္ဓအနုပညာနမူနာများကို မောရိယခေတ် (ဘီစီ ၃၂၃–၁၈၇)အဖြစ် သတ်မှတ်ကြသည်။ အသောကမင်းကြီး တတိယမြောက်ဖြစ်သော မောရိယမင်းဆက်ဖြင့် (မှတ်၍) မောရယခေတ်ဟု အမည်ပေးခြင်း ဖြစ်သည်။ ဤခေတ်လက်ရာများမှာ အနည်းငယ်မျှသာ မပျက်

မစီး ကျန်ရစ်သော်လည်း ကျန်ရှိနေသည့် အနည်းငယ် (သောလက်ရာများ)တွင် ပုံသဏ္ဍာန်နှင့် လက်ရာပြောက်မှုမှာ ထူးထူးခြားခြား တူညီမှုရှိကြောင်း ဖော်ပြသည်။ ယင်းသို့ တူညီရခြင်းမှာ မောရိယဘုရင် ဧကရာဇ်သည် ဗဟိုချုပ်ကိုင်မှုများပြီး မပျက်မစီးကျန်နေသည့် အဆိုပါလက်ရာအများစုကို နိုင်ငံတော်က ဦးစီးဆောင်ရွက်ခဲ့ဖွယ်ရှိပြီး နိုင်ငံတော်ပိုင်အလုပ်ဆိုင်များ၌ပင် ထုလုပ်ခဲ့ဖွယ်ရှိသည်။

ပတ္တနားနှင့် အခြားဒေသအများအပြား၌ တွေ့ရှိရသည့် ရှေးဟောင်းမြေနီအုတ်ခွက် အနည်းငယ်မှတစ်ပါး မောရိယခေတ် အနုပညာအများစုသည် သဘာဝအားဖြင့် ချူနာရ် (Chunar) အရပ်မှထွက်သည့် သဲကျောက်ဖြင့်ပြုလုပ်ပြီး အဆင့်မြင့် ပြောင်လက်ညက်ညောစွာ အချောကိုင်ထားသည့် ကျောက်စာတိုင်များဖြစ်ကြသည်။ အသောကမင်း၏ ကျောက်စာတိုင်များနှင့် ကျောက်စာတိုင်ခေါင်းများ၊ ကုမာရဟာရ (Kumarahar)အရပ်ရှိ ကြီးမားသော ကျောက်တိုင်ဖြင့် ဆောက်လုပ်ထားသည့် ခန်းမဆောင်အပျက်အစီးများ၊ ဗုဒ္ဓဂယာရှိ ဝဇိရာသနနှင့် ဒါဒရဂါနိ (Dadargani) အရပ်မှ စောရိ (Cauri) သယ်ဆောင်သူ (ရုပ်တု) အားလုံးသည် ထိုလက္ခဏာသုံးရပ်ကို ဖော်ပြကြသည်။

## သုင်္ဂခေတ်

နောက်ဆုံး မောရိယမင်းကို ဘီစီ ၁၈၅–ခန့်တွင် ၎င်း၏ဗိုလ်ချုပ် ဖြစ်သူ ပုဿျမိတြသုင်္ဂ လုပ်ကြံသတ်ဖြတ်ပြီး သုင်္ဂမင်းဆက်ကို ကြေညာသည်။ ယင်း သုင်္ဂမင်းဆက်သည် အိန္ဒိယမြောက်ဖျားနှင့် အလယ်ပိုင်းဒေသအမြောက်အမြားကို ဘီစီ ၇၅–အထိ အုပ်ချုပ်ခဲ့သည်။ သုင်္ဂမင်းများသည် ဗြဟ္မဏဝါဒကို နှစ်သက်ကြသော်လည်း ထိုခေတ်သည် ဗုဒ္ဓဝါဒများစွာထွန်းကားခဲ့သော ခေတ်လည်းဖြစ်သည်။

သုင်္ဂခေတ်မှ အရေးအပါဆုံးအနုပညာလက်ရာမှာ မဇ္ဈိမဒေသ၏ အနောက်တောင်စွန်း ဘာရဟုတ(Bharhut)ဒေသရှိ ရောမစေတီကြီးမှ ခြံစည်းရိုးလက်ရန်းဖြစ်သည်။ စေတီတော်ကြီးတစ်ခုလုံး လုံးဝ ပျောက်ကွယ်သွားပြီးဖြစ်သော်လည်း ခြံစည်းရိုးလက်ရန်းအစိတ်အပိုင်းများနှင့်



မှခ်ဦးကိုမူ ကာလကတ္တားရှိ အိန္ဒိယပြတိုက်တွင် စုစည်း(ပြသ)ထားသည်။ ခြံစည်းရိုးလက်ရန်းတန်းများကို လှပစွာထွင်းထုထားပြီး ဗုဒ္ဓသက်တော်ထင်ရှားရှိစဉ်က အဖြစ်အပျက်များကို သရုပ်ဖော်ရန် ပထမဆုံးသော ကြိုးပမ်းမှုအချို့ ပါဝင်သည်။ ဘာရဟုတကျောက်လက်ရန်းကဲ့သို့ များပြားလှပစွာ ထွင်းထုထားသည်သာမက တစ်ခေတ်တည်းလည်းဖြစ်ဖွယ်ရှိသည့် ကျောက်လက်ရန်းမှာ မဟာဗောဓိစေတီကို ကာရံခဲ့သည့် ရှေးအကျဆုံး ကျောက်လက်ရန်းအစိတ်အပိုင်းဖြစ်သည်။

## ကုသန(ကုသျှန်)ခေတ်

ဘီစီ ၁၃၅–ခန့်တွင် တရုတ်နိုင်ငံ ကန်ဆု (Kansu)ဒေသ၌ အခြေစိုက်ခဲ့သည့် ကုသန(ကုသျှန်)ဟု ထင်ရှားလာသည့် လူမျိုးတစ်စုသည် အိန္ဒိယအနောက်မြောက်ဖျားသို့ ရောက်ရှိလာကြလျက် နောက်ဆုံး ဘင်္ဂလားဒေ့ရှ်အထိ ကျယ်ပြန့်ခဲ့သော ဧကရာဇ်နိုင်ငံတစ်ခုကို တည်ထောင်ခဲ့ပြီး အေဒီသုံးရာစုအထိ ကြာမြင့်ခဲ့သည်။ ကုသနမင်းများအနက် အထင်ရှားဆုံးဖြစ်သည့် ပထမကနိသျှကသည် ဗုဒ္ဓဝါဒနှင့် ဗုဒ္ဓဝါဒစာပေအနုပညာကို စိတ်အားထက်သန်သူ ခေါင်းဆောင် ဖြစ်သည်။ ၎င်းဘုရင်သည် ကက်ရှ်မီးယား၌ စတုတ္ထသံဂါယနာ တင်ခဲ့ခြင်းကြောင့် ထင်ရှားသည်။

ကုသနတို့၏ တောင်ဖျားမြို့တော်မှာ မဓုရာဖြစ်ပြီး ကုသနခေတ်အတွင်း မဓုရာမြို့၏ ကျွမ်းကျင်သော လက်မှုပညာရှင်များသည် ပြောင်မြောက်သည့် ပန်းပုလက်ရာအများအပြား ထုလုပ်ခဲ့ကြသည်။ မဓုရာမြို့လုပ် အနုပညာလက်ရာ နမူနာများကို မဇ္ဈိမဒေသတစ်ခွင်လုံးရှိ (ဗုဒ္ဓဝင်) နေရာတော်များ၌ တွေ့ရှိနိုင်သည်။ ပထမဦးဆုံးသော ဗုဒ္ဓဆင်းတုတော်များကို ၎င်း(ကုသန)ခေတ်တွင် ထုလုပ်ခဲ့ကြသည်။ ကုသနခေတ်လက်ရာ အများစုကို လှပသည့်အစက်အပြောက် ပါပန်းနုရောင် ဆိကြိ (Sikri)သဲကျောက်ဖြင့် ထုလုပ်သည်။ ၎င်းကျောက်မျိုးဖြင့် ထုလုပ်သော ဆင်းတုတော်များသည် ပကတိလူ၏ အသားအရေနှင့် သွင်ပြင်ပုံဟန်မျိုးရရှိသည်။ ကုသနခေတ်ကို ဒေလီ၊ မဓုရာ၊ အလာဟာဘတ်၊ လပ်ခနောင်း၊ မိဂဒါဝုန်နှင့် ကာလကတ္တားပြတိုက်များတွင် တွေ့ရှိနိုင်သည်။

(နေ)ခြင်းကြောင်း ယင်း(စီမံကိန်း)သည် ဟန်ဆောင်မင်္ဂလာတစ်ပါး (ဟန်ပြလုပ်ရပ် တစ်ခုအဖြစ်)သာ ရှိနေသည်။ ပတ်ဝန်းကျင် ရှင်းလင်းသည့် မိုးတွင်းကာလတွင် ဘုရားဖူးသည် လုမ္ဗိနီမှနေ၍ ဆီးနှင်းများ ထူထပ်နေသည့် ဒေလဂိရိနှင့် အန္နပူရဏတောင်ထွတ်များ၏ ခမ်းနားလှသည့် ရှုမျှော်ခင်းကို ကြည့်ရှုနိုင်သည်။

## ကြည့်ရှုဖွယ်

### အသောကကျောက်စာတိုင်

လုမ္ဗိနီရှိ ရှေးအကျဆုံးနှင့် အရေးအကြီးဆုံး အထိမ်းအမှတ်နေရာမှာ အသောကမင်းကြီး စိုက်ထူခဲ့သည့် ကျောက်စာတိုင် ဖြစ်သည်။ ဤကျောက်စာတိုင်သည် မိုးကြိုးပစ်ခံထားရသဖြင့် လုံးပတ်အောက်ဘက်သို့ အက်ကွဲရာရှိသည်။ တစ်ချိန်က ကျောက်စာတိုင်ထိပ်ပိုင်း၌ မြင်းရုပ်သဏ္ဌာန်ဖြင့် အုပ်မိုးထားကြောင်း ရဟန်းတော်ဟူယင်ဆန်ကဆိုသည်။ ယနေ့ကျောက်စာတိုင် အောက်ခြေတွင်ရှိနေသည့် အပျက်အစီးကျောက်တုံးသည် (ဟူယင်ဆန်ပြောပြသည့်) ကျောက်စာတိုင်ထိပ်၏ အပိုင်းအစများဖြစ်ဖွယ်ရှိသည်။ ကျောက်စာတိုင်၌ ရေးထွင်းထားသည့် စာသား (အဓိပ္ပာယ်) မှာ ဤသို့ဖြစ်သည် -

'အဘိသိက်ခံပြီးနောက် နှစ်ပေါင်းနှစ်ဆယ်အကြာတွင် နတ်တို့ချစ်မြတ်နိုးခြင်းခံရသူ ပိယဒဿီမင်းကြီးသည် ဤနေရာသို့ ရောက်ရှိခဲ့ပြီး ရှိခိုးပူဇော်ခဲ့သည်။ အကြောင်းမူ ဤနေရာတွင် သကျမင်းမျိုး ပညာရှိကြီး ဗုဒ္ဓဘုရားရှင် ဖွားမြင်တော်မူခဲ့သောကြောင့် ဖြစ်၏။ ပိယဒဿီမင်းကြီးသည် ကျောက်ရုပ်တစ်ခုနှင့် ကျောက်စာတိုင်တစ်ခု စိုက်ထူစေ၏။ ဤနေရာတွင် မြတ်ဗုဒ္ဓ ဖွားမြင်တော်မူခဲ့သောကြောင့် လုမ္ဗိနီရွာအား အခွန်ကင်းလွတ်ခွင့်ပြုပြီး ထွက်ကုန်၏ ရှစ်ဖို့တစ်ဖို့ကိုသာ ပေးဆောင်ရန်လို၏'။ ကျောက်စာတိုင် ထိပ်ဖျားအနီးတွင် 'ဥံမဏိပဒမေဟုံ' ဟူသော မန္တရဂါထာကို တိဗက်အက္ခရာဖြင့် ရေးတွင်းထားသည်။



များလက်ထက်၌ ဘုန်းတော်ကြီးကျောင်းနှင့် ဘုရားကျောင်းများ ချမ်းသာကြွယ်ဝပြီး အရှိန်အဝါ ကြီးမားသည်။ များသောအားဖြင့် စိမ်းနက်ရောင်ကျောက်နှင့် ကြေးထွင်းပန်းပုလက်ရာ အမြောက်အများနှင့် ပလ္လခေတ် ကနုတ်ခြယ်ပေရွက်ပေါ် ရေးသားသည့်စာမူများမှာ ယနေ့တိုင်မပျက်မစီးဘဲရှိသေးသည်။ ဆင်းတုတော်များအား 'သာဓနမာလာ' ကဲ့သို့သော ရုပ်ပုံဆွဲပညာဆိုင်ရာ ကျင့်ဝတ်များနှင့်အညီ တောက်ပစွာ ဆေးခြယ်ထားခြင်း ဖြစ်ဖွယ်ရှိသည်။ ကြွင်းကျန်သေးသည့် လက်ရာအားလုံးနီးပါးမှျသည် မူဆလင်တို့ ကျူးကျော်စဉ်အတွင်း ပုံသဏ္ဌာန်ကို ဖျက်ဆီးခံရမှုကြောင့် မျက်နှာတော်အားလုံး ပျက်စီးနေသည်။

တိဗက်နှင့်မြန်မာနိုင်ငံများ၌ ဗုဒ္ဓဝါဒအခြေချခဲ့သည်မှာ ပလ္လခေတ်အတွင်းဖြစ်ပြီး ယင်းနှစ်နိုင်ငံလုံး၏ ပန်းချီပန်းပုအနုပညာသည် ပလ္လခေတ်(အနုပညာ)အုပ်စု၏ ဩဇာသက်ရောက်မှုကို နက်ရှိုင်းစွာ ခံခဲ့ရသည်။ ပလ္လခေတ် ကျောက်နှင့် ကြေးဆင်းတုတော်များ စုဆောင်းပြသထားမှုကို မဟာဗောဓိစေတီတော်၏ အတွင်းအပြင်နှင့် ဒေလီ၊ နာလန္ဒာ၊ ပတ္တနားပြတိုက်များနှင့် ကာလကတ္တားရှိ အိန္ဒိယပြတိုက်နှင့် နိုင်ငံတော်ရှေးဟောင်းသုတေသနပြတိုက်များ၌ တွေ့ရှိနိုင်သည်။

# ၁။ လုမ္ဗိနီ

> သကျနိုင်ငံတော်အတွင်း လုမ္ဗိနီအမည်ရသည့် ကျေးရွာတွင် ဘုရားအလောင်းတော်တစ်ဆူ ဖွားမြင်ခဲ့ပြီ။ အမြင့်မြတ်ဆုံး အနှိုင်းမဲ့ရတနာပေပ။ သို့ဖြစ်၍ ကျွန်ုပ်တို့ ဤမျှလောက် ဝမ်းသာ ဤမျှလောက် စိတ်ဓာတ်တက်ကြွ ရွှင်လန်းရခြင်း ဖြစ်ပါ၏။
>
> (သုတ္တနိပါတ၊ ၆၈၇–ဂါထာ)။

ကိုယ်ဝန်ဆောင် နောက်ဆုံးလ ကုန်ခါနီးအချိန်တွင် မိဖုရားကြီး မဟာမာယာဒေဝီသည် ထိုခေတ်ထိုအချိန်က ဓလေ့ထုံးစံများနှင့်အညီ မိဘဆွေမျိုးများရှိရာ ဒေဝဒဟမြို့တော်၌ သားဦးရတနာကို ဖွားမြင်ရန် ရံရွေတော်များနှင့်အတူ ကပိလဝတ္ထုမှ ထွက်ခဲ့သည်။ ခြွေရံများ (နှင့်အတူ) လုမ္ဗိနီအမည်ရသည့် ဥယျာဉ်အနီးသို့ချဉ်းကပ်မိသောအခါ (မဟာမာယာဒေဝီသည်) ကမ္ဗဇလေလှုပ်ရှားလာပြီး ဥယျာဉ်အတွင်း အင်ကြင်းပင်တစ်ပင်အောက်တွင် သားရတနာကို ဖွားမြင်ခဲ့သည်။ ဘီစီ ၅၆၃–ခုနှစ် (အချို့ပညာရှင်များက ဘီစီ ၆၂၃–ခုနှစ်ဟုဆိုသည်။ ဘာသာပြန်သူ) မေလ (ဝိသာခ = ကဆုန်)၏ လပြည့်ညတွင် ကျွန်ုပ်တို့အား ကိုယ့်ကိုယ်ကိုသိမြင်ခြင်း၊ အသိပညာထွန်းလင်းမှု၊ ဘဝတူသတ္တဝါ အပေါင်းအား သတိထားမိခြင်းနှင့် ကရုဏာတရားတို့ကို တိုးပွားစေသည့် အလင်းရောင်တစ်ခုသည် ကမ္ဘာလောကအတွင်း ထွန်းလင်းတောက်ပသွားပြီး ယနေ့တိုင်လည်း ထွန်းလင်းတောက်ပဆဲဖြစ်လေသည်။

'ဘုရားအလောင်းတော် မိခင်ဝမ်းကြာတိုက်မှ ဖွားမြင်တော်မူသောအခါ နတ်ဗြဟ္မာတို့၏ အလင်းရောင်ကို ကျော်လွန်သည့် တောက်ပသော အလင်းရောင်တန်းကြီးတစ်ခု လောကအတွင်း ထွန်းလင်းတောက်ပသွားသည်။ စွမ်းအင်အာနုဘော် ကြီးမားကြသော်လည်း လရောင် နေရောင်များပင် မရောက်ရှိနိုင်သည့် မဟာဂလက်ဆီ ကြယ်စုများအကြားရှိ မည်းနက် မှုန်ဝါးသည့် အမှောင်ဒေသသို့ တိုင်အောင်ပင်



အဆိုပါ အလင်းရောင်တန်းကြီး ထွန်းလင်း တောက်ပသွားသည်။ ယင်းအမှောင်ဒေသတွင် နေထိုင်ကြသော သတ္တဝါများသည် ဤအလင်းရောင်ကိုအကြောင်းပြု၍ တစ်ယောက်ကိုတစ်ယောက် တွေ့မြင်လာကြပြီး ထိုသတ္တဝါတို့က ''ကြည့်စမ်းပါဘိ၊ ဤနေရာမှာ အခြားသတ္တဝါတို့လည်း ရှိကြပါသေးလား'' ဟု အချင်းချင်း ပြောဆိုကြသည် (မ ၃၊ ၁၆၅)'။

ဗုဒ္ဓသည် လုမ္ဗိနီတွင် ဖွားမြင်ခဲ့သော်လည်း သက်တော်ထင်ရှားရှိစဉ်အတွင်း တစ်ကြိမ်မျှသာ လုမ္ဗိနီသို့ ကြွရောက်နိုင်ခဲ့ပုံရသည်။ ရှေးဟောင်းအဋ္ဌကထာကျမ်းများ အဆိုအရ ဗုဒ္ဓရှင်တော်မြတ်သည် ကပိလဝတ္ထုမှ ဒေဝဒဟနိဂုံးရွာကြီးသို့ ကြွရောက်တော်မူစဉ် လမ်းခရီးအကြား လုမ္ဗိနီဥယျာဉ်၌ သီတင်းသုံးရင်း ဒေဝဒဟသုတ္တန်ကို ဟောတော်မူခဲ့သည် (မ ၃၊ ၁။ မ–ဋ္ဌ ၄၊ ၃)။ အသောကမင်းကြီးသည် ဘီစီ ၂၅၀–တွင် မြတ်ဗုဒ္ဓဖွားတော်မူရာ အရပ်သို့ ဘုရားဖူးရောက်ခဲ့ပြီး ကျောက်စာတိုင်ကြီးတစ်ခု (စိုက်ထူခြင်း)ဖြင့် မှတ်သားထားခဲ့သောကြောင့် (ယနေ့တိုင်) ကံကောင်းထောက်မစွာ (အဆိုပါလုမ္ဗိနီနေရာကို) သိရဆဲဖြစ်သည်။ သို့ရာတွင် ကပိလဝတ္ထုကဲ့သို့ပင် လုမ္ဗိနီသည်လည်း ၁၈၉၆–ခုနှစ် ရှာဖွေတွေ့ရှိချိန်ထိ နှစ်ပေါင်း တစ်ထောင်နီးပါးမျှ တောထဲတွင် ပျောက်ဆုံးနေခဲ့သည်။ ဤနေရာ၌ ပထမဦးဆုံးသော ရှေးဟောင်းသုတေသနဆိုင်ရာလုပ်ငန်းကို ၁၈၉၉–တွင် ပြုလုပ်ခဲ့ပြီး ထိုအချိန်မှစ၍ အကြိမ်ပေါင်း များစွာ နောက်ဆက်တွဲ လုပ်ငန်းများကို ဆောင်ရွက်ခဲ့သည်။

လုမ္ဗိနီဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့သည်မှာ ၁၉၆၇–ခုနှစ်တွင် ဗုဒ္ဓဘာသာကိုးရှိုးသူ ကုလသမဂ္ဂ အတွင်းဝန်ချုပ်ဟောင်း ဦးသန့် ဤလုမ္ဗိနီသို့ ဘုရားဖူးလာရောက်ပြီး နောက်ပိုင်းတွင်ဖြစ်သည်။ ထိုအချိန်မှစ၍ (လုမ္ဗိနီအကြောင်း) များစွာ ပြောဆိုလာကြပြီး ငွေအမြောက်အမြား စုဆောင်းနိုင်ခဲ့သော်လည်း အားလုံးနီးပါးမျှ (ယနေ့တိုင် အကောင်အထည်ဖော်) မဆောင်ရွက်နိုင်သေးချေ။ လုမ္ဗိနီသည် ငြိမ်းချမ်းသော လူသူများများ မရောက်နိုင်သေးသော နေရာတစ်ခုအဖြစ်သာ ရှိသေးသည်။ လုမ္ဗိနီဖွံ့ဖြိုးတိုးတက်ရေးကော်မတီ၏ လှုပ်ရှားမှုမရှိ

အသောကမင်းကြီးသည် ဂေါတမမြတ်စွာဘုရားမတိုင်မီ ပွင့်တော်မူသည့် တတိယမြောက်ဘုရားရှင် ကကုသန္ဓဖွားမြင်တော်မူသည့်နေရာ အထိမ်းအမှတ်အဖြစ်ဖြင့် ဤကျောက်စာတိုင်ကို စိုက်ထူခဲ့ကြောင်း ယုံကြည်ကြသည်။ သို့သော် ကျောက်စာ ရေးထွင်းထားသည်ကိုပင် မတွေ့ရတော့သောကြောင့် ဤကျောက်စာကို ခွဲခြမ်းစိတ်ဖြာမှု မပြုနိုင်ချေ။ ရွာအပြင်ဘက်တွင် စေတီကြီးတစ်ဆူ၏ အပျက်အစီးများလည်း ရှိသည်။

## သွားရောက်လိုလျှင်

လုမ္ဗိနီမှ တောလိဟဝသို့ ဦးတည်သွားနိုင်သည်။ သို့သော် လမ်းအလွန်ဆိုးဝါးသည်။ ရွာသူရွာသားများသည် လမ်းညွှန်ကြားရန် အလိုမရှိ သို့မဟုတ် လမ်းမညွှန်နိုင်ကြချေ။ ဘာအီရဝါမှ မြောက်ဘက်သို့ ၂၁–ကီလိုမီတာအကွာရှိ ဗုတဝါလ (Butwal)သို့ သွားလျှင် ပိုကောင်းပြီး ၎င်းနောက် မဟိန္ဒြာအဝေးပြေးလမ်းအတိုင်း အနောက်ဘက် ဂေါရသိဂ်သို့ သွားပြီး ၎င်းမှတစ်ဆင့် တောလိဟဝသို့ ရောက်နိုင်သည်။

## ရောဟိနီမြစ်

သကျလူမျိုးတို့၏ အနီးစပ်ဆုံးသော အိမ်နီးနားချင်းမှာ အရှေ့ဘက်ရှိ ဆွေမျိုးမကင်းသည့် ကောလိယလူမျိုးတို့ဖြစ်ကြသည်။ ကောလိယတို့၏ အဓိကမြို့များမှာ မြတ်စွာဘုရား၏မယ်တော် မဟာမာယာ ဖွားမြင်တော်မူရာဖြစ်ပြီး ရှေးဟောင်းသုတေသနပညာရှင်များ ရှာဖွေရဦးမည်ဖြစ်သည့် ဒေဝဒဟမြို့နှင့်၊ စေတီတစ်ဆူကြောင့် ကျော်ကြားပြီး ယခုအခါ ဓုတဝါလရွာ၏အရှေ့တောင်ဘက် ၁၃–ကီလိုမီတာအကွာရှိ တောင်ကုန်းများအဖြစ် သတ်မှတ်ထားသည့် ရာမဂါမတို့ဖြစ်ကြသည်။ သကျနှင့် ကောလိယနိုင်ငံနှစ်ခုအကြား နယ်စပ်ဒေသကို ယနေ့တိုင် ထိုအမည်ဖြင့် ခေါ်ဝေါ်ဆဲဖြစ်သည့် ရောဟိနီမြစ်ဖြင့် ပိုင်းခြားထားသည်။ ဤမြစ်တွင် ဗုဒ္ဓလက်ထက်တော်အခါက အလွန်ထင်ရှားသည့် အဖြစ်အပျက်တစ် ရပ်ရှိခဲ့သည်။ ဤအကြောင်းအရာကို ဓမ္မပဒအဋ္ဌကထာ (ဓမ္မပဒ–ဌ ၂၊ ၁၆၁) တွင် ဤသို့ဖော်ပြထားသည် -



## ဟိန္ဒူဘုရားကျောင်း

အသောကကျောက်စာတိုင်နှင့် ကပ်လျက်တွင် ရှေးဟောင်းဗုဒ္ဓဘာသာဘုရားကျောင်းနှင့် စေတီတော် အပျက်အစီးနေရာ၌ (ပြန်လည်) တည်ဆောက်ထားသည့် ဟိန္ဒူဘုရားကျောင်းရှိသည်။ (ဗုဒ္ဓဘာသာ)ဘုရားကျောင်းကိုရော စေတီကိုပါ ၁၈၉၉–တွင် တူးဖော်တွေ့ရှိသည်။ ဘုရားကျောင်းအတွင်းပိုင်းတွင် နတ်တို့သနင်း သိကြားမင်းက မွေးကင်းစမင်းသားသိဒ္ဓတ္ထအား ခံယူနေစဉ် မဟာမာယာမိဖုရားက အင်ကြင်းပင်ကို ရှုငေးနေပုံ သရုပ်ဖော်လျက် ကျောက်ပြားပေါ် ရေးထွင်းပြီး ဆိုးဆိုးရွားရွား ဖျက်ဆီးခံထားရသည့် ရုပ်တုတစ်ခုရှိသည်။ ဤရုပ်တုကို ဂုတ္တခေတ်အစောပိုင်းလက်ရာဟု သတ်မှတ်ထားပြီး ဒေသခံ ဟိန္ဒူဘာသာဝင်များက ရူပဒေဝီ သို့မဟုတ် ရုမ္မိန်ဒေဝီ (Rummindevi)ဟု အမျိုးမျိုးခေါ်ဝေါ်လျက် နတ်သမီးအဖြစ် ပူဇော်ကြသည်။ ပန်းပုလက်ရာ၏ ညာဘက်တွင် ရှေးခေတ်ပန်းပုလက်ရာ၏ပုံတူတစ်ခုရှိသည်။ ဘုရားကျောင်းအပြင်ဘက်တွင် ဘုရားဖူးသည် မူလဘုရားကျောင်း၏ သပ်ရပ်လှပစွာ (ပန်းပု)ထွင်းထုထားသည့် အုတ်ချပ်များကို သတိပြုမိနိုင်သည်။

## ရေကန်

(ဟိန္ဒူ)ကျောင်း၏ တောင်ဘက် အနည်းငယ်အကွာတွင် မင်းသိဒ္ဓတ် ဖွားမြင်ပြီးနောက် မဟာမာယာမိဖုရား ရေချိုးခဲ့သည်ဟု အစဉ်အလာအရ ပြောဆိုသည့် ရေကန်ငယ်ရှိသည်။ ရဟန်းတော် ဟူယင်ဆန်တို့ခေတ်က ရေသည် ကြေးမုံမှန်ကဲ့သို့ ကြည်လင်တောက်ပနေပြီး ရေမျက်နှာအပြင်မှာ ပန်းမျိုးစုံတို့ဖြင့် ဖုံးလွှမ်းနေသည်။

## အပျက်အစီးများ

ရေကန်ဘေးတွင် ပျက်စီးနေသည့် စေတီတော်နှင့် ဘုရားကျောင်းများ စုပြုံလျက်ရှိသည်။ ဤဒေသကို တူးဖော်စဉ်က တွေ့ရှိရသည့် ရှေးဟောင်းပစ္စည်း အနည်းငယ်က လုမ္ဗိနီသည် ၁၀–ရာစုတိုင်အောင် ဗုဒ္ဓဘာသာ၏ အချက်အချာ နေရာတစ်ခုအဖြစ် တည်ရှိခဲ့ကြောင်း ညွှန်ပြလျက်ရှိသည်။ ဤ(ရှေးဟောင်း)နယ်မြေ အတွင်းရှိ မြှက်ထူထပ်သည့်

တောင်ကုန်းနှစ်ခုမှာ ဘုရားဖူးများ တစ်ခါတစ်ရံ လက်ယာရစ် လှည့်လည်ကြသော်လည်း မြေပုံသက်သက်သာဖြစ်ပြီး ၁၉၃၃–၃၄ ခုနှစ် များက တူးဖော်စဉ်အတွင်း ပုံထားခဲ့သည့် အုတ်ကျိုးများသာဖြစ်သည်။

**ခေတ်သစ်ဘုရားကျောင်းများ**

ထိုအပျက်အစီးများ၏ အရှေ့ဘက် အနည်းငယ်အကွာတွင် ခေတ်သစ်ဘုရားကျောင်းနှစ်ခုရှိသည်။ ပထမအဆောက် အဦးမှာ နီပေါထေရဝါဒဗုဒ္ဓဘာသာအသင်းက တည်ဆောက်ခဲ့သည့် ကျောင်းတိုက်ဖြစ်ပြီး ဒုတိယမှာ ကဿပဂိုဏ်းဝင် တိဗက်ကျောင်းဖြစ်သည်။

**လုမ္ဗိနီသို့**

လုမ္ဗိနီသည် နီပေါအတွင်း အနီးဆုံးမြို့တစ်မြို့ဖြစ်သော ဘာအီရဝါ (Bhairawa သို့မဟုတ် Bhairahwa ဟုလည်း စာလုံးပေါင်းသည်၊ သို့သော် ယခုအခါ အစိုးရဂေဇက်ဝင်အမည်ကို သိဒ္ဓတ္ထနဂရ Sidhartha Nagar ဟု အမည် ပြောင်းထားပြီး ဖြစ်သည်) မြို့မှ အနောက်ဘက်သို့ ၁၈–ကီလိုမီတာ ဝေးသည်။ အိန္ဒိယနယ်စပ်ဘက်မှဆိုလျှင် ဂေါရခပူရ (Gorakhpur) မြို့မှ ရထား သို့မဟုတ် ကားဖြင့် နောင်ဂါး (Naugarh) မြို့မှမူ ကားဖြင့် ဆိုနောလီ (Sonauli)မြို့မှ နယ် စပ်ကိုဖြတ်ပြီး ဘာအီရဝါမှ ဆက်လက်၍ သွားနိုင်သည်။

**လုမ္ဗိနီဝန်းကျင်**

လုမ္ဗိနီအနီးဝန်းကျင်တွင် အတိအကျ မဖော်ထုတ်နိုင်သေးသော တောင်ကုန်းများ၊ အပျက်အစီးများနှင့် ရှေးဟောင်းပစ္စည်းများ မြောက်မြားစွာရှိသည်။ ၎င်းတို့အနက် အများစုကို ဘုရားဖူးပုဂ္ဂိုလ်များ စိတ်ဝင်စားပေလိမ့်မည်။ လုမ္ဗိနီအ နောက်ဘက် ၂၂–ကီလိုမီတာအကွာတွင် တောလိဟာဝ(Taulihawa)ရွာရှိပြီး ယင်း၏မြောက်ဘက် အတန်ငယ်အကွာတွင် တိလောရကောဋ္(Tilaurakot)ခေါ် အပျက်အစီးပုံများရှိသည်။ ယင်းနေရာကို နီပေါအာဏာပိုင်တို့က ကပိလဝတ္ထုဟု အသည်းအသန် ပြောဆိုနေကြသည်။ (အိန္ဒိယမြောက်ဖျားနယ်စပ်ရှိ) ပိပရာဟဝါ (Piprahwa)



အရပ်ကို (ရှေးဟောင်း)ကပိလဝတ္ထုမြို့တော်အဖြစ် ဖြစ်နိုင်ဖွယ်ရှိပြီး အငြင်းမပွားနိုင်သော အမှန်အတိုင်း တွေ့ရှိခြင်းသည် ယခုအခါ အဆိုပါ (နီပေါအာဏာပိုင်တို့၏) ပြောဆိုချက်ကို ယုတ္တိမတန်ကြောင်း ဖော်ပြပြီးဖြစ်သည်။ သို့တစေ တောလိဟာဝသည် ၎င်းမှတစ်ဆင့် အခြားစိတ်ဝင်စားဖွယ်နေရာနှစ်ခုသို့ သွားရောက်ရန် အသုံးဝင်သောနေရာ ဖြစ်သည်။

**နိဂလိဟာဝနှင့်ဂေါတိဟာဝ**

တောလိဟာဝ၏ မြောက်ဘက် ခြောက်ကီလိုမီတာခန့်အကွာတွင် နိဂလိဟာဝ(Niglihawa)ရွာရှိသည်။ ရွာအပြင်ဘက် လောက်တွင် ရေကန်တစ်ခုရှိပြီး ထိုရေကန်၏ အနောက်ဘက်တွင် အသောကကျောက်စာတိုင် အကျိုးနှစ်ခုရှိသည်။ ကျောက်စာတိုင် အကျိုးပိုင်းတွင် ရေးထွင်းထားသည့်စာ (၏အဓိပ္ပာယ်မှာ) 'ဘိသိက်ခံပြီးနောက် ၁၄–နှစ် အကြာ၊ နတ်တို့ ချစ်မြတ်နိုးခြင်းခံရသော ပိယဒဿီမင်းကြီးသည် ကောဏာကမန (Konakamana) ဘုရား၏စေတီတော်ကို အရွယ်အစား နှစ်ဆပြုပြင်မွမ်းမံခဲ့ပြီး ဘိသိက်ခံပြီးနောက် နှစ် ၂၀–အကြာတွင် လူကိုယ်တိုင် လာရောက်၍ ရှိခိုးပူဇော်လျက် ကျောက်စာတိုင် စိုက်ထူခဲ့၏' ဟု ဖြစ်သည်။

ကောဏာကမနဟူသည် (ဤကမ္ဘာ၌) ဂေါတမဘုရားရှင်မတိုင်မီ ပွင့်တော်မူပြီးသည့် ဒုတိယမြောက်ဘုရားရှင်ဖြစ်သည့် ကောဏာဂမန၏ အမည်ကွဲတစ်ခုဖြစ်သည်။ အသောကကျောက်စာတွင် စေတီတော်တစ်ဆူရှိကြောင်းကို ဖော်ပြထားပြီး ဟူယင်ဆန်ကလည်း ယင်းသို့သော စေတီတစ်ဆူဖူးတွေ့ရကြောင်း ဖော်ပြခဲ့သည်။ ယနေ့ခေတ်၌မူ စေတီတည်ရှိကြောင်း အစအနပင် မတွေ့ရတော့ချေ။ ဤကျောက်စာတိုင် အကျိုးအပဲ့များကို လက်ရှိနေရာသို့ မူလနေရာမှ ရွှေ့ပြောင်းယူလာခဲ့သည်ဟုလည်း ယူဆနိုင်ဖွယ်ရှိသည်။

တောလိဟာဝရွာ၏ အနောက်တောင်ဘက် ၄–ကီလိုမီတာအကွာတွင် ဂေါတိဟာဝ(Gotihawa) ရွာရှိသည်။ ဤရွာ၏အလယ်တွင် အသောက ကျောက်စာတိုင် အခြားတစ်ခု၏ အကျိုးအပိုင်းတစ်ခု ရှိသည်။

## ရောဟိနီသို့ သွားရောက်ရန်

ရောဟိနီမြစ်သည် ပါရသီ (Parasi)မြို့သို့ သွားသည့် လမ်းမပေါ်တွင် တည်ရှိသည်။ ဘာအိရဝါမြို့ အရှေ့ဘက် တည့်တည့်တွင် တည်ရှိသည်။ ရောဟိနီသည် ဒုတယဖြတ်ကျော်ရသည့် မြစ်ဖြစ်သည်။ ၁၉၈၉-တွင် ဤလမ်းသည် ကြမ်းပြီး ကတ္တရာ မခင်းရသေးချေ။





သကျနှင့်သာကိယတို့သည် ကောက်ပင်များ ရေရရှိရေးအတွက် (ရောဟိနီ)မြစ်ကို တာတမံ ဆည်ကြသည်။ နွေရာသီရောက်သောအခါ လူတိုင်းအတွက် ရေမလုံလောက်ကြောင်း ပေါ်လွင်ထင်ရှားလာသည်။ 'အပြောအဆို ရင့်သီးလာကြ၏။ တစ်ယောက်က အခြားတစ်ယောက်ကို ရိုက်နှက်ရာ (ခံရသူက) တုံ့ပြန်၏။ ခိုက်ရန်ဖြစ်ပွားကြ၏။ ရန်ဖြစ်သဖြင့် ၎င်းတို့သည် ဘုရင်မိသားစုဝင်များ၏ ရင်းမြစ်နှင့်ပတ်သက်၍ မဟုတ်မမှန် သတင်းများ ပစ်လွှင့်ကြ၏'။ ၎င်းတို့အား ရည်ညွှန်းထားသည့် စော်ကားမှုများကို သကျနှင့် ကောလိယဘုရင့် အသိုင်းအဝိုင်းသို့ ပေါက်ရောက်သွားသောအခါ ချပ်မိန်ကို ဝတ်ဆင်ပြီး လက်နက် စွဲကိုင်လျက် ၎င်းတို့၏ဂုဏ်ရည်ကို မြင့်တင်ရန် ဆုံးဖြတ်ကြသည်။

နံနက်ခင်းအချိန် ဗုဒ္ဓရှင်တော်မြတ် လောကကို ရှုကြည့်တော်မူသောအခါ ဆွေတော်မျိုးတော်များကို မြင်တွေ့သဖြင့် 'ငါဘုရား မသွားရောက်ခဲ့သော် ဆွေတော်မျိုးတော်များသည် အချင်းချင်း ပျက်စီးစေကြလိမ့်မည်။ ၎င်းတို့ထံသို့ သွားရောက်ရန် ငါဘုရားမှာ တာဝန်ရှိပေ၏'ဟု ဆင်ခြင်တော်မူသည်။ ဗုဒ္ဓရှင်တော်မြတ်သည် ဆွေတော်မျိုးတော်များ စုရုံး ရောက်ရှိနေကြသည့်နေရာသို့ ကောင်းကင်ခရီးဖြင့် ကြွရောက်တော်မူခဲ့ပြီး ရောဟိနီမြစ်အလယ် ကောင်းကင်၌ တင်ပလ္လင်ခွေ ထိုင်နေတော်မူသည်။ ဆွေတော်မျိုးတော်များ မြတ်ဗုဒ္ဓကို တွေ့မြင်ကြသောအခါ ၎င်းတို့သည် လက်နက်ကို ပစ်ချကြပြီး ရှိခိုးဦးညွှတ်ကြသည်။ ထိုအခါ ဗုဒ္ဓမြတ်စွာက ဤသို့မေးမြန်းတော်၏ –

'မင်းမြတ်တို့၊ ဘာကို အကြောင်းပြု၍ အငြင်းပွားကြပါသလဲ'

'တပည့်တော်တို့ မသိပါဘုရား'

'ဒါဖြင့် ဘယ်သူ သိပါသလဲ'

'စစ်တပ် ဗိုလ်ချုပ်ကြီး သိပါလိမ့်မည် အရှင်ဘုရား'

ဗိုလ်ချုပ်ကြီးကို မေးမြန်းသောအခါ ၎င်းကဘုရင်ခံချုပ်သိပါလိမ့်မည်ဟုဆိုသည်။ ဤသို့ဖြင့် ဗုဒ္ဓရှင်တော်မြတ်သည် ပြဿနာဖြစ်ရခြင်း၏ အကြောင်းရင်းကို တစ်ယောက်ပြီး တစ်ယောက် မေးမြန်းသော်လည်း



မည်သူမျှ (အတိအကျ) မသိကြချေ။ အလုပ်သမားများအား မေးမြန်းသည်။ ၎င်းတို့က ဤသို့ဖြေကြား၏ –

'ရေနှင့်ပတ်သက်၍ အငြင်းပွားမှု ဖြစ်ပါသည်အရှင်ဘုရား'

ထိုအခါ မြတ်စွာဘုရားက မင်းကြီးများအား ဤသို့မိန့်တော်မူသည်–

'မင်းကြီး၊ ရေရဲ့တန်ဖိုးက ဘယ်လောက်ရှိပါသလဲ'

'မပြောပလောက်ပါဘုရား'

'စစ်သားတစ်ယောက်ရဲ့ တန်ဖိုးကား ဘယ်လောက်ရှိပါသလဲ'

'စစ်သားတစ်ယောက်ရဲ့ တန်ဖိုးကား အဖိုးမဖြတ်နိုင်ပါဘုရား'

ထိုအခါ မြတ်စွာဘုရားက 'တန်ဖိုးမရှိတဲ့ ရေကိုအကြောင်းပြုပြီး တန်ဖိုးမဖြတ်နိုင်တဲ့ စစ်သားတွေကို သတ်ဖြတ်ခြင်းသည် မှန်ကန်ပါမည်လား'ဟု မေးမြန်းတော်မူ၏။ ၎င်းတို့အားလုံး တိတ်ဆိတ်နေကြသည်။ 'မင်းမြတ်အပေါင်းတို့၊ သင်တို့ ဘာကြောင့် ဤသို့ပြုမူကြဘိသနည်း၊ ဤနေရာမှာ ယနေ့ ငါဘုရားမရှိခဲ့လျှင် သင်တို့တစ်တွေ သွေးချောင်းစီးမှု ဖြစ်ပေါ်စေကြလိမ့်မည်။ သင်တို့၏ ပြုမူလှုပ်ရှားမှုများကား အဓိပ္ပာယ်မရှိ။ သင်တို့သည် ရန်သူငါးမျိုး ဖြစ်ပေါ်စေသည့် အမုန်းတရားဖြင့် နေထိုင်ကြ၏။ ငါကား ပြည့်ဝသော မေတ္တာဖြင့်နေထိုင်ပေ၏။ သင်တို့ကား တပ်မက်မှုဖြင့် နာမကျန်းဖြစ်လျက် နေထိုင်ကြ၏။ ငါကား ယင်းရောဂါမှ ကင်းလွတ်လျက် နေထိုင်ပေ၏။ သင်တို့ကား အာရုံကာမဂုဏ်တရား ငါးမျိုးနောက်သို့ လိုက်လျက် နေထိုင်ကြ၏။ ငါကား ရောင့်ရဲနှစ်သက်စွာ နေထိုင်၏'ဟု ဟောတော်မူသည်။

ဤအဖြစ်အပျက်ကား ရောဟိနီမြစ်၏ မည်သည့်နေရာတွင် ဖြစ်ပွားခဲ့သည်ကို ယခုအခါ အတိအကျမသိရပါချေ။ သို့ရာတွင် ရောဟိနီမြစ်ကမ်း၌ ထိုင်လျက် ဗုဒ္ဓရှင်တော်မြတ်၏ ပြန်လည်သင့်မြတ်ရေး ဖြန်ဖြေမှုနှင့် ငြိမ်းချမ်းရေး ဆောင်ရွက်ပုံအကြောင်း စိတ်အာရုံတွင် စဉ်းစားလိုက်ရခြင်းသည် အသည်းခိုက်ဖွယ် အကောင်းဆုံးသော အတွေ့အကြုံတစ်ရပ်ဖြစ်နိုင်ပေသည်။

အကြောင်းမှု မင်းသမီးသည် သကျတို့က ၎င်း၏သားတော်အား လေးလေးစားစား ဆက်ဆံနိုင်စွမ်းရှိကြမည် မဟုတ်သည်ကို (ကြို) သိနှင့်ထားသောကြောင့်ဖြစ်သည်။

နောက်ဆုံး၌ ဝိဋူဍဘသည် သွားရောက်လည်ပတ်ခဲ့သည်။ ရရှိသော အေးစက်စက် အရိုအသေပေးမှုကြောင့် စိတ်ထင့်သွားခဲ့သည်။ ပြန်လည် ထွက်ခွာပြီးနောက် ဝိဋူဍဘ၏နန်းတွင်း အခြွေအရံတစ်ယောက်သည် မေ့လျော့ကျန်နေခဲ့သည့် လက်နက်ကို ပြန်လည်ရယူရန် ပြန်လာခဲ့ရာတွင် ကျွန်မတစ်ယောက် ဝိဋူဍဘထိုင်နေခဲ့သည့်နေရာကို နို့ရည်ဖြင့် ဆေးကြောလျက် ဝိဋူဍဘအား ကျွန်မသားဟု အထင်သေးစွာ ရည်ညွှန်းပြောဆိုနေသည်ကို တွေ့ရသည်။ ထိုမင်းချင်း ယောကျ်ားသည် ထိုအမျိုးသမီး ရည်ရွယ်သည့်အရာကို စုံစမ်းသောအခါ ကျွန်မက (အကြောင်းစုံကို) ပြောပြသည်။ ဖြစ်ကြောင်းစုံလင် ဝိဋူဍဘထံရောက်သွားသောအခါ ဝိဋူဍဘ အကြီးအကျယ် ဒေါသဖြစ်သွားပြီး ‘ငါထိုင်တဲ့နေရာကို သန့်ရှင်းအောင်လို့ ဒင်းတို့က နို့ရည်နှင့် ဆေးနှင့်ကြဦးပေါ့။ ငါ မင်း ဖြစ်လာလျှင် ဒီနေရာကို ဒင်းတို့ လည်ချောင်းသွေးနှင့် ငါ (ပြန်) ဆေးပစ်မယ်’ ဟု ရန်ငြိုးဖွဲ့သည်။

ဝိဋူဍဘ ကြုံးဝါးခဲ့သည့်အတိုင်း ဖြစ်ပျက်ခဲ့သည်။ ဝိဋူဍဘသည် သကျတို့အား ရန်ငြိုးအတိုင်း ဆောင်ရွက်ရန် သုံးကြိမ်တိုင်တိုင် စစ်တပ်ဖြင့် ချီတက်ခဲ့သည်။ သုံးကြိမ်လုံးတွင် ဗုဒ္ဓရှင်တော်မြတ်က (သကျတို့၏) အန္တရာယ်ဆိုးကို လွှဲဖယ်နိုင်စွမ်းရှိခဲ့သည်။ သို့ရာတွင် နောက်ဆုံး၌ ဝိဋူဍဘသည် နည်းလမ်းရသွားခဲ့သည်။ သကျလူမျိုးများစွာ အစုလိုက် အပြုံလိုက် အသတ်ခံရပြီး ကပိလဝတ္ထုတစ်မြို့လုံး ထွားထွားကြေညက်သွားသည်။ မဟာဝံသဋီကာအဆိုအရ ကြွင်းကျန်နေသော သာကီယတို့သည် တောင်ကုန်းဒေသများသို့ ထွက်ပြေးကြပြီး ထိုနေရာ၌ မရိယနဂရ (Mariyanagara) မြို့တည်ကြသည်ဟု သိရသည်။

ဖာဟီယာန် ရောက်သွားသောအခါ (ကပိလဝတ္ထုမြို့) နေရာသည် လုံးဝနီးပါး စွန့်ပစ်ခံဒေသတစ်ခုဖြစ်နေပြီ။ ‘အားလုံးမှာ မြေတောင်ပို့သာ

## ၂။ ကပိလဝတ္ထု

အရှင်ဘုရား၊ ကပိလဝတ္ထုသည် ချမ်းသာကြွယ်ဝပါ၏။ လူအများ ပြည့်နှက်စည်ကားလျက်ရှိပြီး လူဦးရေ ထူထပ်လှပါ၏။ ဘုန်းတော်ကြီးသော မြတ်စွာဘုရားနှင့် ပူဇော်အထူးကို ခံယူထိုက်သော ရဟန္တာအရှင်မြတ်များအား လာရောက်ဖူးမြော်ပြီး ညနေအချိန် ကပိလဝတ္ထုမြို့ထဲသို့ ဝင်သွားသောအခါ တပည့်တော်သည် ဆင်များ၊ မြင်းများ၊ (မြင်း) ရထားများ၊ လှည်းများနှင့် သွားလာလှုပ် ရှားနေကြသည့် လူအပေါင်းကို တွေ့ပါ၏ (သံ ၃၊ ၃၂၃)။

ကပိလဝတ္ထုသည် သာကီယတို့၏ မြို့တော်ဖြစ်ပြီး မင်းသားသိဒ္ဓတ္ထ ပထမနှစ်သုံးဆယ်ကို ကုန်လွန်ခဲ့သည့် နေရာဖြစ်၏။ ဗုဒ္ဓပွင့်တော်မမူမီ ရာစုနှစ်ပေါင်းများစွာအလွန်က ဥက္ကာကမင်းကြီးသည် ၎င်း၏အငယ်ဆုံး သားတော်အား ထီးနန်းကို ပေးနိုင်ရန် ၎င်း၏သားတော်ကြီးများအား မြို့တော်မှ နှင်ထုတ်ခဲ့သည်။ ပြည်နှင်ဒဏ်ခံရသည့် သားတော်များသည် ဟိမဝန္တာတောင်ခြေအနီး ‘သာက(ကျွန်း)ပင်’တောအနီး ကြာပန်းအိုင်ဘေးတွင် အိုးသစ်အိမ်သစ်ပြု၍ နေထိုင်ကြသည်။ ဥက္ကာကမင်းကြီးက မှူးမတ်များအား ၎င်းသားတော်များ ရောက်နေသည့်နေရာကို မေးမြန်းသောအခါ ၎င်းတို့က (သားတော်များအကြောင်း) မင်းကြီးအား သံတော်ဦးတင်ကြသဖြင့် မင်းကြီးက ‘မင်းသားများသည် သာက(ကျွန်း)ပင်များကဲ့သို့ စွမ်းရည်ရှိကြပေ၏။ မင်းသားများကား အမှန်ပင် သကျ (စွမ်းနိုင်သူများ) ဖြစ်ကြပေ၏’ဟု တအံ့တသြ မိန့်မြွက်သည်။ ဤသည်မှာ အစဦအလာအဆိုအရ ၎င်းတို့ သကျအမည်ကို ရရှိခဲ့ပုံဖြစ်သည်။

မင်းသားများ၏ အိုးအိမ်သစ်အနီးတွင် ကပိလရသေ့ကြီး၏ သင်္ခမ်းကျောင်းရှိသဖြင့် ၎င်းတို့နေထိုင်သည့်အရပ်ကို ကပိလဝတ္ထုဟုခေါ်ဝေါ်ကြသည်။ နောင်အခါ ဗုဒ္ဓစာပေကျမ်းဂန်၌ မြတ်ဗုဒ္ဓ၏ခမည်းတော်ကို ကေရာဇ်အဖြစ်နှင့် ကပိလဝတ္ထုကို ခမ်းနားကြီးကျယ်သည့် မြို့တော်အဖြစ်

ဖော်ပြကြသည်။ အမှန်စင်စစ် ဘုရင်သုဒ္ဓေါဒနသည် သကျမျိုး၏ အဆင့်မြင့်ခေါင်းဆောင်တစ်ယောက် ပိုမိုဖြစ်ဖွယ်ရှိပြီး ကပိလဝတ္ထုသည်လည်း သုဒ္ဓေါဒနမင်းကြီး၏ အိမ်တော်ပတ်လည်၌ တည်ထားသည့် မြို့ငယ်တစ်ခုသာ ဖြစ်ဖွယ်ရှိသည်။

ဗုဒ္ဓရှင်တော်မြတ် ဗောဓိဉာဏ်ကိုရပြီးနောက် ပထမဦးဆုံးသော ပြည်တော်ပြန်ခရီးသည် များစွာထူးခြားလှ၏။ ဗုဒ္ဓရှင်တော်မြတ်၏ လမ်းဘေးတွင် ဆွမ်းခံလှည့်လည်၍ တောင်းရမ်းခြင်းသည် ခမည်းတော် မင်းကြီးအား တုန်လှုပ်စေပြီး မြတ်ဗုဒ္ဓကမူ လူအုပ်ကြီးအား တရားဒေသနာ ဟောကြားသည်။ သကျမင်းသားအများစု ရှင်ရဟန်း ဖြစ်သွားကြသည် (ဝိ ၄၊ ၃၃၆)။ အမှန်သော် လူတိုင်းနှစ်သက်ကြသည်ကား မဟုတ်ချေ။ ဒဏ္ဍပါဏိသည် ဗုဒ္ဓရှင်တော်မြတ်အား တရားဓမ္မဟောကြားရန် လျှောက်ထားသည်။ သို့သော် တရားဓမ္မကို နာရသောအခါ ဒဏ္ဍပါဏိသည် 'ခေါင်းခါ လျှာထုတ်လျက် (နဖူးပေါ်) အရေးသုံးကြောင်း ပေါ်သည်အထိ မျက်မှောင်ကြုတ်ပြရင်း ထွက်ခွာသွားသည် (မ ၁၊ ၁၅၄)'။

ကပိလဝတ္ထုသို့ နောက်တစ်ကြိမ် ဒေသစာရီကြွချီခြင်းမှာ ဗုဒ္ဓရှင်တော်မြတ်အား စည်းဝေးခန်းမဆောင်သစ်တစ်ခု ဖွင့်လှစ်ရန် ပင့်လျှောက်ခံရသောကြောင့် ဖြစ်သည်။ 'ကြမ်းပြင်တွင် ကော်ဇောများခင်းထား၏။ နေရာထိုင်ခင်းများ အသင့်ခင်းကျင်းထား၏။ အပြင်တွင် ရေဇလားများ ချထား၏။ မီးအိမ်များ ချိတ်ဆွဲထား၏။ အတွင်းသို့မဝင်မီ ဗုဒ္ဓရှင်တော်မြတ်သည် ခြေတော်ကို ရေသုံးသပ်တော်မူ၏။ အလယ်ဗဟိုတိုင်ကို မှီလျက်အရှေ့ဘက်သို့ မျက်နှာမူပြီး ထိုင်တော်မူရင်း ညနက်သည်အထိ တရားဒေသနာ ဟောကြားတော်မူသည် (မ ၂၊ ၁၆)'။

မြတ်ဗုဒ္ဓအပေါ် စိတ်အား အထက်သန်ဆုံး (ကြည်ညိုပြီး) ထိပ်တန်းလူကြီးပိုင်းတွင် ပါဝင်သူမှာ မဟာနာမဖြစ်၏။ မြတ်ဗုဒ္ဓသည် မဟာနာမကိုအကြောင်းပြု၍ ဒေသနာတော်များစွာကို ဟောကြားတော်မူခဲ့သည်။ အခါတစ်ပါး၌ မဟာနာမသည် နိဂြောဓာရုံကျောင်းတိုက်၌ (သီတင်းသုံးနေသည့်) ဗုဒ္ဓထံသို့ သွားရောက်သည်။ သို့ရာတွင် ထိုအချိန်က



ဗုဒ္ဓသည် မကျန်းမာရာမှ နာလန်ထကာစဖြစ်၍ အရှင်အာနန္ဒာက ဗုဒ္ဓကိုယ်စား (မဟာနာမအား) စကားစမြည် ပြောဆိုရသည်(အံ ၁၊ ၂၂၀)။

ကပိလဝတ္ထုသည် မြတ်ဗုဒ္ဓ ပရိနိဗ္ဗာန်စံတော်မမူမီ တစ်ချိန်၌ ဖျက်ဆီးခံရသည်။ သကျနိုင်ငံသည် ကောသလနိုင်ငံအတွင်း တစ်စိတ်တစ်ဒေသ အုပ်ချုပ်ခွင့်ရှိသော ပြည်သူ့နိုင်ငံတစ်ခုဖြစ်သည်။ အခါတစ်ပါး၌ ကောသလဘုရင် ပသေနဒီသည် မိမိ၏သားတော်တစ်ပါးအား[၆] သကျအမျိုးကောင်းသမီးတစ်ယောက်နှင့် လက်ထပ်စေခြင်းဖြင့် သကျမျိုးတို့အကြား မိမိ၏အရှိန်အဝါသြဇာကို တိုးချဲ့ရန် ဆုံးဖြတ်လိုက်သည်။ မိမိတို့နှင့် အမျိုးဇာတ်တူတစ်ယောက်ကို ပြင်ပမှ အမျိုးဇာတ်မတူသူ တစ်ယောက်နှင့် လက်ထပ်ရမည့်အကြံသည် ဘဝင်မြင့်သူ သာကိယတို့အား အထိတ်တလန့်ဖြစ်စေသည်။ သို့သော် အာဏာတန်ခိုးထန်ပြင်းလှသည့် အိမ်နီးချင်း ကောသလ(မင်း)၏ ဆန္ဒကို လျစ်လျူရှုမထားနိုင်ချေ။ မဟာနာမသည် (ပြဿနာအတွက်) အဖြေရှာတွေ့သည်။ မဟာနာမတွင် ကျွန်မနှင့်ရသည့် ဝါသဘခတ္တိယာအမည်ရှိ သမီးတစ်ယောက်ရှိသည်။ ဤမိန်းကလေးအား ပသေနဒီ၏သားနှင့် လက်ထပ်ထိမ်းမြားရန် တိုက်တွန်းသည်။ အကြံအောင်မြင်သည်။ ကျွန်မကလေးကို သာကိယဇာတ်အမျိုးမြတ်သည့် မိန်းကလေးအဖြစ် လက်ခံပြီး သာဝတ္ထိသို့ ယူဆောင်လျက် ကောသလတော်ဝင်မိသားစုနှင့် လက်ထပ်ထိမ်းမြားလိုက်သည်။ နောက်ဆုံးတွင် ဝါသဘခတ္တိယာမှ ဝိဋူဍဘအမည်ရှိ သားတစ်ယောက် မွေးဖွားသည်။ ဝိဋူဍဘအရွယ်ရောက်သောအခါ ကပိလဝတ္ထုရှိ မိဘဆွေမျိုးများဟုယူဆသည့် နေရာသို့ သွားရောက် လည်ပတ်ချင်လာသည်။ သို့သော် မိခင်က သွားရောက်ခြင်းကို အားမပေးဘဲ နေသည်။

---

[၆] ဝါသဘာ နာမ ရညော ကော ဒေဝီ (မ–ဋ္ဌ ၃၊ ၂၃၈)၊ ရာဇာ တုဋ္ဌမာနသော တံ (ဝါသဘခတ္တိယံ) ပဉ္စန္နံ ဣတ္ထိသတာနံ ဇေဋ္ဌကံ ကတွာ အဂ္ဂမဟေသိဋ္ဌာနေ အဘိသိဉ္စိ (ဓမ္မပဒ–ဋ္ဌ ၁၊ ၂၂၀) တို့အရ ကောသလမင်းကိုယ်တိုင် ဝါသဘခတ္တိယာကို အဂ္ဂမဟေသီမြှောက်ခြင်းဖြစ်သည်။ ကောသလ၏ သကျအမျိုးသမီးနှင့် လက်ဆက်လိုခြင်းမှာ အရှိန်အဝါတိုးချဲ့လို၍ ဖြစ်နိုင်သကဲ့သို့၊ အဋ္ဌကထာအလိုအရမူ မြတ်စွာဘုရားနှင့် ဆွေမျိုးတော်စပ်လိုခြင်း၊ ရဟန်းသံဃာတော်များနှင့် ပိုမိုနီးစပ်လိုခြင်းကြောင့်ဖြစ်သည် (ဘာသာပြန်သူ)။

Peppe)သည် လုမ္ဗိနီမှ ၁၃–ကီလိုမီတာခန့်အကွာ အိန္ဒိယဘက်နယ်ခြားပေါ်တွင် တည်ရှိသည့် ပိပရာဟဝါ (Piprahwa)ရွာအနီး စေတီဟု ၎င်းယူဆသည့်အရာ၏ အလယ်ပိုင်း၌ တွင်းနက်တစ်ခုတူးသည်။ ဤပုဂ္ဂိုလ်သည် ၆၆၉–ကီလိုဂရမ်လေးသည့် ကျောက်သေတ္တာကြီးတစ်ခု တွေ့ရှိပြီး အဖုံးကို ဖွင့်မလိုက်သောအခါ အံ့သြဖွယ်အကောင်းဆုံးသော မြင်ကွင်းတစ်ခုက ၎င်းအားစောင့်ကြိုနေလေသည်။ သေတ္တာကြီးအတွင်း၌ လှပစွာထွင်းထုထားသော ငါးရုပ်ပုံ လက်ကိုင်အရိုးနှင့် သလင်းကျောက်ကြုတ်ငယ်တစ်ခု၊ ရွှေကြယ်ပွင့်ငယ်များ ပါရှိသည့် ဆပ်ပြာကျောက်သေတ္တာငယ်တစ်ခု၊ ပန်းကန်ပြားများ၊ ပန်းအိုးများနှင့် အခြားပစ္စည်းအများ အပြားတွေ့ရှိရသည်။ ထို့ထက်အံ့သြဖွယ် အကောင်းဆုံး တွေ့ရှိချက်ကား စာတန်းများရေးထိုးထားသည့် ၁၅–စင်တီမီတာ အမြင့်ရှိ ဒုတိယ သလင်းကျောက်သေတ္တာဖြစ်သည်။ ရေးထွင်းထားသောစာမှာ -

‘သုကိတိဘာတီနံ သဘဂိနိကာနံ သပုတဒါလာနံ ဣယံ သလိလာ
နိဓနေ ဗုဒ္ဓသ ဘဂဝတေ သာကိယာနံ’

ဟုဖြစ်သည်။

အိန္ဒိယတွင် တွေ့ရှိသမျှ အဓိပ္ပာယ်ဖော်နိုင်သည့် အစောဆုံးအရေးအသားဖြစ်သည့် ဤရေးသားချက်ကို နောင်အခါ ပညာရှင်များ အဓိပ္ပာယ်ဖော်ကြစဉ် ဘာသာပြန်နှစ်မျိုးဖြင့် အဓိပ္ပာယ်ရရှိသည်။ ပထမအဓိပ္ပာယ်မှာ ‘သေတ္တာအတွင်းရှိ မီးကျွမ်းအရိုးများမှာ ဗုဒ္ဓ၏အရိုး(ဓာတ်တော်)များဖြစ်ပြီး (ယင်းတို့ကို) သကျမျိုးဖြစ်သူ သုကိတိ၊ ၎င်း(သုကိတိ)၏ ညီအစ်ကိုများ၊ အစ်မညီမများ၊ သားများနှင့်ဇနီးများက ဤနေရာတွင် (ဌာပနာ)ထားခဲ့သည်’ဟုဖြစ်သည်။ ဒုတိယ အဓိပ္ပာယ်မှာ ‘ဤအရိုးများသည် ဗုဒ္ဓဆွေမျိုးများဖြစ်သည့် သကျမျိုး သုကိတိ၊ ၎င်း၏ညီအစ်ကိုများ၊ အစ်မ ညီမများနှင့် ဇနီးများ၏အရိုးများဖြစ်ကြသည်’ဟုဖြစ်သည်။ ယခုအခါ ပထမအဓိပ္ပာယ်မှန်ကြောင်း အတည်ပြုကြပြီး ဖြစ်သည်။ သို့ရာတွင် ထိုအချိန်က အဆိုပါ မတူသည့် အဓိပ္ပာယ်နှစ်မျိုးသည် ကပိလဝတ္ထုနှင့် ပတ်သက်၍ ရှုပ်ထွေးမှုကို ရှည်ကြာစေခဲ့



ဖြစ်ပြီး လူသူကင်းမဲ့သည့်နေရာဖြစ်သည်။ နေထိုင်သူများမှာ ရဟန်းတော်အချို့သာဖြစ်ပြီး သာမန်လူပုဂ္ဂိုလ် မိသားစုနှစ်ကျိပ် သို့မဟုတ် လေးကျိပ်ခန့်သာရှိသည်။ သုဒ္ဓေါဒနနန်းတော် တည်ရှိခဲ့သည့်နေရာတွင် မင်းသားသိဒ္ဓတ္ထနှင့် မယ်တော်မာယာရုပ်တုများ ထုလုပ်ထားသည်’။ ဖာဟီယန်သည် မင်းသားသိဒ္ဓတ္ထ၏ ဘဝအစောပိုင်းတွင် ပေါ်ပေါက်ခဲ့သော အရေးကြီးအဖြစ်အပျက်များကို အထိမ်းအမှတ်ပြုသည့် စေတီငယ်များကို ဖော်ပြသည်။ ဖာဟီယန်သည် ကပိလဝတ္ထုမှ လုမ္ဗိနီသို့ အကွာအဝေးနှင့် လမ်းညွှန်ကိုလည်း ဖော်ပြခဲ့သည်။ ဟူယင်ဆန် ကပိလဝတ္ထုသို့ ရောက်သွားသောအခါ ၎င်းတွေ့ကြုံရသည့် မြင်ကွင်းမှာ (ဖာဟီယန်တွေ့မြင်ရသည်နှင့်) ထပ်တူညီသည်။ ‘ခန်းမ အဆောက်အအုံမှာ (သစ်ပင်များ) ဖုံးလွှမ်းနေပြီး ပျက်စီးနေပြီ။ ၎င်း၏ပတ်လမ်းကို အတိအကျ မခန့်မှန်းနိုင်တော့ပေ။ မြို့တော်အတွင်း ဘုရင့်နန်းတော်ပရိဝုဏ်သည် ၁၄ သို့မဟုတ် ၁၅ လီ (တရုတ်ပြည်သုံး အတိုင်းအတာ) ပတ်လည် ကျယ်ဝန်း၏။ ၎င်းတို့အားလုံးကို အုတ်သားဖြင့် တည်ဆောက်ထားသည်။ တံတိုင်းအုတ်မြစ်များမှာ ခိုင်ခံ့ပြီး မြင့်မားဆဲဖြစ်သည်။ ဤအုတ်မြစ်နံရံများကား စွန့်ပစ်ခံထားရသည်မှာ ကြာပေပြီ။ ဌာနေရွာသူရွာသား အနည်းငယ်သာရှိပြီး ကျိုးတိုး ကျဲတဲသာ ဖြစ်သည်’။

ဟူယင်ဆန်သည် ၎င်းသွားခဲ့ရသည့် ခရီးအကွာအဝေးနှင့် ကပိလဝတ္ထုသို့ရောက်ရန် ဦးတည်သွားခဲ့ရသည့် လမ်းညွှန်ကိုလည်း ပြဆိုထားသည်။ ဖျက်ဆီးခံရပြီးနောက် ကပိလဝတ္ထုကို လုံးဝတစ်ဖန် ပြန်လည်တည်ဆောက်ခဲ့ဟန်မတူ သို့မဟုတ် လူသူပြန်လည် နေထိုင်ခဲ့ကြဟန်မတူချေ။ ဝန်းရံနေသည့် သစ်တောများက ရှေးဟောင်းသုတေသနနယ်မြေကို ဝါးမျိုပစ်လိုက်သည်။ (ကပိလဝတ္ထု၏)ကျော်ကြားမှု ကျဆင်းသွားပြီး ထိုအရပ်တွင် နေထိုင်ကြသည့် ဘာသာတရား ကိုင်းရှိုင်းသူရဟန်းအနည်းစုသာရှိပြီး မကြာခဏ ရောက်ရှိလာကြသည့် ဘုရားဖူးများက ကပိလဝတ္ထုမြို့တော် ရှင်သန်နေအောင် ဖန်တီးထားခဲ့ပုံရသည်။ အိန္ဒိယ၌ ဗုဒ္ဓသာသနာတော် ဆုတ်ယုတ်သွားသောအခါ ဘုရား

ဖူး အလျဉ်လည်း ခြောက်သွေ့သွားသည်။ သစ်တောများ ပေါက်ရောက်သွားပြီး ကပိလဝတ္ထု ပျောက်ကွယ်သွားတော့သည်။

၁၉–ရာစု ကုန်ခါနီးအချိန်ထိ ဗုဒ္ဓရှင်တော်မြတ်၏ဘဝနှင့် ပတ်သက်သော နေရာတော်များကို (ပြန်လည်)တွေ့ရှိခဲ့ပြီး တွေ့ရှိသမျှထဲတွင် ကပိလဝတ္ထု မပါဝင်ခဲ့ချေ။ အိန္ဒိယ–နီပေါနယ်စပ်ရှိ သစ်တောများကို တဖြည်းဖြည်း ရှင်းလင်းရင်း ရှေးခေတ်က နေထိုင်ခဲ့သူများ၏ အကြွင်းအကျန်များ သေချာပေါက် ဖြစ်နိုင်သည့် တောင်ကုန်းအများအပြား မြင်ကွင်းသို့ ရောက်လာသည်။ ပညာရှင်များသည် ယင်းတို့အနက် မည်သည့်နေရာသည် ကပိလဝတ္ထု ဖြစ်နိုင်သည်ဆိုသည့် အချက်ကို တွေးတောလာကြသည်။ ၁၈၅၈–ခုနှစ်တွင် လာဆင် (Lassen) အမည်ရှိ ပုဂ္ဂိုလ်က (ကပိလဝတ္ထု) မြို့နေရာသည် ဂေါရခပူရမြို့မှ ကီလိုမီတာ အနည်းငယ်အကွာအဝေးရှိ နေရာဖြစ်နိုင်သည်ဟု ဆိုခဲ့သည်။

၁၈၆၃–ခုနှစ်တွင် ကပိလဝတ္ထုမြို့ဟောင်းနေရာကို အောင်မြင်စွာ တွေ့ရှိပြီးနောက် ကန်နင်ဟမ်က တရုတ်ဘုရားဖူးများ၏ ခရီးစဉ်များကို အသုံးပြုလျက် ကပိလဝတ္ထုသည် နဂရခါစ် (Nagarkhas)မြို့တွင် ရှိကြောင်း ကြေညာခဲ့သည်။ (ဤသည်မှာ) ကန်နင်ဟမ်က (နောင်အခါ) များယွင်းကြောင်း (ကိုယ်တိုင်)ပြောဆိုခဲ့သည့် မဆိုစလောက်အကြိမ်များအနက် တစ်ကြိမ်ဖြစ်သည်။ ကန်နင်ဟမ်၏ လက်ထောက်ဖြစ်သူ အေစီအယ်လ် ကာလေးယီလ် (A.C. L. Carlleyel)သည် ဗာဆတိ (Basti)နှင့် ဂေါရခပူရခရိုင်များကို ၁၈၇၅–၇၆ ခုနှစ်များတွင် အငြင်းပွားမှု အပြီးသတ်ငြိမ်းစေရန် သန္နိဋ္ဌာန်ချ အားထုတ်မှုအနေဖြင့် လေ့လာသုံးသပ်ခဲ့ပြီး ဘုအိလာဒိဟ (Bhuiladih)ခေါ်သော နေရာသည် ကပိလဝတ္ထုဖြစ်ရမည်ဟု ကောက်ချက်ချခဲ့သည်။ ထိုအချိန်တွင် ပညာရှင်များ၏ သက်မွေးဝမ်းကျောင်းမှုဆိုင်ရာ ဝန်တိုမှုများ နိုးကြွလာပြီး ကပိလဝတ္ထုကို ပထမဆုံးစတင်တွေ့ရှိသူ ဖြစ်ရန်ပြိုင်ဆိုင်မှု တိုးပွားလာသည်။

၁၈၉၆–တွင် အေဖူဟာရေရ (A. Fuhrer)သည် လုမ္ဗိနီ၌ ဗုဒ္ဓဖွားမြင်တော်မူသည့် နေရာ အထိမ်းအမှတ်ပြု စိုက်ထူထားသည့် အသောကကျောက်စာတိုင်ကို တွေ့ရှိခဲ့သည်။ ယင်းသည် အရေးပါသော တွေ့ရှိမှုဖြစ်သည့်ပြင် တရုတ်ဘုရားဖူးရဟန်းတော်များကလည်း ကပိလဝတ္ထုမှ လုမ္ဗိနီသို့ လမ်းညွှန်ချက်နှင့် အကွာအဝေးကို ပေးထားပြီဖြစ်သောကြောင့် (ထိုကျောက်စာတိုင်ကို တွေ့ရှိမှု)သည် ကပိလဝတ္ထုမြို့နေရာအား ရှာဖွေတွေ့ရှိရန် နီးကပ်နေပြီဟု ဆိုလိုရာလည်း ရောက်သည်။ ဖူဟာရေရက ဤသို့ကြေညာသည် 'ရုမိန္ဒေ (Rumindei)အရပ်ရှိ လုမ္ဗိနီဥယျာဉ်၌ အသောကကျောက်စာတိုင်ကို ရှာဖွေတွေ့ရှိခြင်းသည် ကျွန်ုပ်အား ကပိလဝတ္ထုမြေနေရာနှင့် ယင်းပတ်ဝန်းကျင်ရှိ အထွတ်အမြတ်နေရာများကို လုံးဝသေချာပေါက် သတ်မှတ်နိုင်စေရန်ပါ စွမ်းဆောင်စေခဲ့သည်။ နီပေါရှိ လုမ္ဗိနီအနောက်မြောက်နှင့် နှစ်ဆယ့်နှစ်ကီလိုမီတာအကွာရှိ အပျက်အစီးများစုဝေးတည်ရှိရာ တိလောရကောဋ္ (Tilaora-kot) အရပ်သည် ကပိလဝတ္ထုဖြစ်ကြောင်း ဖူဟာရေရက ကြေညာသည်။ သို့သော် အချို့ပညာရှင်များက ထိုကြေညာချက်ကို ငြင်းဆိုကြသည်။

၁၈၉၇–တွင် ဖူဟာရေရသည် မိမိပြဆိုချက်ကို သက်သေပြရန် အထောက်အထားရှာဖွေရင်း တောတန်းတစ်လျှောက် လမ်းစရှာဖွေနေသည်ကို တွေ့ရပြန်သည်။ မည်သူမျှမတွေ့နိုင်သည့်အတွက် ဖူဟာရေရသည် အထောက်အထားများ (ပုံတူ) ထုတ်လုပ်ရန် ဆုံးဖြတ်တော့သည်။ ၎င်းသည် တိလောရကောဋ္ဌအနီး အဆောက်အအုံပျက်အချို့ကို တူးဖော် သို့မဟုတ် ဖြိုဖျက်ပြီး ထိုအဆောက်အအုံပျက်များကို ဝိဋူဍဘ အစုလိုက်အပြုံလိုက် သတ်ဖြတ်ခဲ့သော သကျမျိုးတို့၏ အကြွင်းအကျန်နေရာတွင် တည်ဆောက်ထားသောစေတီဖြစ်ကြောင်း ကြေညာသည်။ ဖူဟာရေရသည် အကယ်၍ အစစ်အမှန်ဟုယူဆကြလျှင် မိမိကြေညာချက်ကို နောက်ဆုံးသတ် သက်သေပြမည်ဖြစ်သည့် မောရိယခေတ်ကြိုစာများကို အုတ်ခဲများတွင် ထွင်းထုလျက် အလုပ်ရှုပ်နေစဉ် သမိုင်းပညာရှင် ဗင်ဆင်စမစ်(Vincent Smith) ပေါ်လာပြီး ၎င်း(၏လုပ်ကြံမှု)အား လက်ပူးလက်ကြပ် ဖမ်းမိလေသည်။

၁၈၉၈–ခုနှစ်တွင် အင်္ဂလိပ်မြေပိုင်ရှင် ဒဗလျူ စီ ပက်ပီ (W.C.

ဒုတိယစေတီတော်ကို နှစ်ပေါင်း ၁၅၀–ကြာပြီးနောက်မှ ပထမစေတီတော်လိပ်ခုံးနှင့် အမြင့်ညီထားပြီး တည်ဆောက်ခဲ့သည်။ ဤစေတီတော်မြတ်၏အခုံးမှာ အချင်း ၁၉–မီတာရှည်ပြီး အောက်ခြေပတ်လည်တွင် ၁ ဒသမ ၅ မီတာ အကျယ် စွန်းထွက်နေသည်။ မြေပိုင်ရှင်ပက်ပီ (Peppe)တူးဖော်ရရှိသည့် ကျော်ကြားသည့်စာတန်းပါ ကြုတ်သည် ဤစေတီတော်မှဖြစ်သည်။ အထဲတွင် ကြုတ်ပါသည့် ကျောက်သေတ္တာကြီးကို တွေ့ရှိပြီးဖြစ်ခြင်း၌ ပက်ပီသည် အခြားဓာတ်တော်(ကြုတ်)များရှိတော့မည်မဟုတ်ဟု ထင်မှတ်ပြီး ပိုနက်အောင် မတူးခဲ့တော့ချေ။ (သို့အတွက် ပက်ပီသည်) မီတာအနည်းငယ် အနက်တွင်ရှိသည့် ပိုရှေးကျသည့် အခြားကြုတ်များကို မရရှိခဲ့ခြင်းဖြစ်သည်။

အမိုးခုံး ၂၃–မီတာ အချင်းရှိသည့် တတိယစေတီတော်မှာ ပထမစေတီတော်များထက် အထူးသဖြင့် ပိုမိုကြီးမားနေပြီး ဘေးသို့ ၂၃ ဒသမ ၅ မီတာအရှည် ထပ်ဖြည့်ထားသော လေးထောင့်အခြေရှိသည်။ ပက်ပီသည် ဤစေတီ၌လည်း ကြုတ်တစ်ခု တွေ့ရှိခဲ့သည်။ သို့သော်ယင်းကြုတ်သည် အစိတ်စိတ်အမြွာမြွာ ပြိုကွဲပျက်စီးသွားသည်။ ယနေ့ဘုရားဖူးများ ဖူးတွေ့ရသည်မှာ ဤတတိယစေတီဖြစ်သည်။ သကျတို့၏စေတီသည် သမိုင်းအရ အရေးပါခြင်းအပြင် အခြားအကြောင်းများစွာတို့ကြောင့်လည်း စိတ်ဝင်စားဖွယ်ကောင်းသည်။

အစောဆုံးစေတီတော်သည် တည်ဆောက်ပြီးနောက် (ပြန်လည်)ဖွင့်လှစ်သည့် လက္ခဏာမတွေ့ရသဖြင့် အသောကမင်းသည် ရာမဂါမစေတီတော်မှတစ်ပါး စေတီအားလုံးကို ဖွင့်သည်ဟူသော အစဉ်အလာစကား လုံးဝ မမှန်ကန်နိုင်ကြောင်း ဖော်ပြလျက်ရှိသည်[၁]။

[၁] မြတ်ဗုဒ္ဓ၏ ဓာတ်တော်ကို ဝေစုရကြသူများမှာ 'ရာဇဂြိုဟ်ပြည့်ရှင် အဇာတသတ္တု၊ ဝေသာလီပြည်သား လိစ္ဆဝီမင်းများ၊ ကပိလဝတ္ထုပြည်သား သကျမင်းများ၊ အလ္လကပ္ပပြည်သား ဗုလိမင်းများ၊ ရာမဂါမရွာသား ကောဠိယမင်းများ၊ ဝေဌဒီပတိုင်းသား ပုဏ္ဏား၊ ပါဝါမြို့သား မလ္လာမင်းများ၊ ကုသိနာရုံပြည်သား မလ္လာမင်းများ' ဖြစ်ပြီး ဓာတ်တော်ဝေသူ ဒေါဏပုဏ္ဏားမှာ ပြည်တောင်း၊ နောက်မှရောက်လာကြသူ ပိပ္ပလိဝနအရပ်သား မောရိယမင်းများကား မီးသွေးများရရှိကြ၏။ ရှစ်ပြည်ထောင်မင်းတို့သည် မိမိတို့တိုင်းပြည်၌ စေတီများ တည်ကြ၏။ ဒေါဏနှင့်



သည်။ အကယ်၍ ထိုအရိုးဓာတ်တော်များသည် ဗုဒ္ဓ၏အရိုး (ဓာတ်တော်)များဖြစ်ပါက ပိပရာဟဝါစေတီကို ကပိလဝတ္ထု၌ သကျတို့ တည်ခဲ့ခြင်းဖြစ်ရမည်။ အကယ်၍ ယင်းအရိုးများသည် ဝိဋူဍဘ၏အစုလိုက်အပြုံလိုက် သတ်ဖြတ်ခံရသည့် သကျမျိုးတို့၏ အရိုးများဖြစ်ပါက စေတီသည် ကပိလဝတ္ထုဖျက်ဆီးခံရပြီးနောက် သကျတို့နေထိုင်ခဲ့သည့် နေရာဖြစ်ဖွယ်ရှိသည်ဟု ပညာရှင်အချို့ကဆိုသည်။

ပိုမိုခက်ခဲစေသည်မှာ ဖာဟီယန်နှင့် ဟူယင်ဆန်တို့ (မှတ်တမ်း၌) ဖော်ပြသော မြို့တည်နေရာနှင့် အတော်အတန် ခြားနေပုံရသည့် အချက်ဖြစ်သည်။ ဗုဒ္ဓဘာသာဆိုင်ရာ ပညာရှိကြီး တီဒဗလျူ ရေးစ်ဒေးဗစ်စ် (T.W. Rhys Davids)ကမူ အလွန်ထူးဆန်းသည့် ရှင်းလင်းခြင်းဖြင့် ဖြေကြားသည်။ ဒေးဗစ်စ်က ဖာဟီယန်နှင့် ဟူယင်ဆန်တို့သည် မတူသည့် ကပိလဝတ္ထုနှစ်မျိုးကို ဖော်ပြခဲ့ခြင်း ဖြစ်ဖွယ်ရှိသည်ဟု ဆိုသည်။ တိလောကကောဋသည် မူလကပိလဝတ္ထုဖြစ်ပြီး ပိပရာဟဝါသည် မူလမြို့ ပျက်စီးသွားပြီးနောက် တည်ထောင်ခဲ့သည့် ကပိလဝတ္ထုမြို့သစ်ဖြစ်ဖွယ်ရှိသည်။ သို့ဖြင့် အငြင်းပွားမှု ဆက်လက် တည်ရှိနေခဲ့ပြီး အချိန်ကာလကြာမြင့်သော် စိတ်ဝင်စားမှု လျော့ပါးသွားခဲ့သည်။

ထို့နောက် ၁၉၇၀–ခုနှစ်တွင် နောင်ဂါးဆရာတော် အရှင်ဓမ္မကိတ္တိ မထေရ်သည် (ဝန်ကြီးချုပ်ဟောင်း) အင်ဒီရာဂန္ဒီထံသို့ စာတစ်စောင်ရေးလေသည်။ (၎င်းစာတွင်) ပိပရာဟဝါ၏ လျစ်လျူရှုခံထားရသည့် အခြေအနေကို ဖော်ပြပြီး ၎င်းဒေသကို တူးဖော်ရန်နှင့် ပြန်လည် ထိန်းသိမ်းစောင့်ရှောက်ရန် မေတ္တာရပ်ခံထားသည်။ (ဤမထေရ်က အထူးသဖြင့် ပိပရာဟဝါအရပ်ကို ပိပ္ဖလဝနနေရာဟု ထင်မှတ်ခဲ့သည်။) ယင်းစာကို အလျှင်အမြန် အကောင်အထည်ဖော်ရမည်ဟူသော မှတ်ချက်နှင့်အတူ ရှေးဟောင်းသုတေသနလေ့လာရေးအဖွဲ့၏ ညွှန်ကြားရေးမှူးချုပ်ထံ ပေးအပ်လိုက်သည်။ ဤလုပ်ရှားမှု၏ နောက်ကွယ်ရှိ ရည်ရွယ်မှာ လုံးဝစိတ်ဝင်စားဖွယ်ကောင်းသည်။ အကြောင်းမူ တစ်ချိန်က နီပေါနိုင်ငံက ကပိလဝတ္ထုသည် ၎င်း၏ နိုင်ငံပိုင်နက်အတွင်း ရှိသည်ဟု အခိုင်

အမှာ ဆိုထားခဲ့ပြီးဖြစ်သည်။ အကယ်၍ ကပိလဝတ္ထု၏ တိကျသော တည်နေရာနှင့်ပတ်သက်သည့် အရှုပ်အထွေး (မဆုံးဖြတ်နိုင်သေးမှု) တစ်ခါတည်း ပြီးပြတ်သွားပြီး အငြင်းပွားမှုကို အိန္ဒိယအကြိုက် ငြိမ်းစေနိုင်လျှင် အမျိုးသားရေးဂုဏ်သိက္ခာရော အိန္ဒိယသို့ လာရောက်နေသည့် ဂျပန်ဘုရားဖူးအရေအတွက်ပါ အထူးတိုး မြင့်သွားမည်ဖြစ်သည်။

ပိပရာဟဝါ တူးဖော်ခြင်းကို ၁၉၇၁–ခုနှစ်၊ ဇန်နဝါရီလတွင် ကေအမ် သျှရ်ဝရ်တာဝါ (K.M. Srivastava) ၏လမ်းညွှန်ချက်ဖြင့် စတင်ခဲ့သည်။ အလွန့်အလွန် စိတ်ဝင်စားဖွယ် တစ်သီတစ်တန်းကြီးတွေ့ရှိရပြီးနောက် ၁၉၇၃–ခုနှစ်တွင် ကပိလဝတ္ထုစာလုံးပါသည့် ချိပ်တံဆိပ်တစ်ခုကို တူးဖော်တွေ့ရှိရသည်။ ယင်းသို့သော ချိပ်တံဆိပ်များ နောက်ထပ် တူးဖော် တွေ့ရှိရပြန်သည်။ (ယင်းချိပ်တံဆိပ်များသည်) မင်းသားသိဒ္ဓတ္ထ၏ မွေးရပ်မြေကို တွေ့ရှိပြီဟူသောအချက်ကို သံသယဖြစ်ဖွယ် မလိုတော့ကြောင်း (သက်သေပြကြသည်)။

ကပိလဝတ္ထုအကြွင်းအကျန်များသည် တစ်ခုနှင့်တစ်ခု တစ်ကီလိုမီတာခန့် ဝေးသည်။ ဂါန္ဓာရိယ (Ganwaria) နှင့် ပိပရာဟဝါဟူသော ဒေသနှစ်ခုတို့၌ တွေ့ရှိရသည်။ ဂါန္ဓာရိယသည် (မူလ) ကပိလဝတ္ထုမြို့အစစ်ဖြစ်သည်။ ဗုဒ္ဓလက်ထက်တော်အချိန်ဟု သတ်မှတ်ထားပြီး သစ်သား၊ ရွှံ့များနှင့် ဆောက်လုပ်ထားသည့် အဆောက်အအုံများတွေ့ရသော်လည်း အများစုသည် ရှေးခေတ်ကတည်းက ဤဒေသကို သက်ရောက်မှုရှိစေခဲ့သည့် မကြာခဏ ရေကြီးခြင်းများကြောင့် ဖုံးလွှမ်းမြုပ်ကွယ်နေကြသည်။ ပိပရာဟဝါကား ဗုဒ္ဓဓာတ်တော် မွေတော်များကို ဌာပနာ (ထည့်သွင်းရန်) သာကီဝင်တို့ တည်ထားကိုးကွယ်ခဲ့ကြသော စေတီတော်ပတ်လည်၌ ကြီးထွားလာခဲ့သည့် ဘာသာရေးဆိုင်ရာဌာနဖြစ်သည်။ နေရာဌာနနှစ်ခု ဝေးနေရခြင်းမှာ မြို့တော်မှအတန်ဝေးသည့် နေရာသို့သွားရခြင်းအတွက် ထင်ရှားသော နိဂြောဓာရုံကျောင်းတိုက်ကဲ့သို့သော ဗုဒ္ဓအား လှူဒါန်းခဲ့သည့် ပန်းခြံတစ်ခုတွင် (ဤ)စေတီတော်ကို တည်ထားခဲ့သောကြောင့် ဖြစ်ဖွယ်ရှိသည်။



## ကြည့်ရှုဖွယ်

### သကျတို့တည်ခဲ့သည့်စေတီ

ကပိလဝတ္ထုရှိ အရေးအပါဆုံး အဆောက်အအုံမှာ ပင်မစေတီတော်ကြီးဖြစ်သည်။ ၁၉၇၁–ခုနှစ်က ပြုလုပ်ခဲ့သော တူးဖော်ခြင်းများအရ စေတီတော်ကို ဘီစီ၄ါးရာစုတွင် ပထမဆုံးအကြိမ် တည်ဆောက်ခဲ့ပြီး နောက်ထပ်နှစ်ကြိမ် ပြန်လည်ပြုပြင်မွမ်းမံထားကြောင်း သိရသည်။ ပထမဆုံးနှင့် ရှေးအကျဆုံး စေတီကို မီးဖုတ်အုတ်များဖြင့် တည်ဆောက်ခဲ့ပြီး ပတ်လည်တွင် ၅–မီတာအကျယ် အုတ်ခင်းလမ်းရှည် (ပါဒကသိဏာပထ) တစ်ခုပါသည့် ရိုးရိုးအမိုးခုံး (အဆောက်အအုံ) တစ်ခုပါဝင်သည်။

စေတီတော်အလယ်ရှိ မြေညီဆင့်တွင် တစ်ခုနှင့်တစ်ခု ယှဉ်တွဲထားသည့် အုတ်တိုက်ခန်းနှစ်ခု ရှိသည်။ မြောက်ဘက်ခန်းမှ သပ်ရပ်လှပစွာ ထုလုပ်ထားသည့် ၁၂–စင်တီမီတာအမြင့်ရှိ ဆပ်ပြာကျောက် (ဖြင့်ပြုလုပ်သည့်) ကြုတ်တစ်ခုနှင့် နှစ်ခုမကသော ပန်းကန်ပြားများ ရရှိသည်။ ကြုတ်နှစ်ခုလုံးကို ဖွင့်ကြည့်သောအခါ မီးကျွမ်းသည့် လူရိုးအပိုင်းအစများကို အထဲ၌ တွေ့ရသည်။ အချိန်ကာလ၊ တည်နေရာနှင့် ကြုတ်ထဲ၌ပါဝင်သည့် ပစ္စည်းများက လောင်ကျွမ်းထားသည့် အရိုးများသည် သကျတို့ဝေစုရသည့် ဗုဒ္ဓ၏ ခန္ဓာကိုယ် အကြွင်းအကျန် (ဓာတ်တော်များ) ဖြစ်ကြောင်း လုံးဝနီးပါး သေချာစေသည်။

၁၉၉၀–ခုနှစ်တွင် ကြုတ်နှင့်တကွ အဆိုပါ အဖိုးတန် ဓာတ်တော်များကို နယူးဒေလီမြို့ အမျိုးသားပြတိုက်၌ အကြမ်းခံ ပလတ်စတစ်သေတ္တာဖြင့် ပြသထားသည်။ မကြာမီအချိန်တွင် အိန္ဒိယအစိုးရအနေဖြင့် နိုင်ငံတော်၏ အကြီးမြတ်ဆုံးသော သားကောင်းရတနာ၏ ကိုယ်ခန္ဓာကြွင်းများကို သိမ်းဆည်းထားရန်နှင့် ဂုဏ်ပြုပူဇော်ရန် သင့်လျော်လျောက်ပတ်သည့် နေရာတစ်ခု ရှာဖွေနိုင်သည်ဟု မျှော်လင့်ပါသည်[၁]။

---

[၁] စာရေးသူ (ဩစတြေလျရဟန်းတော်) သည် ၁၉၇၈–ခုနှစ်က ထိုဓာတ်တော်များ သီရိလင်္ကာသို့ ကြွစဉ်က ဖူးမြော်ခွင့်ရရှိပြီး ဖြစ်ပါသည်။

**သွားရောက်ရန်**

ကပိလဝတ္ထုသည် နောင်ဂါးသို့ သွားသည့် ကောင်းမွန်သော လမ်းနှင့် ဆက်နေပြီး မည်သည့်ဘက်သို့မဆို အနီးဆုံးဖြစ်သည့် ဘီရဒ္ဒပူရ (Birdpur) မြို့မှ ၉–ကီလိုမီတာအကွာတွင် ရှိသည်။ နောင်ဂါးမြို့ကို ဂေါရခပူရမြို့မှ ရထား၊ ဘတ်စ်တို့ဖြင့် သွားရောက်နိုင်သည်။



ဘုရင်အသောကသည် သကျမင်းမျိုးတို့အား လေးစားမှုကြောင့် ကပိလဝတ္ထုရှိ စေတီတော်ကို မထိဘဲချန်ထားခဲ့ခြင်း ဖြစ်နိုင်သည်။ ဤကဲ့သို့သော အမှတ်တရစေတီပုထိုးများတွင် တွေ့ရမြဲဖြစ်သည့် တိုးတက်မှုအဆင့်ဆင့်အမျိုးမျိုးကိုလည်း ဤစေတီတော်က ဖော်ပြသည်။ အစောဆုံး အဆောက်အအုံ ပုံသဏ္ဍာန်သည် ယေ်ရှယ်ရိုးရှင်းသည်။ ကာလကြာသော် (မွမ်းမံ)ထည့်စွက်လျက် တဖြည်းဖြည်း ပိုမိုကြီးမားရှုပ်ထွေးလာသည်။ ဤသို့ဖြင့် စေတီအများစုသည် ကြက်သွန်ဥပုံစံနှင့်တူသော အဆောက်အအုံတစ်ခုကို အခြားပိုကြီးသည့် အဆောက်အအုံတစ်ခုအတွင်း ထည့်သွင်းပြီး နောင်အခါ နောက်ထပ် (အကြီး)တစ်ခုဖြင့် ငုံလျက် တည်ဆောက်ခဲ့ကြောင်း ဖော်ပြသည်။

**အရှေ့ဘက်ကျောင်းတော်**

ဤ(ဖော်ပြပါ) စေတီတော်ကြီး၏ အရှေ့ဘက်ကပ်လျက်တွင် ကျောင်းတိုက်ကြီးတစ်ခုနှင့် အပျက်အစီးများ ရှိသည်။ ဤကျောင်းတိုက်အတွင်း

---

မောရိယတို့လည်း စေတီတည်ကြ၏ (ဒီ ၂။ ၁၃၇)။

စေတီတည်ပြီးသောအခါ အရှင်မဟာကဿပမထေရ်သည် ဓာတ်တော်များ၏ (မိစ္ဆာအယူများရှိသူများ ဖျက်ဆီးမည့် ဒီ–ဋ္ဌ ၂။ ၁၈၇) အန္တရာယ်ကို မြင်တော်မူသဖြင့် ရာမဂါမစေတီမှ တစ်ပါး ကျန်ခုနစ်ပြည်ထောင်မင်းတို့၏ စေတီမှ ဓာတ်တော်များကို (တန်ခိုးဖြင့် ဝိသုဒ္ဓိ–ဋ္ဌ ၂။ ၆၄ ‘ဣဒ္ဓိယာ အာဟရိတွာ’) ရယူ၍ အနည်းငယ်မျှကိုသာ (ထိုမင်းတို့၏လက်၌ ‘ရာဇူနံ ဟတ္ထေ ဌပေတွာ၊ န စေတိယေသု’ ဒီ–ဋ္ဌ ၂။ ၁၈၇) ချန်ထားလျက် အဇာတသတ္တုမင်းနှင့် တိုင်ပင်ပြီး ရာဇဂြိုဟ်မြို့၏ အရှေ့တောင်အရပ် (တစ်နေရာ)၌ အတောင်ရှစ်ဆယ် အနက်တူးပြီးလျှင် (ဓာတ်တော်များ ဌာပနာမည့်) မြေတိုက်ခန်း (‘ဘူမိဃရမဏ္ဍပ’ ဝိသုဒ္ဓိ–ဋ္ဌ ၂။ ၆၄) ကို လျှို့ဝှက်တည်ဆောက်လျက် ဓာတ်တော်အားလုံးကို တပေါင်းတည်း ဌာပနာ(ထည့်သွင်း) ခဲ့၏။ ရာမဂါမစေတီရှိဓာတ်တော်များမှာမူ အန္တရာယ်မရှိနိုင်ဘဲ နောင်အခါ သီရိလင်္ကာနိုင်ငံ ရှိ မဟာစေတီ၌ ကိန်းဝပ်မည်ဖြစ်သောကြောင့် ထုတ်ယူခြင်းမပြုခဲ့ပေ။ ယင်းနောက် နှစ်ပေါင်း ၂၁၈–နှစ်အကြာ (ဘီစီ ၃၂၅)တွင် အသောမင်းကြီးသည် ရာမဂါမစေတီမှတစ်ပါး ကျန်စေတီ အားလုံးကို ဖောက်ထွင်းသော်လည်း ဓာတ်တော်များ မရရှိချေ။ ရာမဂါမစေတီကိုမူ နဂါးတို့က ဖောက်ထွင်းခွင့်မပြု။ တူးသမျှ တူးရွင်း ပေါက်တူးများ ကျိုးပျက်ကုန်၏။ နောက်ဆုံး၌ အသောကမင်းကြီးသည် အဇာတသတ် ဌာပနာခဲ့သည့် ‘ဓာတ်တော်တိုက်’ နေရာကိုတွေ့ရှိသွားပြီး ထိုဓာတ်တော်တိုက်၌ ဓာတ်တော် အနည်းငယ်သာ ချန်ထားလျက် ဓာတ်တော် အားလုံးကိုယူပြီး နိုင်ငံတော်အတွင်း တည်ဆောက်နေသည့် စေတီတော်များ၌ ခွဲဝေပြီး ဌာပနာ (ထည့်သွင်း) ခဲ့၏ (ဒီ–ဋ္ဌ ၂။ ၂၀၆) (ဘာသာပြန်သူ)။






မှ တွေ့ရှိခဲ့သည့် တံဆိပ်တစ်ခုတွင် 'ကပိလဝတ္ထု ဘိက္ခုသံဃ'ဟူသော စာလုံးများပါရှိ၏။ (ဤအချက်က) ပိပရာဟဝါနှင့် ပတ်ဝန်းကျင်အပျက်အစီးများသည် ဗုဒ္ဓမွေးရပ်မြေနေရာဖြစ်ကြောင်း နီးစပ်စွာ ထောက်ခံလျက်ရှိသည်။ ဤကျောင်းတိုက်ကို ကနိသျှကမင်းကြီး တည်ဆောက်ခဲ့ကြောင်းလည်း ညွှန်ပြသည်။ ဤကျောင်းတိုက်ဝင်း ပတ်လည်အတွင်း အခန်းငယ် ၃၁-ခုပါရှိသည်။ အရှေ့ဘက်ခြမ်း၏အဆုံးရှိ အခန်းကြီးများမှာ ပစ္စည်းသိုလှောင်ခန်း ဖြစ်ဖွယ်ရှိသည်။ အခြားအခန်းများမှာ ရဟန်းတော်များ သီတင်းသုံးရန် နေရာများဖြစ်သည်။ ကျောင်းတိုက်အဝင်တွင် လှေကားများရှိပြီး အရှေ့မြောက်ထောင့်စွန်းတွင် ရေလွှဲပေါက်ပါသော ကျင်ငယ်အိမ် ဖြစ်ဖွယ်ရှိသည့် ရေထွက်ပေါက်တစ်ခုရှိသည်။

## အပျက်အစီးများ

ဤနေရာရှိ အခြားအပျက်အစီးများအနက် ခန်းမဆောင်ဟုယူဆရသည့် (အဆောက်အအုံ)တစ်ခုပါဝင်သည်။ ပင်မ စေတီတော်၏ မြောက်ဘက်ကပ်လျက်တွင်ရှိသည်။ (သာမန်)စေတီငယ်တစ်ဆူ၊ ၎င်း၏တောင်ဘက်တွင် ကျောင်းတိုက်တစ်ခုနှင့် အနောက်ဘက် ခပ်လှမ်းလှမ်းတွင် အခြားကျောင်းတိုက်တစ်ခုရှိသည်။

## ဂါနွာရိယ

ဖော်ပြပြီး အပျက်အစီးများ၏ တောင်ဘက် တစ်ကီလိုမီတာခန့် အကွာတွင် ကပိလဝတ္ထုမြို့ အစစ်အမှန်ဖြစ်ကြောင်း ဖော်ညွှန်းသည့် အခြားသော အပျက်အစီးများ စုပုံနေသည့် နေရာရှိသည်။ မြို့နေရာကို ဖော်ပြသည့် တောင်ကုန်းသည် ကျယ်ပြန့် ရှည်လျားသည်။ ၎င်း(တောင်ကုန်း) အများစုကို ယခုအခါ စိုက်ပျိုးမြေအဖြစ် အသုံးပြုနေကြသည်။ ရှေးဟောင်းသုတေသန တူးဖော်မှုများက ဤမြို့သည် ဘီစီ ၈၀၀ မှ ၃ ရာစု ကုသနခေတ် ကုန်ခါနီးအထိ တည်ရှိခဲ့ကြောင်း ဖော်ပြသည်။ ယနေ့ခေတ်တွင် ကျောင်းတိုက်ကြီး နှစ်ခုနှင့် လူနေအိမ်အစုအဝေးတစ်ခုကို တွေ့မြင်နိုင်သည်။ ၎င်းတို့အနက် အများစုကို အေဒီ ၁-ရာစုနောက်ပိုင်းတွင် တည်ဆောက်ခဲ့သည်။

မရှိသော်လည်း အသောကမင်းကြီးကဲ့သို့ အလွန် ဘာသာတရားကိုင်းရှိုင်းသည့် မင်းမြတ်တစ်ပါးသည် ဤမျှအရိုအသေပြုအပ်သည့် နေရာတော်တွင် စေတီတစ်ဆူတည်ခဲ့ရမည်ဟူသောအချက်ကို ထောက်ခံလျှင်ကြောင်းကျိုးဆီလျော်သည်။ ဘီစီ ၁၀၀-ခန့်က ထုလုပ်ခဲ့သော ဘာရဟုတ (Bharhut)အရပ်ရှိ စေတီတော်၏ ခြံစည်းရိုး (ကျောက်)လက်ရန်းမှ ရုပ်ကြွတစ်ခုအရ အဆိုပါရှေးဦးပထမ ဗုဒ္ဓဂယာစေတီတော်၏ ပုံသဏ္ဌာန်နှင့်ပတ်သက်၍ ကောင်းမွန်သော ထင်မြင်ချက်တစ်ရပ်ကို ရရှိစေသည်။ ပုံသဏ္ဌာန် မဖော်ပြနိုင်သောအမိုးပုံနှင့် နှစ်ထပ်အဆောက်အအုံတစ်ခု ဗောဓိပင်ဘေးပတ်လည်တွင် တည်ဆောက်ထားပြီး ဗဟုဂံကျောက်တိုင်များဖြင့် ခံဆောင်ထားသည်။ အတွင်းဘက်တွင် ဝဇိရာသနပလ္လင်ကို ကျောက်ပြားတစ်ခုအဖြစ် တွေ့နိုင်ပြီး ၎င်းနောက်တွင် တန်ဆာဆင်ယင်ထားသော ဗောဓိပင်၏ပင်စည်နှင့် ရတနာသုံးပါး အထိမ်းအမှတ်ပုံနှစ်ခု တွေ့ရသည်။ ဝဇိရာသနပေါ်တွင် ဥပါသကာနှစ်ယောက်လှူဒါန်းထားသော ပန်းများကြဲပြန့်နေလျက် ဗောဓိပင်မှ ထီးတော်တစ်ခုထွက်နေပြီး ဗောဓိကိုင်းများမှ ပန်းဆိုင်းများ တွဲလျားကျနေကြသည်။ နှစ်ယောက်မကသော ရှိခိုးပူဇော်သူများက ခရသင်းမှုတ်နေကြပြီး ၎င်းတို့၏ပဝါများကို မွှေ့ယမ်းနေကြသည်။ ၎င်းတို့အပေါ်မှ နတ်သားနှစ်ယောက်က ၎င်း (လူဥပါသကာ)နှစ်ယောက်နှင့်အတူ ရှိခိုးပူဇော်နေကြသည်။ တစ်ယောက်က ဘယ်ဘက်မှ ပန်းများကို ကြဲဖြန့်လျက် အခြားတစ်ယောက်ကမူ ညာဘက်မှနေ၍ ပန်းကုံးကို လှူဒါန်းနေသည်။ စေတီဝန်းကျင်တွင် ခြံစည်းရိုးလက်ရန်းတစ်ခုနှင့် ယင်းလက်ရန်းနှင့် ခပ်လှမ်းလှမ်းတွင် အသောကစိုက်ထူခဲ့သည့် ထိပ်တွင်ဆင်ရုပ်ပါ ကျောက်စာတိုင်တစ်ခု တွေ့ရသည်။ ဝဇိရာသနဂန္ဓကုဋီဟု ခေါ်ဝေါ်ခဲ့ပုံရသော ဤစေတီသည် ရာစုနှစ်ပေါင်းများစွာ တည်ရှိနိုင်ခဲ့ပြီး မကြာခဏပြုပြင် မွမ်းမံပြီး (အသစ်) ထပ်မံ တိုးချဲ့ခဲ့ပုံရသည်။

ဗုဒ္ဓဂယာသမိုင်းအများစုကို ကောင်းမှုရှင် ကမ္ပည်းစာတန်းများနှင့် နံရံရုပ်ကြွများမှ သိရပြီး အနည်းစုအနေဖြင့်မူ ရာစုနှစ်များတစ်လျှောက်

## ၃။ ဗုဒ္ဓဂယာ

> ကောင်းမှုကုသိုလ်ကို ရှာမှီးသူအဖြစ် အတုမဲ့အနှိုင်းမဲ့ ငြိမ်းချမ်းမှု လမ်းစဉ်ကို ရှာဖွေလျက် မဂဓနိုင်ငံတော်တစ်လွှား လှည့်လည်စဉ် ငါဘုရားသည် စစ်တပ်မြို့ဟောင်းဖြစ်သည့် ဥရုဝေလာရွာသို့ ဆိုက်ရောက်ခဲ့၏။ ဥရုဝေလာတွင် ပြေပြစ်သည့် မြေပြန့်လွင်ပြင်၊ နှစ်သက်ဖွယ် တောအုပ်၊ အနီးတွင် ဆွမ်းခံရွာနှင့် လှပသောမြစ်ဆိပ်များဖြင့် ကြည်လင်စွာ စီးနေသည့် (နေရဉ္ဇရာ)မြစ်တို့ကို မြင်တွေ့မိ၏။ ဤသို့ဖြင့် ငါဘုရားသည် 'ဤနေရာကား အရွယ်နှင့်ပြည့်စုံသူ လူငယ်တစ်ယောက်အဖို့ (လွတ်မြောက်မှုအတွက်) ကြိုးစားရန် ကောင်းမြတ်သည့် နေရာအမှန်ဖြစ်သည်'ဟု ဆင်ခြင်မိ၏။ သို့ဖြင့် ငါဘုရားသည် 'ဤနေရာကား ငြိမ်းချမ်းမှုကိုရှာဖွေရန် နေရာကောင်း အမှန်ဖြစ်၏'ဟု ဆုံးဖြတ်ပြီး ဥရုဝေလာတွင် အခြေချခဲ့ပေ၏ (မ ၁၊ ၂၂၃)။

အမျိုးမျိုးသော ဆရာကြီးများထံတွင် သင်ယူလျက် မိမိကိုယ်ကို ညှဉ်းပန်းနှိပ်စက်မှု(အတ္တကိလမထ) ကျင့်စဉ်ကို စမ်းသပ် ကျင့်သုံးပြီးနောက် ခြောက်နှစ်အကြာ ဘီစီ ၅၂၈-တွင် မင်းသားသိဒ္ဓတ္ထသည် မဂဓတိုင်း ဥရုဝေလာရွာကလေး၏ အစွန်အဖျားနေရာသို့ ဆိုက်ရောက်ခဲ့သည်။ ယနေ့ခေတ် များစွာသော အိန္ဒိယတောရွာများမှာကဲ့သို့ပင် ဥရုဝေလာတွင် ရွာသူရွာသားတို့က လိုအင်ဆန္ဒများပြည့်ဝသည်ဟု ယုံကြည်လျက် ပူဇော်ကိုးကွယ်သည့် သစ်ပင်တစ်ပင်ရှိသည်။ မင်းသားသိဒ္ဓတ္ထသည် အဆိုပါ လူတို့ကိုးကွယ်ခံ သစ်ပင်အောက်၌ထိုင်၍ ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်နေသည်။ မကြာမီအချိန်က နေထိုင်ခဲ့သော ဘေးရန်ထူပြောလှသည့် တောအုပ်များနှင့်မတူဘဲ ဥရုဝေလာအနီးဝန်းကျင် ဒေသသည် စိမ်းလန်း သစ်ပင်များရှိပြီး အန္တရာယ်ကင်းဝေးလှသောကြောင့် ဤနေရာကို မင်းသားသိဒ္ဓတ္ထ ရွေးချယ်ခဲ့ခြင်းဖြစ်နိုင်သည်။ မကြာမီ အချိန်၌ တစ်ယောက်ယောက် (သစ်ပင်ကို) ပူဇော်ပသရန်လာမည်၊ မိမိကို

မြင်မည်၊ နောက်မိမိအတွက် အစားအစာ ယူဆောင်လာနိုင်သည်ဟု သိမြင်သောကြောင့်လည်း ဤ(ဖော်ပြပါ) သစ်ပင်ရင်းကို ကမ္မဋ္ဌာန်းဘာဝနာ ရှုပွားမည့်နေရာအဖြစ် ရွေးချယ်ခဲ့ခြင်းဖြစ်နိုင်သည်။ ဇာတက (ဇာ–ဋ္ဌ ၄၊ ၂၃၂) တွင် ဗောဓိပင်ဝန်းကျင်မြေနေရာ (ဗောဓိမဏ္ဍ)အရပ်ကို မြတ်ဗုဒ္ဓ ဗောဓိဉာဏ်ကို မရမီအချိန်က ချွန်ထက် မြက်သစ်ပင်များ ပေါက်ရောက်ခြင်းမရှိဘဲ ဗောဓိပင်အား အရိုအသေ ပေးနေကြဘိသကဲ့သို့ ဗောဓိပင်ဘက်သို့ ကိုင်းညွှတ်လျက် ဝန်းရံနေသောသစ်ပင်များနှင့် ပွင့်နေသော ပန်းချုံများရှိပြီး ငွေရောင်သဲများဖြင့် ချောမွတ်နေသည့် မြေနေရာအဖြစ် ဖော်ပြထားသည်။

ပါရမီဖြည့်ကျင့်လာခဲ့သည့် နှစ်ကာလများ၊ ဘဝသက်တာများဖြင့် ဆုံးမထားပြီး စင်ကြယ်နေသောစိတ်ဖြင့် ကမ္မဋ္ဌာန်း ဘာဝနာရှုမှတ်နေစဉ်အတွင်း မင်းသားသိဒ္ဓတ္ထသည် ဝိဇ္ဇာ၊ အဝိဇ္ဇာနှင့် တဏှာတို့၏ အနုသယ အကြွင်းအကျန်များကို ကျော်လွှားရန် နောက်ဆုံးအချိန်အဖြစ် မိမိကိုယ်ကို သန္နိဋ္ဌာန်ချထားလိုက်သည်။ ပဓာနသုတ္တန် (သုတ္တနိ၊ ၃၁၄) နှင့် အခြားများစွာသော ဗုဒ္ဓဝါဒစာပေ၌ ဤနောက် ဆုံးကြိုးပမ်းမှုအကြောင်းနှင့် ပတ်သက်ပြီး မကောင်းမှု၏ အထည်ကိုယ် ပုဂ္ဂိုလ်ဖြစ်အဖြစ် စံနမူပြုထားသော မာရ်နတ်မင်းကို တော်လှန်သည့် တိုက်ပွဲနှင့် သရုပ်ဖော် ဖွင့်ဆိုထားသည်။

မာရ်နတ်မင်း၏စစ်သည်များကို နှိမ်နင်းပြီးနောက် မင်းသားသိဒ္ဓတ္ထ၏စိတ်ထဲတွင် အမြင့်မားဆုံးသော ပညာဉာဏ် ပေါ်ထွန်းခဲ့ပြီး မင်းသားသိဒ္ဓတ္ထသည် တရားအလုံးစုံကို သိမြင်သည့် ဗုဒ္ဓဘုရားအဖြစ်သို့ ရောက်ရှိတော်မူသည်။ မြတ်ဗုဒ္ဓသည် ဗောဓိဉာဏ်၏ချမ်းသာမှုကို ခံစားလျက် မိမိသိမြင်ပြီး သစ္စာတရားများနှင့် ပတ်သက်သည်တို့ကို ဆင်ခြင် သုံးသပ်ပြီး ဗောဓိပင်အနီးဝန်းကျင်၌ ခုနစ်ပတ်ကြာ သီတင်းသုံးတော်မူသည်။ ၎င်းနောက် မြတ်ဗုဒ္ဓသည် မိဂဒါဝုန်သို့ ကြွတော်မူသည်။ ဗုဒ္ဓရှင်တော်မြတ်သည် ထိုနှစ်နှောင်းပိုင်းတွင် (ဥရုဝေလာသို့) တစ်ဖန် ပြန်လာပြီး ထိုအရပ်ရှိ နဒီကဿပ၊ ဂယာကဿပ၊ ဥရုဝေလကဿပဟု ထင်



ရှားသည့် ရသေ့ညီနောင်သုံးဦးတို့အား မိမိ၏တရားကို လိုက်နာ ကျင့်သုံးစေတော်မူသည်။ ထိုအချိန်မှစ၍ ဥရုဝေလာသို့ လုံးဝတစ်ဖန် ပြန်ကြွတော်မမူနိုင်သည်မှာ ထင်ရှားသည်[၉]။

ဥရုဝေလာအနီးတွင် တိုက်တိုက်ဆိုင်ဆိုင် ဖွားမြင်ခဲ့ပုံရသည့် (အဋ္ဌကထာဆရာကြီး) အရှင်မဟာဗုဒ္ဓဃောသအလိုအရ ထိုနယ်မြေတွင် သဲအမြောက်အမြားရှိသောကြောင့် ဥရုဝေလာဟူသောအမည်ကို ရရှိသည်။ သို့ရာတွင် ဥရုဝေလာအနီး၌ ဖြစ်ပျက်ပေါ်ပေါက်ခဲ့သော ဖြစ်ရပ်တစ်ခု (မင်းသားသိဒ္ဓတ္ထ ဗောဓိဉာဏ်ကို ရရှိခြင်း)သည် ယင်းဥရုဝေလာ ဟူသောအမည်ကိုစွန့်ပစ်ပြီး ထိုအဖြစ်အပျက်ကို ကိုယ်စားပြုသည့် အခြားအမည်များစွာဖြင့် အစားထိုးလိုက်သည်အထိ အလွန်ပင် အရေးပါခဲ့သည်။ ဘီစီ ၂၆၀–ခန့်တွင် ထိုအရပ်သို့ ဘုရားဖူးရောက်ပုံကို ဖော်ပြရာ၌ အသောကမင်းကြီးက မိမိသည် သမ္ဗောဓိ (အယာယ သမ္ဗောဓိ) အရပ်သို့ သွားရောက်ခဲ့သည်ဟု ဆိုသည်။ နှောင်းခေတ်များ၌ ထိုနေရာကို မဟာဗောဓိ (အဘိ–ဋ္ဌ ၁၊ ၁၁) သို့မဟုတ် ဝဇိရာသန(ဥဒါန–ဋ္ဌ၊ ၂၉) ဟုသာသိကြပြီး ဗုဒ္ဓဂယာဟူသောအမည်ကိုမူ ၁၃–ရာစုတွင် အစောဆုံး ခေါ်ဝေါ်ခဲ့ကြပုံရသည်။ ရံဖန်ရံခါ ဗြဟ္မဂယာဟုခေါ်သော ဂယာ (မြို့)အရပ်နှင့် ကွဲပြားစေရန်သာ (ယင်းသို့ခေါ်ဝေါ်) အသုံးပြုခဲ့ကြဖွယ်ရှိသည်။

ဗုဒ္ဓဂယာရှိ ပထမဆုံးသော ရှိခိုးပူဇော်ခံအရာဝတ္ထုမှာ သစ်သားဖြင့်ပြုလုပ်ထားသည့် ခြံစည်းရိုးလက်ရန်းဖြင့် ကာရံထားသော မဟာဗောဓိပင်ကြီးနှင့် ပင်ခြေရှိ ကျောက်သား ပလ္လင်တော် ဖြစ်ဖွယ်ရှိသည်။ အစဉ်အလာအရ ခိုင်ခံ့သည့် ပထမဆုံးသောစေတီ (ဘုရားကျောင်း)တော်တစ်ခုကို အသောကမင်း တည်ဆောက်ခဲ့သည်ဟု ယူဆသည်။ ဤအစဉ်အလာကို ထောက်ခံရန် ခိုင်လုံတိကျသော အထောက်အထား

[၉] မဟာဗောဓိမဏ္ဍိုင်သည် ဗုဒ္ဓရှင်တော်မြတ်အဖို့ မဟာအောင်မြေဖြစ်ခြင်း၊ မဟာပရိနိဗ္ဗာနသုတ်တော်၌လည်း ဘုရားဖူးသွားရောက်သင့်သော နေရာဌာနတစ်ခုအဖြစ် အထူးပြုဟောကြားတော်မူထားခြင်းတို့ကြောင့် ပါဠိတော်များ၌ တိုက်ရိုက်ဖော်ပြထားခြင်းမရှိသော်လည်း မြတ်ဗုဒ္ဓသည် မဟာဗောဓိမဏ္ဍိုင်သို့ တစ်ကြိမ်မက ကြွရောက်တော်မူခဲ့ဖွယ်ရှိသည် (ဘာသာပြန်သူ)။

ကျောင်းတိုက်ရှိ၏။ ယင်းကျောင်းတိုက်ကို ရှေးခေတ်သီဟိုဠ်ဘုရင် တစ်ပါးက တည်ဆောက်လှူဒါန်းခဲ့၏။ ဤအဆောက်အအုံသည် မျှော်စင် သုံးထပ်ရှိပြီး ခန်းမကျယ် ခြောက်ခုပါရှိ၏။ ပေ ၃၀–သို့မဟုတ် ၄၀–ခန့် မြင့်သော တံတိုင်းကြီးတစ်ခုဖြင့် ကာရံထား၏။ အကောင်းဆုံး အနုပညာလက်ရာကို အသုံးပြုထား၏။ အဆင့်အမြင့်ဆုံး ဆေးရောင်များဖြင့် အလှအပ ပြင်ဆင်ထား၏။ ဗုဒ္ဓဆင်းတုတော်ကို ရွှေငွေတို့ဖြင့်ထုလုပ်ထားပြီး ရတနာများ အဖိုးတန် ကျောက်မျက်များဖြင့် စီခြယ်ထား၏။ စေတီတော်များမှာ မြင့်မားပြီး အရွယ်အစားကြီးမား၏။ လှပသပ္ပာယ်စွာ ပြုပြင်ဆင်ယင်ထား၏။ ထိုစေတီတော်များတွင် ဗုဒ္ဓဓာတ်တော်များ ဌာပနာ (ထည့်သွင်း)ပူဇော်ထား၏'။

အဆိုပါမင်းကြီးသည် ၎င်း၏အစ်ကိုရဟန်း အိန္ဒိယသို့ ဘုရားဖူးကြွစဉ် အိန္ဒိယဘုရားကျောင်းများတွင် နေထိုင်စရာ အခက်အခဲရှိကြောင်းတွေ့ရသဖြင့် ဤသီရိလင်္ကာကျောင်းတိုက်ကို တည်ဆောက်ခဲ့ခြင်းဖြစ်ကြောင်း ဟူယင်ဆန်မှတ်တမ်း၌ ဖော်ပြထားသည်။ ကျောက်စာတစ်ခု၌ အောက်ပါအတိုင်း ရေးထိုးထားခဲ့ကြောင်းလည်း ဟူယင်ဆန်က မှတ်တမ်းတင်ခဲ့သည် 'ခွဲခြားခြင်းမရှိဘဲ လူအားလုံးကို ကူညီခြင်းသည် ဘုရားရှင်အားလုံးတို့၏ အမြင့်မြတ်ဆုံး ဩဝါဒတော်ပင်ဖြစ်၏'။ ဤသီရိလင်္ကာကျောင်းတိုက်သည် (တိဗက်ရဟန်းတော်) ဓမ္မသာမိ အိန္ဒိယသို့ ဘုရားဖူးကြွရောက်ချိန် ၁၃– ရာစုနှစ်အထိ တည်ရှိခဲ့ပြီး ညီညွတ်ကျေပွန်မှုအစဉ်အလာကို ထိန်းသိမ်းထားဆဲဖြစ်ပုံရသည်။

မဟာဗောဓိကျောင်းတိုက်သည် မဟာဗောဓိစေတီတော်၏ မြောက်ဘက်တည့်တည့်တွင်ရှိပြီး ယခုအချိန်တွင် မဟန့်နန်းတော်မှသည် မဟာဗောဓိအသင်း အဆောက်အအုံနှင့် တိဗက်ကျောင်း နောက်ဘက်ထိရောက်သော တောင်ကုန်းရှည်ကြီးအောက်တွင် တည်ရှိသည်။ ဤကျောင်းတိုက်၏ ပင်မအဆောက်အအုံကို မစ္စတာကန်နင်ဟမ်နှင့် ဘဂ်ဂ်လာ (Beglar)တို့ ၁၈၈၅–ခုနှစ်တွင် တူးဖော်တွေ့ရှိခဲ့သည်။ ယင်း (ပင်မ) အဆောက်အအုံသည် သုံးမီတာ ထူသည့်နံရံများ၊ ထောင့်လေးထောင့်





မဟာဗောဓိစေတီတော်၏ ရှေ့ပြေးပုံစံကို
ဖော်ပြသည့် ဘာရဟုတရုပ်ကြွပုံ

လုံး လာရောက်ခဲ့ကြသော ဘုရားဖူးများ၏ စာပေမှတ်တမ်းများမှ သိရသည်။ ယင်းရေးမှတ်ထားချက်များသည် ဘုရားဖူးများကိုယ်တိုင် ဤစေတီတော်နှင့် ပတ်သက်၍ ပြုလုပ်ထားချက်အများစုကို ဖော်ပြကြသည်။ ဘုရားဖူးအများစုမှာ တစ်ယောက်တည်းလာကြပြီး တစ်ခါတစ်ရံ ဇနီးသားသမီးများနှင့်အတူ တစ်ခါတစ်ရံ ခရီးသွားမိတ်ဆွေများနှင့်အတူ အချို့မှာ ရပ်ဝေးမှလာခဲ့ကြပြီး (ဗုဒ္ဓဂယာသို့) ရောက်သောအခါတွင်မှ ဒေသတူအခြား တစ်ယောက်နှင့် ဆုံတွေ့ကြသည်။ ၎င်းတို့အထဲတွင် ရက်ရက်ရောရော အလှူဒါနပြုလျက် ဂုဏ်ယူလိုသည့် မင်းညီ မင်းသားများလည်းပါသည်။ အခြားတစ်နေရာတွင် ရန်ပုံငွေပြတ်တောက်၍ စိတ် တိုင်းကျမလှူဒါန်းနိုင်သော ရဟန်းတော်တစ်ပါးလည်း ပါဝင်သည်။ ဘုရားကျောင်းများ တည်ဆောက်သူ၊ စေတီတော်များ တည်ဆောက်သူ၊ သို့မဟုတ် ပူဇော်ကော်ရော်သူများအားလုံးသည် ၎င်းတို့ဆောင်ရွက်သော ကုသိုလ်သည် ၎င်းတို့ကိုယ်တိုင်ကိုရော အခြားသူများကိုပါ အကျိုးဖြစ်ထွန်းပါစေဟူသော လေးနက်သည့် ဆန္ဒမွန်ကို ဖော်ပြလျက် ယင်းသို့ဆောင်ရွက်ခဲ့ကြသည်။

ရှေးဦးစွာ သင့်လျော်သည့်စေတီကို တည်ဆောက်ပြီးနောက် ဗုဒ္ဓဂယာ၌ နောက်ထပ် အဓိကတည်ဆောက်မှုမှာ ကျောက်လက်ရန်းဖြစ်သည်။ ယင်း(လက်ရန်း)သည် ဘီစီ ၁၀၀–အချိန်က စိုက်ထူခဲ့သော ပိုမိုရှေးကျသော သစ်သားလက်ရန်းကို အစားထိုးလိုက်ခြင်း ဖြစ်ဖွယ်ရှိသည်။ အစိတ်အပိုင်းတစ်ချို့ကို ပြတိုက်တွင် ကြည့်ရှုနိုင်သေးသော ကျယ်ပြောစွာ တန်ဆာဆင်ထားသည့် အဆိုပါ (ကျောက်လက်ရန်း) အဆောက်အအုံသည် ဣန္ဒြဂနိမိတြမင်းနှင့် ဗြဟ္မမိတြမင်းတို့၏ နန်းတွင်း အရာရှိအမျိုးသမီးအဖွဲ့၏ အလှူဒါနဖြစ်သည်။ နှစ်ငါးဆယ် သို့မဟုတ် နှစ်တစ်ရာခန့်အကြာတွင် ဗောဓိရက္ခိတဆိုသူက (ဒေါင်လိုက်) ကျောက်လက်ရန်း(တိုင်)အတွက် လိုနေသော (အလျားလိုက်) ယက်မတန်းတစ်ခု လှူဒါန်းခဲ့ဖွယ်ရှိသည်။ ကျိုးကျသွားပြီးဖြစ်သည့် (ယက်မ) တန်း နေရာတွင် အစားထိုး တပ်ဆင်ခြင်း ဖြစ်သည်မှာ ထင်ရှားသည်။



ဗောဓိရက္ခိတသည် ကျွန်ုပ်တို့သိရသမျှတွင် သီရိလင်္ကာမှ ဗုဒ္ဓဂယာသို့ သွားရောက်ခဲ့သည့် ပထမဆုံးဘုရားဖူးဖြစ်သည်။ ကုသနခေတ်အတွင်း ဗုဒ္ဓဂယာ၏ ပထမဦးဆုံးသော ဗုဒ္ဓဆင်းတုတော်များကို (ထုလုပ်) ပူဇော်ကြသည်။ ယင်းဆင်းတုတော် အများစုမှာ အတော်အတန် ကြီးမားပြီး ဉာဏ်တော်သုံးမီတာမှ လေးမီတာအထိ မြင့်ကြသည်။ ၎င်းတို့ထုလုပ်သော လှပသည့်ပန်းနုရောင် သဲကျောက်နှင့် ပုံသဏ္ဌာန်များအရ ယင်းဆင်းတုတော်များကို မဓုရာမြို့တွင် ထုတ်လုပ်ခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။

ခရစ်နှစ် ၃၈၃–တွင် ရဟန်းတော်တစ်ပါးနှင့် ၎င်း၏ဥပဋ္ဌာကများအနက် တစ်ယောက်သည် ဗုဒ္ဓဆင်းတုတော်တစ်ဆူ၊ ဗောဓိသတ္တဆင်းတုတစ်ဆူ စုစုပေါင်း ဆင်းတုနှစ်ဆူကို လှူဒါန်းခဲ့သည်။ ဗုဒ္ဓဆင်းတုတော်တွင် အလှူမှတ်တမ်း ကမ္ပည်းစာတန်း ရေးထိုးထားသည်။ ယင်းအလှူကမ္ပည်းတွင် အောက်ပါအတိုင်းဖော်ပြပါရှိ၏ 'တြိကမလမင်းကြီး စိုးစံစဉ်အတွင်း ၆၄–ခုနှစ်၊ ၃–ခုမြောက်လ၏ ၅–ရက်နေ့၊ ဤအချိန်မတိုင်မီကလေးတွင် ဝိနယဂိုဏ်းဝင်ရဟန်းတော် တစ်ပါးသည် မိမိ၏စွမ်းအားဗလဖြင့် နှစ်ဆူလုံးတွင် ခြသေ့်ရုပ်အောက်ခံ (ပလ္လင်)ပါသည့် မြတ်ဗုဒ္ဓနှင့် ဗောဓိသတ္တ ကျောက်ဆင်းတုတော်နှစ်ဆူကို လှူဒါန်းခဲ့သည်။ ဤမြင့်မြတ်သောကုသိုလ်မှုတွင် ပါဝင်ကူညီသူ ဗုဒ္ဓဘာသာဝင် ဥပါသိကာမကြီးတစ်ယောက်၏ အထောက်အပံ့ဖြင့် ဓမ္မဆရာကဆောင်ရွက်ခဲ့သည်။ ဤမြင့်မြတ်သောအလုပ်မှ ရရှိသည့်ကုသိုလ်ကို ဥပဇ္ဈာယ်ဆရာကိုအစထား၍ မိခင်ဖခင်တို့အား အမျှပေးဝေပါ၏'။

အေဒီ လေးရာစုတွင် သီရိလင်္ကာဘုရင် မေဃဝဏ္ဏ (အေဒီ ၃၀၄–၃၃၂) သည် ဗုဒ္ဓဂယာ၌ ဘုန်းတော်ကြီးကျောင်း တိုက်တစ်ခု တည်ဆောက်ခဲ့သည်။ ယင်းကျောင်းတိုက်သည် အချိန်မီ မဟာဗောဓိစေတီတော်အား ပြုပြင်စောင့်ရှောက်မှုကို ထိန်းချုပ်လာခဲ့သည်။ တရုတ်ရဟန်းတော် ဟူယင်ဆန်သည် ဤ(သီရိလင်္ကာ)ကျောင်းကို နောက်ထပ်နှစ် ၃၀၀– ကြာပြီးနောက် မြင်တွေ့ခဲ့စဉ် ၎င်းကဤသို့ ဖော်ပြသည် 'မဟာဗောဓိပင် တံတိုင်း၏အပြင် မြောက်ဘက်ဂိတ်တွင် မဟာဗောဓိ

ရည်ရွယ်ချက်ကို ဤသို့ ဖော်ပြထားသည် 'ဆရာအရှင်ကဲ့သို့ပင် ကြီးမြတ်ဆဲဖြစ်လျက် လင်္ကာဒီပ (သီရိလင်္ကာ)တွင် မွေးဖွားခဲ့ပြီး စွမ်းရည်မြင့်မားသည့် မိသားစုဝင် အမရဒီပ (Amradvipa) အရပ်ဇာတိဖြစ်သူ မဟာနာမဟု ထင်ရှားသော အမည်ရှိသည့် ရဟန်းတော်သည် အများကောင်းကျိုး နှစ်သက်လိုလားသဖြင့်၊ ဘေးပတ်လည်တွင် ဟင်းလင်းပွင့် အမိုးဆောင်များနှင့်တကွသော ဤဘုရားကျောင်းဆောင်ကို လမင်း၏အရောင်ကဲ့သို့ ဖြူဖွေးသောအရောင်ကို ထွက်ပေါ်စေလျက် မာရ်မင်း၏ အာဏာတန်ခိုးကို ကျော်လွန်တော်မူသော လူသားတို့၏ဆရာ (မြတ်စွာဘုရား)အား ရည်မှန်း၍ အထွတ်အမြတ်ပြုရာ ဗောဓိမဏ္ဍိုင်တွင် ဆောက်လုပ်စေ၏။

'ဤကောင်းမြတ်သော ကုသိုလ်ကြောင့် သတ္တဝါအပေါင်းတို့သည် လောကီအရာဝတ္ထုများကို တပ်မက်စွဲလမ်းခြင်းမှ လွတ်မြောက်ကြပါစေ။ မီးရှူးတန်ဆောင်ကဲ့သို့ စိတ်အမှောင်ကိုဖယ်ခွာလျက် တွယ်တာမက်မောခြင်းမရှိကြဘဲ ပြည့်စုံပြီးမြောက်သော အသိပညာဖြင့် အမြတ်ဆုံး ချမ်းသာကို ရရှိနိုင်ကြပါစေ။ အမှောင်ကိုပယ်ခွင်းသည့် နေမင်းကြီးသည် ထွက်ပေါ်လာသော ရောင်ခြည်ဖြင့် အရပ်ရှစ်မျက်နှာကို ထွန်းလင်းတောက်ပနေသမျှ မဟာသမုဒ္ဒရာသည် မြွေဟောက်၏ ပါးပျဉ်းကဲ့သို့ ကွေးသော ဒီလှိုင်းများဖြင့် ကမ်းစပ်တိုင် ပြည့်နေသမျှ ဣန္ဒြေနတ်မင်းပျော်စံရာ မြင်းမိုရ်တောင်သည် ဂုဏ်သရေ ပြည့်လျှမ်းစေရန်အလို့ငှာ ရတနာကျောက်ဖျာအမျိုးမျိုးဖြင့် ၎င်း၏အထွတ်ကိုလှပစေသမျှ (ကာလပတ်လုံး) ဤမြတ်ဗုဒ္ဓ၏ ကျောင်းဆောင်တော်သည် ထာဝစဉ်တည်တံ့ပါစေသတည်း။ ၂၀၀၊ ၆၀ နှင့် ၉ (၂၆၉) ခုနှစ်၊ စိတြ (တန်းခူး) လ၏ လဆန်းပက္ခ ၇-ရက်မြောက်နေ့'။

သက္ကတဘာသာဖြင့် ရေးထိုးထားသည့် ဤကျောက်စာကို ကာလကတ္တားမြို့ အိန္ဒိယပြတိုက် (Indian Museum)တွင် ယခုတွေ့ရှိနိုင်သည်။ ဤဘုရားကျောင်း၌ မဟာနာမထေရ် တည်ထားခဲ့သည့် ဆင်းတုတော်ကိုလည်း ထိုမထေရ်၏ ဘုရားဖူးခရီးစဉ်တွင် လိုက်ပါလာကြသည်ဟု ယူဆနိုင်သည့် ဓမ္မဂုတ္တနှင့် ဓမ္မသေနဟူသော သီရိလင်္ကာရဟန်းတော်



တွင် မျှော်စင်လေးခု၊ အလယ်တွင် ကျောက်စာတိုင်ဝင်းတစ်ခုပါရှိသည့် ၁၅-စတုရန်းမီတာမျှရှိသော ရောမအဆောက်အအုံ ဖြစ်သည်။ ရေနုတ်မြောင်းတစ်ခုသည် ယင်းခြံဝင်းမှ အပြင်အုတ်တံတိုင်းဘက်သို့ ထွက်သွားပြီး ပြတိုက်ထဲတွင် ယနေ့တွေ့မြင်နိုင်သည့် အဆင့်မြင့်ထွင်းထုထားသော မခါရ(Makhara)[၁၀] ဖြင့် အဆုံးသတ်သည်။ ကျောင်းပတ်လည်နှင့် ၎င်းမှ ၉၂-မီတာခန့်အဝေးတွင် မျှော်စင် ၁၆-ခုပါ တံတိုင်းကြီး ရှိသည်။

ဗုဒ္ဓဂယာကို (ရဟန်းတော်များ) စွန့်ပစ်ခဲ့ကြပြီးနောက် မဟာဗောဓိကျောင်းတိုက်ကို ဒေသဆိုင်ရာ အကြီးအကဲများက ခံတပ်အဖြစ် အသုံးပြုခဲ့သည်မှာ အံ့သြဖွယ်မဟုတ်တော့ချေ။ မြောက်ဘက်ရှိ မဟာဗောဓိစေတီသို့ ဦးတည်သွားသော လှေကားများ၊ ၎င်းဘေးရှိ ခုံးပေါက်များပါသည့် တံတိုင်းများသည် ကျောင်းတိုက် အပြင်အကျဆုံးတံတိုင်း၏ အစိတ်အပိုင်းများဖြစ်သည်။ ယင်းတို့သည်သာ ယနေ့တိုင် မြင်တွေ့နိုင်သေးသော ကျောင်းတိုက်၏ အကြွင်းအကျန်အစအနများ ဖြစ်ကြသည်။

ယနေ့ ဖူးတွေ့ရသည့် မဟာဗောဓိစေတီတော်ကို မည်သူ တည်ဆောက်ခဲ့သည်၊ မည်သည့်အချိန်က တည်ဆောက်ခဲ့သည် ဟူသော အချက်သည် အမှန်ပင်တိမ်မြုပ်နေသေးသည့် အချက်တစ်ရပ်ဖြစ်သည်။ အေဒီ လေးရာစုအစပိုင်း ဗုဒ္ဓဂယာသို့ ဘုရားဖူး ကြွရောက်ခဲ့သော (တရုတ်ရဟန်းတော်) ဖာဟီယန်က စေတီတော်ကို ဖူးမြော်ခဲ့ရကြောင်း ဖော်ပြချက်မရှိချေ။ သို့ရာတွင် (အခြားတရုတ်ရဟန်းတော်) ဟူယင်ဆန် အေဒီ ၇-ရာစုအစောပိုင်း ကြွရောက်သောအခါ၌မူ ဤနေရာတွင် ယနေ့ဖူးမြင်နိုင်ကြရသည့်အတိုင်း အခိုင်အခံ့စေတီကြီးတစ်ဆူ တည်ရှိနေပြီ။

သို့ဖြစ်၍ မဟာဗောဓိစေတီတော်ကို အေဒီ လေးရာစု၏ ပထမနှစ်ဝက်တွင် တည်ဆောက်ခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။

ရဟန်းတော် ဟူယင်ဆန်သည်  ညီအစ်ကိုနှစ်ယောက် ဆုတောင်း

---

[၁၀] Makara ဟုလည်း စာလုံးပေါင်းသည်။ စွမ်းအင်ကြီးမားသည့် ပင်လယ်သတ္တဝါ တစ်မျိုး ဖြစ်သည်။ ရောမင်္ဂါးကြီး ဥပမာ ဝေလငါး သို့မဟုတ် ရောမ ပင်လယ်လိပ်ကြီးများဖြင့် သရုပ်ဖော်လေ့ရှိသည် (The Secker's Glossary of Buddhism  P. 356)။ ဘာသာပြန်သူ။

ပြည့်သည့်အနေဖြင့် ဤ(မဟာဗောဓိ)စေတီကို တည်ဆောက်ခဲ့ကြောင်း ဖော်ပြခဲ့သော်လည်း ဤမျှ ထုထည်ကြီးမားသော အဆောက်အအုံကို တည်ဆောက်ရန် လိုအပ်သည့် အကြောင်းရင်းများသည် အုပ်ချုပ်သူ ဘုရင်များတွင်သာ ရှိနိုင်ကြောင်း သိမြင်နိုင်သည်။ နောက်တစ်ခုမှာ စေတီတော်တည်ဆောက်မှုနှင့် ပတ်သက်သည့် အလှူရှင်မှတ်တမ်းလည်း မတွေ့ရချေ။ ထိုခေတ်က တည်ရှိနေသည့် စေတီတော်ပုံသဏ္ဌာန်ကို ဟူယင်ဆန်က ဤသို့ဖော်ပြသည် 'ဗောဓိပင်၏ အရှေ့ဘက်တွင် ဉာဏ်တော် ၁၆၀ သို့မဟုတ် ၁၇၀ ပေမြင့်သည့် စေတီတော်တစ်ဆူရှိ၏။ ၎င်း၏ အောက်ပိုင်းအခြေ (အုတ်မြစ်)နံရံသည် (စေတီတော်၏) ရှေ့ဘက်ခြမ်းတွင် ခြေလှမ်းပေါင်း နှစ်ဆယ် သို့မဟုတ် ယင်းထက်ပို၍ ကျယ်ဝန်း၏။ အဆောက်အအုံကို အပြင်က အင်္ဂတေဖြင့် ကာရံ (သုတ်လိမ်း)ထားသည့် အပြာရောင် အုတ်များဖြင့် တည်ဆောက်ထား၏။ အထပ်တိုင်းရှိ လိုဏ်ခုံးများ အားလုံးတွင် ရွှေရောင်ဆင်းတုတော်များ ထားရှိ၏။ အဆောက်အအုံ၏ လေးဘက်လေးတန်တွင် အံ့ဩဖွယ် အလှအပများဖြင့် ဖုံးလွှမ်းထား၏။ တစ်နေရာတွင် ပုလဲကုံးပါသည့် ရုပ်ပုံများ၊ အခြားတစ်နေရာတွင် နတ်ပြဟ္မာရုပ်ပုံများဖြင့် (ခြယ်သထား၏)။ (စေတီတော်) တစ်ခုလုံးကား ရွှေချထားသော ကြေးနီသျှိသျှားသီးပုံ (Amalaka Fruit) ဖြင့် ပတ်ဝိုင်းထား၏။ အရှေ့ ဘက်မျက်နှာစာတွင် အထပ်ပါသည့် ခေါင်မိုးစင်မြင့်တစ်ခုနှင့် တစ်ခုပေါ်တစ်ခု မြင့်တက်နေသော တံစက်မြိတ်များကို ထင်ရှားပေါ်လွင်နေသည့် အခန်း ၃–ခု၏ အမြင့်နေရာနှင့် တွဲချိတ်ထား၏။ ၎င်းအရှေ့မျက်နှာ၏ ထိုးထွက်နေသော တံစက်မြိတ်များ၊ ကျောက်တိုင်များ၊ ယက်မများ၊ တံခါးများနှင့် ပြတင်းပေါက်များအား ရွှေငွေနှင့် တန်ဆာဆင်ထားသော (အနုပညာ) လက်ရာများဖြင့် စီခြယ်ထား၏။ အက်ကွဲပေါက်နေရာများကို မမြင်နိုင်စေရန် ပုလဲများ၊ ရတနာများဖြင့် ထည့်သွင်း၍ (တန်ဆာဆင်ထား၏)။ သုံးထပ်လုံးရှိ အမှောင်ခန်းကျဉ်းများ၊ ဆန်းကြယ်သည့် အခန်းကျယ်များ၌ တံခါးပေါက်များ ပါရှိ၏။ အပြင်ဝင်ပေါက်၏ ညာဘက်နှင့် ဘယ်ဘက်တွင် ကလိုင်ပေါက် သဏ္ဌာန် အခန်းငယ်များရှိ၏။ ဘယ်ဘက်တွင် အဝလောကိတေသွာရ



ဆင်းတုရှိပြီး ညာဘက်တွင် မေတ္တေယျဘုရားလောင်း၏ ရုပ်တုများရှိ၏။ ယင်းတို့ကို အဖြူရောင်ငွေသားဖြင့် ပြုလုပ်ထားပြီး ၁၀– ပေခန့်မြင့်၏'။

ဂုတ္တခေတ်တွင် မဟာဗောဓိစေတီတော်ပတ်လည်ရှိ ပရိဝုဏ်များ၌ ဘုရားကျောင်းငယ်ပေါင်းများစွာ တည်ဆောက်မှုများကို တွေ့ရသည်။ ဘုရားကျောင်းသုံးခု ဆောက်လုပ်ခြင်းကို ရည်ညွှန်းသည့် အလှူရှင်များကမ္ပည်းစာအရ ၎င်းတို့ အများစုကို လှပစွာ တန်ဆာဆင်ထားကြောင်း နားလည်ရသည်။ သို့ရာတွင် ယနေ့ခေတ်၌မူ ၎င်းတို့၏ အုတ်ခုံများသည်သာ ကြွင်းကျန်တော့သည်။ မူလက အဆိုပါဘုရားကျောင်းငယ်များ (သုံးခု)တွင် တစ်စိတ်တစ်ဒေသ ပါဝင်ခဲ့ပုံရသည့် ဗုဒ္ဓဆင်းတုတော်တစ်ဆူ၏ အောက်ခံပလ္လင်ခုံတွင်တွေ့ရှိရသော ကမ္ပည်းစာတစ်ခု၌ 'အကောင်းဆုံး တန်ဆာဆင်ထားသော အထူးမြတ်ဆုံး အမြင့်မြတ်ဆုံးဖြစ်သည့် ဤဘုရားကျောင်းတော်ကို ပြီးပြည့်စုံသည့် အသိပညာလမ်းစဉ်၌ ပျော်မွေ့ပြီး စိတ်ထားဖြူစင်သည့် ဒတ္တဂါလ္လရွာနေ ရဟန်းတော် ဗောဓိသေနသည် သတ္တဝါအားလုံးအား သနားကရုဏာရှေးရှုလျက် မာရ်(အနှောင့်အယှက်)ကို နှိမ်နင်းပြီးဖြစ်သော ပညာရှိဆရာအရှင်အား (ရည်မှန်း၍) လောက၏အနှောင်အဖွဲ့ကို ဖယ်ရှားရန် မိဘဆွေမျိုး ဆရာသမားများနှင့် အာဟဝဂြ (Ahavagra)ရွာနေ (ပုဂ္ဂိုလ်) အားလုံးအတွက် တည်ဆောက်လှူဒါန်းခဲ့၏' ဟုဖော်ပြသည်။

အေဒီ ၅၈၈–တွင် သီရိလင်္ကာမှ မဟာနာမခေါ် ရဟန်းတော်တစ်ပါး ကြွရောက်လာပြီး ဗုဒ္ဓဆင်းတုတော်တစ်ဆူနှင့် ဘုရားကျောင်း(ငယ်)တစ်ခု တည်ဆောက်ခဲ့သည်။ ဤကျောင်းတော်ရာ အကြွင်းအကျန်များကို (မဟာဗောဓိ)စေတီတော်သို့ သွားသော မြောက်ဘက်လှေကားအနီးတွင် မြင်တွေ့နိုင်သေးသည်။ (မဟာနာမ၏)ဘုရားကျောင်းငယ်အတွင်း တွေ့ရှိရသော ကမ္ပည်းကျောက်စာတစ်ခုတွင် ရဟန်းတော်မဟာနာမသည် မိမိကိုယ်တိုင်ပါဝင်သော ဆရာစဉ်ဆက်၏ မဟာထေရ်ဘွဲ့အမည်များကို ဖော်ပြထားသည်။ ထို့နောက် မိမိတည်ဆောက်သည့် ဘုရားကျောင်းနှင့် ယင်းသို့ တည်ဆောက်ခြင်းအတွက် မိမိ၏စေတနာ

ဤဖြစ်ရပ်များအရ ဗုဒ္ဓဂယာသည် ဘုရားဖူးခရီးအတွက် အရေးပါသကဲ့သို့ ပညာသင်ယူခြင်းနှင့် ပညာရှင်ဖြစ်ခြင်းအတွက် အရေးပါသော အချက်အချာနေရာတစ်ခု ဖြစ်ကြောင်းလည်းသိရသည်။

အေဒီ ၁၀၂၁–တွင် အခြားအစွမ်းထက်သည့် တရုတ်ရဟန်းတော်တစ်ဖွဲ့ ဗုဒ္ဓဂယာသို့ရောက်လာပြီး ၎င်းတို့ရောက်ရှိခဲ့မှုကို မှတ်သားရန် အထိမ်းအမှတ် (အဆောက်အအုံများ) ဆောက်လုပ်ခဲ့သည်။ ၎င်းတို့အနက် ရဟန်းတော် ယွမ်ရှူ (Yum-shu)သည် ဗုဒ္ဓ၏ဂုဏ်ကို ချီးမွမ်းထောမနာပြုသည့် ကဗျာရှည်ကြီးတစ်ပုဒ် စီကုံးပြီး ယင်းကဗျာကို ကျောက်ပြားကြီးတစ်ချပ်တွင် ရေးထွင်းထားခဲ့သည်။ ကျောက်စာ၏ ပထမအပိုင်းတွင် ဤသို့ဖော်ပြ၏ ‘ကျွန်ုပ် ယွမ်ရှူသည် ဗုဒ္ဓ၏နယ်မြေကို ဖူးမြင်ရန် ဝေးကွာသောဒေသမှ လာရောက်ခဲ့ပြီး အံ့ဘနန်း ဗုဒ္ဓမြတ်ခြေတော်ရာကို ကျွန်ုပ်၏မျက်လုံးအစုံဖြင့် ဖူးမြင်ရခြင်း၌ ဆရာသခင် (မြတ်စွာဘုရား)၏ ကြီးမြတ်သော ဂုဏ်တော်ကို ရိုသေစွာ မပူဇော်ရဘဲ ရှိမည်မဟုတ်လော။ သို့အတွက် ကျွန်ုပ်သည် ကျွန်ုပ်တွင် ကျန်ရှိနေသေးသော ငွေအသပြာကို စုဆောင်းပြီးဗောဓိပင်၏ မြောက်ဘက် ခြေလှမ်းသုံးဆယ်အကွာ၌ ဗုဒ္ဓဘုရားရှင် တစ်သောင်းအတွက် (အထိမ်းအမှတ်) ကျောက်တိုင်တစ်ခု စိုက်ထူခဲ့၏’။ ကဗျာရှည်ရေးပြီးနောက် ယွမ်ရှူက ဤသို့ နောက်ဆက်တွဲ ဖြည့်စွက် ဖော်ပြခဲ့သည် ‘ကျွန်ုပ်နှင့်အတူ အရှေ့ဘက်မြို့တော် ပင်မလမ်းမကြီးပေါ်ရှိ ဓမ္မပဒကျောင်းတိုက်မှ အိချင်နှင့်အိလင်ဟူသော ရဟန်းတော်နှစ်ပါးနှင့်အတူ မဟာဗောဓိစေတီတော်အား ပူဇော်ရန် ရွှေပန်းထိုးထားသည့် သင်္ကန်းတစ်ထည်စီပါသွားပြီး မိမိတို့ကိုယ်တိုင်စီ ထာဝရအမှတ်ရမှုအတွက် အထိမ်းအမှတ်ကျောက်ပြား (တိုင်)များ စိုက်ထူခဲ့ကြ၏’။

ယင်း(ယွမ်ရှူ)၏ စိတ်ဝင်စားဖွယ်ကျောက်စာနှင့် ၎င်း၏ အဖော်ရဟန်းတော်များ စိုက်ထူခဲ့သည့် အခြားကျောက်စာ တစ်ခုတို့ကို ယခုအခါတွင် ကာလကတ္တားရှိ အိန္ဒိယပြတိုက်၌ ပြသထားသည်။

ယွမ်ရှူနှင့် အဖော်ရဟန်းတော်များ ဗုဒ္ဓဂယာတွင်ရှိပြီးနောက် တစ်



နှစ်ပါး လှူဒါန်းခဲ့သည့် အခြားဆင်းတုတော် တစ်ဆူကဲ့သို့ပင် မြင်တွေ့နိုင်သေးသည်။

မဟာနာမပြီးနောက် နှစ်တစ်ရာ သို့မဟုတ် နှစ်ရာခန့်အကြာတွင် ဤအကြိမ်၌ ဥပါသကာဖြစ်သူ ဥဒယသိရိအမည်ရှိ သီရိလင်္ကာနိုင်ငံသားနောက်တစ်ယောက်သည် ဗုဒ္ဓဂယာ၌ အခြား ဗုဒ္ဓဆင်းတုတော်တစ်ဆူ တည်ဆောက်ပြီး ‘၎င်းမှာ အရှင်သခင် (ပညာရှိ) ဖြစ်လိုသဖြင့် ယင်း (ဆင်းတုတော်)အား ပူဇော်သမှုပြုခဲ့ခြင်း ဖြစ်သည်’။ ဤဆင်းတုတော် အောက်ခြေတွင် ပန်းကုံးတစ်ခု ကိုင်ဆောင်ထားသည့် ဥဒယသိရိဟု ယူဆရသော ဒူးထောက်နေသည့် ရုပ်တုတစ်ခုနှင့် ၎င်း၏မိသားစုဖြစ်နိုင်သည့် အမျိုးသမီးတစ်ယောက်နှင့် ကလေးငယ် တစ်ယောက်တို့၏ ရုပ်တုများပါရှိသည်။

ဥဒယသိရိနှင့် တစ်ခေတ်တည်းလောက်တွင် အခြားသော သီရိလင်္ကာဘုရားဖူးပင်ဖြစ်သူ ပြာချာတကိတ္တိ (ရဟန်းတော်)၏ ဘုရားကျောင်းပတ်လည်ရှိ ကျောက်လက်ရန်းပေါ်တွင် ရေးထိုးထားသော ကျောက်စာတစ်ခုတွေ့ရသည်။ ဤဘာသာတရားကိုင်းရှိုင်းသူ ရဟန်းတော်သည် ဘုရားကျောင်းတစ်ခု တည်ဆောက်ခဲ့သည်သာမက မဟာဗောဓိစေတီတော်ကိုလည်း ပြန်လည်ပြုပြင်ခဲ့ပြီး စေတီတော်အတွင်း ထာဝရထွန်းလင်းနေမည့် ဆီမီးတစ်ခုထားရှိရန် အထောက်အပံ့ပြုခဲ့သည်။ သံဃာတော်များအား သာဟတ္ထိက (ကိုယ်တိုင်) အလှူများပေးခဲ့ပြီး လောကငြိမ်းချမ်းရေးအတွက် ရှိခိုးပူဇော်မှုများပြုခဲ့သည်။ တစ်စိတ်တစ်ဒေသ ပျက်စီးနေပြီးဖြစ်သည့် ကျောက်စာကို သီးခြားကျောက်လက်ရန်းနှစ်ခုပေါ်တွင် ရေးထိုးခဲ့သည်။ ပထမအစိတ်အပိုင်းတွင် ဤသို ဖော်ပြ၏ ‘သဒ္ဓါတရားကောင်းမွန်ပြီး သီရိလင်္ကာအုပ်ချုပ်သူ (မိသားစုများ)မှ ဆင်းသက်ခဲ့သည့် ရဟန်းတော် ပြာချာတကိတ္တိသည် မိသားစုဟူသော မိုးကောင်းကင်တွင်လကဲ့သို့ (ထင်ရှားသူ)ဖြစ်သည်။ ဤရဟန်းတော်သည် ဗုဒ္ဓသာသနာတော်ကို ကြည်ညိုပြီး ဗုဒ္ဓဖြစ်လိုသဖြင့် လူအားလုံးငြိမ်းချမ်းမှုအတွက် ရတနာသုံးပါး၏ စေတီတော်တွင် ရှိခိုးပူဇော်မှုပြုခဲ့သည်။ ဤဆောင်ရွက်မှုကြောင့် ကျွန်ုပ်ရရှိသော ကုသိုလ်သည်

ဗောဓိဉာဏ်အတွက်ဖြစ်ပါစေ။ ဤမင်္ဂလာရှိသော ကုသိုလ်အဖို့ကို အမျှ ရကြပါစေ'။

ဒုတိယအစိတ်အပိုင်းတွင် ဤသို့ဖော်ပြ၏ 'ဝဇိရာသနစေတီတော်ကိုပင် ၂၅၀-ဒိနာရ်စ် (dinaras) တန်ဖိုးဖြင့် ပလာစတာ(အင်္ဂတေ) အသစ် ဆေးအသစ်ဖြင့် ဖုံးအုပ်တန်ဆာဆင်ခဲ့၏။ ထို့ပြင် စေတီတော်အတွင်း လနေနှင့် ကြယ်တာရာများ တည်ရှိသမျှ တည်တံ့နေမည့် ထောပတ်ဆီမီးတိုင်တစ်ခုကို နွားကောင်ရေတစ်ရာ (မှရရှိမည့်ငွေ)ဖြင့် မြတ်ဗုဒ္ဓအား ရည်မှန်း၍ လှူဒါန်းခဲ့၏။ အခြား နွားကောင်ရေတစ်ရာ (မှရရှိမည့်ငွေ) ကိုလည်း အဖိုးအနည်းငယ်ဖြင့် စေတီတော်အား နောက်ထပ်ဖြစ်ပေါ်လာမည့် ပုံမှန်ပြန်လည်ပြုပြင်မှုများအတွက် ကုန်ကျမှုနှင့် စေတီတော်အတွင်းရှိ ဆင်းတုတော်ရှေ့၌ထွန်းညှိမည့် အခြားထောပတ်ဆီမီးတိုင်အတွက် ကုန်ကျမှုကိုလည်း (လှူဒါန်းခဲ့၏)။ အခြားနွားကောင်ရေတစ်ရာ (ဝင်ငွေမှ) အထောက်အပံ့ဖြင့် သီရိလင်္ကာကျောင်း အတွင်းရှိ ဗုဒ္ဓကြေးဆင်းတုတော်၏ရှေ့တွင် ထောပတ်ဆီမီးတိုင်တစ်ခု ထွန်းညှိထားစေ၏။ ထိုကျောင်းတိုက်အတွက် အမြဲတမ်း (ထွန်းညှိထားမည့်) ထောပတ်ဆီမီးတိုင် တစ်ခုလည်း လှူဒါန်းခဲ့၏။ ထိုကျောင်းတိုက်ရှိ မြင့်မြတ်သော ရဟန်းတော်အပေါင်း အသုံးပြုရန် ရောမ ရေကန်ကြီးတစ်ခုလည်း တူးဖော်ခဲ့၏။ ထိုရေကန်အရှေ့ဘက်တွင် (လယ်မြေ)ကွင်းပြင်အသစ်တစ်ခုလည်း စီမံလှူဒါန်းခဲ့၏။ ဤဆောင်ရွက်မှုအားလုံးမှ ကျွန်ုပ်ရရှိသော ကုသိုလ်ကောင်းမှုသည် ရှေဦးစွာ ကျွန်ုပ်မိဘများ၏ ကောင်းကျိုး ချမ်းသာအတွက် ဖြစ်ပါစေ'။

ဘင်္ဂလားနယ်မှ ပလ္လမင်းများ အုပ်စိုးစဉ်အတွင်း မဟာဗောဓိစေတီတော်သည် ရက်ရောစွာ ချီးမြှောက်ထောက်ပံ့မှုကို ခံယူရရှိခဲ့သည်။ အမှန်သော် စေတီတော်၏ အတွင်းအပြင်ပတ်လည်၌ တွေ့ရှိရဆဲဖြစ်သည့် ဆင်းတုတော်များနှင့် စေတီတော်အများစုမှာ ဤ(ပလ္လ)ခေတ်(လက်ရာများ) ဖြစ်ကြသည်။ ကျောက်စာများက ပလ္လဘုရင်များသည် အခြား အိန္ဒိယနယ်မြေများမှ ဘုရင်များကဲ့သို့ လှူဒါန်းထောက်ပံ့ မှုပြုခဲ့



ကြောင်း ဖော်ပြကြသည်။ ဆင်းဒ် ( Sind) ဘုရင် သိရိပုညဘဒြသည် 'ဆင်းတုတော် သုံးဆူနှင့် ဘုရားကျောင်းတစ်ခု' တည်ဆောက်ခဲ့ပြီး ရာ့ရှ်တရာကူဋ (Rashtrakuta)မှ တုင်္ဂ(Tonga)ဘုရင်သည် 'နတ်ပြည်ဘုံဌာနသို့ ဝင်ရောက်မည့် လှေကားပျံ (စောင်းတန်းလှေကား)များနှင့် ပမာတူသည့် ဘုရားကျောင်းတစ်ခု' တည်ဆောက်ခဲ့သည်။

ပလ္လခေတ်တွင် တရုတ်ပြည်မှလာကြသည့် ဘုရားဖူးအဖွဲ့များကိုလည်း တွေ့ရသည်။ ခရစ်နှစ် ၁၀၀၀-ဟုခန့်မှန်းရသော ကျောက်စာတစ်ခုတွင် ရဟန်းတော်ချီအိုင် (Chi-I)က ၎င်းသည် လူသုံးသောင်းအား နတ်ပြည်၌ ပြန်လည်မွေးဖွားစေနိုင်ရန်အတွက် မိမိတို့၏ကိုယ်ကျင့်တရားကို ပြုပြင်ကြဖို့တိုက်တွန်းရန် အဓိဋ္ဌာန်ပြုပြီး ဓမ္မကျမ်းစာအုပ်ရေသုံးသောင်းဖြန့်ဝေခဲ့ကြောင်း၊ ၎င်းနောက် ဝဇိရာသနကို ဖူးမြော်ရန် အခြားရဟန်းတော် သုံးပါးနှင့်အတူ အိန္ဒိယသို့ သွားရောက်ပြီး၊ တစ်ဖန် မြင့်မြတ်သော (ဗုဒ္ဓဝင်)နေရာတော်များအားလုံးသို့ သွားရောက်ပြီးသည်အထိ ခရီးဆက်ရန်လည်း ဆုံးဖြတ်ခဲ့ကြောင်း ဖော်ပြထားသည်။ ဤကျောက်စာကို ရပ်တော်မူဗုဒ္ဓဆင်းတုတော် ခုနစ်ဆူနှင့် မေတ္တေယျဆင်းတု တစ်ဆူပါသည့် (ဆင်းတုတော်)အတန်း၏ အောက်ခြေကျောက်ပလ္လင်တွင် ထွင်းထုထားသည်ကို တွေ့ရသည်။ (ဆင်းတုတော်) အားလုံး မတူသောလက်အနေအထား (မုဒြာ)များ ပါရှိကြသည်။

အေဒီ ၁၀၁၁-တွင် နောင်အခါ တိဗက်ဗုဒ္ဓဘာသာ ပြန်လည်ဆန်းသစ်မှုအတွက် အဓိကအခန်းမှ ပါဝင်လာမည့် ဘင်္ဂါလီဆရာကြီး အတိဆာ (Atsa)သည် ဗုဒ္ဓဂယာရှိ ဘုန်းတော်ကြီးကျောင်းတစ်ခုတွင် ရဟန်းပြုခဲ့သည်။ ထိုအချိန်လောက်မှာပင် ကျော်ကြားသည့် တိဗက်ဘာသာပြန်ဆရာ ရင်ချင်ဆန်ပို (Rinchen Sangpo 958-1051)သည် ကသ္မီရဒေသတွင် စတင်ခဲ့သည့် ၎င်း၏ (ဗုဒ္ဓဘာသာဆိုင်ရာ)လေ့လာမှုကို အဆုံးသတ်ရန် ဗုဒ္ဓဂယာသို့ ရောက်လာခဲ့သည်။ ဤပုဂ္ဂိုလ်၏ အတ္ထုပ္ပတ္တိကို ရေးသူက ရင်ချင်ဆန်ပိုသည် မဟာဗောဓိစေတီတော်သို့ ဝင်ရောက်သည့် မြောက်ဘက်ဂိတ်တွင် လှူဒါန်းမှုများ ပြုခဲ့ကြောင်း ဖော်ပြသည်။

မြတ်ပေတကား။ ဗုဒ္ဓသေန၏သားဖြစ်သူ (သီရိလက်ာ)ဘုရင်က သတဃတ္တ (Sataghatta)ခရိုင်၊ ကတ္ထလ (Katthala)ရွာရှိ ထွန်ယက် (စိုက်ပျိုး)ခွန်နှင့်တကွ ယင်း၏မြေ၊ ရေတို့ကို ဝဇိရာသန(ပလ္လင်တော်)အတွက် အမိန့်စာချွန်ဖြင့်ပေးအပ်ပြီး၊ (သီရိလက်ာ) ကျောင်းတိုက်အတွက် ပိဋကတ်ကျွမ်းကျင်သူ သီရိလက်ာရဟန်းတော် အရှင်မင်္ဂလသာမိအား ယုံကြည်စွာအပ်နှံ၏'။ ဤကျောက်စာကို ဗုဒ္ဓဝါဒနှင့် အတော်အတန် ဆန့်ကျင်သည့် ခံစားချက်ဖြင့် အဆုံးသတ်ထားသည် 'ကောင်းဆိုးမဟူ ငါ၏မင်းဆက်မှ မည်သည့်မင်းမဆို ဤပဋိညာဉ်ဝန်ခံချက်ကို ချိုးဖောက် ခဲ့လျှင် ၎င်း၏ဘခင်သည် မြည်း၊ ၎င်း၏မိခင်မှာ ဝက်မ ဖြစ်ပါစေ'။

အေဒီ ၁၃–ရာစုအတွင်း၌ မည်သို့မည်ပုံ သို့မဟုတ် မည်သည့်အချိန်က ဗုဒ္ဓဂယာဖျက်ဆီး ခံခဲ့ရသည်ဟူသော တိကျသည့် မှတ်တမ်း မရှိပေ။ သို့ရာတွင် တိဗက်ရဟန်းတော် အရှင်ဓမ္မသာမိရောက်သွားသောအခါ ၎င်းမရောက်မီအချိန်က (ဗုဒ္ဓဂယာအား) စီနင်းတိုက်ခိုက်ခဲ့ပုံ အကြောင်း ဖော်ပြထားသည်။ အမျိုးသမီးဥပါသိကာ တစ်ယောက်သည် (မဟာဗောဓိ) စေတီတော်အတွင်းရှိ ဗုဒ္ဓဆင်းတုတော်၏ မျက်လုံးတော်များအတွင်း ထည့်သွင်းရန် လှူပသည့် မြရတနာကို လှူဒါန်းခဲ့သည် 'ဆင်းတုတော်၏ မျက်ခုံးတော်နှစ်ခုအကြား မြှုပ်ထားသော အဖိုးတန်(မြ)ကျောက်ရတနာသည် ယခင်က မှောင်စအချိန်၌ လူတစ်ယောက်စာဖတ်နိုင်သည်အထိ အလင်းရောင်ကို ထုတ်လွှတ်ခဲ့၏။ တုရုရှက (မူဆလင် တူရကီ) စစ်သားတစ်ယောက်သည် လှေကားကိုထောင်ပြီး အပေါ်သို့တက်လျက် (ထို)ကျောက်ကို ဆွဲထုတ်သည်။ လှေကားမှ ဆင်းနေစဉ် စစ်သားသည် (လှေကားပေါ်မှ) ချော်ကျပြီး ဆင်းတုတော်၏ မျက်လုံးတော်အစုံမှာ အစိတ်စိတ်အမြွှာမြွှာ ကွဲကြေသွားသည်။ လူတစ်ယောက် စာဖတ်နိုင်လောက်အောင် လင်းသည့် ကျောက်မျက်ရတနာ၏ အပိုင်းအစများ၏ တောက်ပမှုသည် တဖြည်းဖြည်းမှုန်ဝါးသွားခဲ့သည်ဟု ၎င်းတို့က ပြောပြကြ၏'။

ခရစ်နှစ် ၁၂၃၄၊ ဇူလိုင်လတွင် အရှင်ဓမ္မသာမိ ဗုဒ္ဓဂယာသို့ ဆိုက်ရောက်သွားသောအခါ တစ်ချိန်ချိန်တွင် ဗုဒ္ဓဂယာ လုယက်တိုက်ခံရမည်



နှစ်သာအကြာတွင် အခြားသော တရုတ်ဘုရားဖူး ရဟန်းတော်တစ်ပါး ရောက်ရှိလာပြန်သည်။ ဟိုယွန်(Ho Yun)ခေါ် ဤရဟန်းတော်သည် ကျောက်သားဖြင့် ဗုဒ္ဓဆင်းတုတော် တစ်ဆူထုလုပ်ပြီး ယင်းကို ဗောဓိပင်မြောက်ဘက် ခြေလှမ်းသုံးဆယ်အကွာတွင် တည်ထားခဲ့သည်။ ဤရဟန်းတော်က မိမိအနေဖြင့် ကျောက်ပြားပေါ်တွင် ပိဋကတ်ကျမ်းစာအားလုံးကို ရေးထွင်းလိုသော်လည်း ငွေကြေး ပြတ်တောက်သွားသောကြောင့် ယင်းသို့မပြုစွမ်းနိုင်ခဲ့ကြောင်း ဆိုခဲ့သည်။ ဤအချိန်ကာလဝန်းကျင်အတွင်း ဗုဒ္ဓဂယာသို့ ကြွရောက်ခဲ့ကြသော ဖော်ပြပါရဟန်းများနှင့် အခြားများစွာသော တရုတ်ရဟန်းတော်များသည် ရှည်လျားပြီး အန္တရာယ်ထူပြောလှသည့် အမိနယ်မြေသို့ အပြန်ခရီးတွင် အသက်ရှင်မရှင်ဟူသည်ကို မသိရပါချေ။ ၎င်းတို့၏ သဒ္ဓါတရားအရ ဆောင်ရွက်ချက်များကြောင့်သာ ၎င်းတို့ကို သမိုင်းက သိနေခြင်းဖြစ်သည်။

တိဗက်မှတ်တမ်းများအရ အေဒီ ၁၀၃၀–ခန့်တွင် (ဓမ္မ)ဆရာနှင့် သြဝါဒညွှန်ကြားသူ အိုင်စဲဘာဆွန် (I Ce Btsum)သည် ဗုဒ္ဓဆင်းတုတော် တစ်ဆူရရှိရန် ဗုဒ္ဓဂယာသို့ သွားရောက်ခဲ့သည်။ ၎င်းနှင့်အတူ တိဗက်သို့ ယူဆောင်ခဲ့သော အဆိုပါ ဆင်းတုတော်ကို နာမည်ကျော် ရှာလုစေတီတော်တွင် ဌာပနာထားသည်။

အေဒီ ၁၀၇၈–တွင် မြန်မာနိုင်ငံနှင့် ဗုဒ္ဓဂယာရှိ ဗုဒ္ဓဘာသာဝင်တို့အကြား ရှည်လျားသော ဆက်ဆံပတ်သက်မှု အစပိုင်း မည်သို့ရှိသည်ကို မြင်တွေ့ရသည်။ ထိုအချိန်တွင် မဟာဗောဓိစေတီတော်သည် အနည်းဆုံး နှစ်ခြောက်ရာနီးပါးမျှ ကြာညောင်းခဲ့ပြီး အဓိကပြုပြင်မှုများ လိုအပ်နေသည်မှာ ထင်ရှားသည်။ ကျန်စစ်သားမင်းသည် မိမိကိုယ်တိုင် ဆုံးဖြတ်ချက် သို့မဟုတ် အခြားပုဂ္ဂိုလ်များ၏တောင်းပန်ချက်အရ မဟာဗောဓိစေတီတော်တွင် အဆိုပါ လိုအပ်သည့် ပြုပြင်မှုများအတွက် မဇ္ဈိမဒေသသို့ (သာသနာပြု)အဖွဲ့တစ်ခု စေလွှတ်ခဲ့သည်။ ယင်းစေလွှတ်ပုံအသေးစိတ်ကို ပြည်မြို့ရှိ ရွှေဆံတော်စေတီကျောက်စာတွင် မှတ်တမ်း တင်ခဲ့သည် 'ကျန်စစ်သား မင်းကြီးသည် ရတနာအမျိုးမျိုးကို စု

ဆောင်းလျက် ၎င်းတို့ကို ဗုဒ္ဓဂယာရှိ စေတီတော်မြတ်အား ပြုပြင်ရန်နှင့် အမြဲတမ်းထွန်းလင်းနေမည့် ဆီမီးများ လှူဒါန်းရန် သင်္ဘောဖြင့်စေလွှတ်ခဲ့သည်။ ဗုဒ္ဓဂယာ၌တွေ့ရှိရသော နှောင်းခေတ် မြန်မာကျောက်စာတစ်ခုတွင် ကျန်စစ်သားမင်း၏ ဘုရားကျောင်းကိုပြုပြင်ရန် အကြံအစည်သည် မအောင်မြင်ကြောင်း ဖော်ပြထားသည်။ သို့ရာတွင် ကျန်စစ်သားမင်းကို ဆက်ခံသူဖြစ်သည့် အလောင်းစည်သူမင်းလက်ထက်၌ကား အောင်မြင်စွာဆောင်ရွက်နိုင်ခဲ့ကြောင်း ထင်ရှားသည်။

အေဒီ ၁၂–ရာစု၏ နောက်ဆုံးနှစ်ဝက်အတွင်း ကျောက်စာသုံးခု၌ ထိုအချိန်က နီပေါနိုင်ငံ သီဝလိက အသောကဝလ္လ (Asokavalla of Siwalik) မင်းကြီး၏ ကမကထပြုခြင်းဖြင့် ထူးခြားသည့် အဆောက်အအုံတစ်ခု အထင်အရှားပေါ် ပေါက်ခဲ့ကြောင်း ဖော်ပြထားသည်။ ၎င်းတို့အနက် ပထမဆုံးကျောက်စာတွင် အသောကဝလ္လမင်း၏ ညီအငယ်ဆုံး ဒသရထမင်းသား လှူဒါန်းသော အလှူဝတ္ထုအကြောင်း ဖော်ပြသည်။ အသောကဝလ္လသည် အလွန်ထူးကဲသော မဟာယာန ဗုဒ္ဓဘာသာသဝင်တစ်ယောက်၊ စစ်မှန်သော ဗုဒ္ဓဘာသာဝင်တစ်ယောက်၊ မင်းမျိုးမင်းနွယ် အသိုင်းအဝိုင်းတွင် မီးရှူးတန်ဆောင်နှင့်တူသူ ဖြစ်သည်။ ဒုတိယကျောက်စာတွင် အသောကဝလ္လမင်း၏ မြေပိုင်ရှင်အရာရှိ တစ်ယောက်က 'ကြီးကျယ်ခမ်းနားပြီး လွတ်မြောက်မှုနိဗ္ဗာန်ချမ်းသာခန်းမဆောင်နှင့်တူသော' ဗုဒ္ဓ၏ကျောင်းတော် တစ်ခုအကြောင်း မှတ်တမ်းတင်ထားသည်။ ထိုကျောက်စာ၌ ဗုဒ္ဓသာသနာတော်သည် ဆွေးမြေ့ယိုယွင်းနေကြောင်း၊ ကျော်ကြားသည့် စာရေးဆရာကြီးဖြစ်သူ ဣန္ဒြနန္ဒီ (Indra-nandi)က ဤ(ကျောက်စာ)ကို အလျင်အမြန်ရေးထိုးခဲ့ပြီး ရာမ အမည်ရှိ ပန်းပုပညာရှင်က ကျောက်ပေါ်တွင် ရေးထွင်းခဲ့ကြောင်း ဖော်ပြထားသည်။ တတိယနှင့် အကြီးဆုံး ကျောက်စာတစ်ခုကို ဂယာမြို့ရှိ အိမ်တစ်အိမ်၏နံရံအဖြစ် အသုံးပြုထားသည်ကို တွေ့ရသည်။ သို့ရာတွင် ယင်းကျောက်စာသည် မူလက ဗုဒ္ဓဂယာတွင် စိုက်ထူခဲ့ခြင်းဖြစ်မည်မှာ သေချာသည်။ အဆိုပါကျောက်စာ၌ အသောကဝလ္လမင်းသည်



ကသ္မီရတိုင်းသား ဆရာ၏ တောင်းပန်မှုကြောင့် ဗုဒ္ဓဂယာတွင် ဘုရားကျောင်းတစ်ခု တည်ဆောက်ခဲ့ပြီး (ယင်း) ဘုရားကျောင်းတွင် ပုံမှန်အမြဲ အလှူဒါနများပြုလုပ်ရန်စီမံခဲ့ကြောင်း မှတ်တမ်းတင်ထားသည်။

၁၃–ရာစု အစောပိုင်းကာလတွင် မဇ္ဈိမဒေသ အများစုသည် အနောက်ဖက်မှ မူဆလင်တို့၏ ကျူးကျော်မှုကြောင့် ဝရုန်းသုန်းကားဖြစ်နေသည်ကို တွေ့ရ၏။ အမှန်သော် စစ်တပ်များသည် ရာစုနှစ်ပေါင်းများစွာကတည်းက မြောက်ပိုင်းလွင်ပြင်များတွင် ခေါက်တုံ့ ခေါက်ပြန်ချီတက်နေခဲ့ကြပြီး၊ မယဉ်ကျေးသည့် စစ်သားများ သို့မဟုတ် စစ်ရေးအစီအမံများ ဆောင်ရွက်ရန် ငွေကြေးလိုအပ်မှုကြောင့် ရက်စက်ရမ်းကားသူ ဘုရင်များသည် ပိုမိုပြည့်စုံချမ်းသာသည့် ဟိန္ဒူ သို့မဟုတ် ဗုဒ္ဓဘာသာ ဘုရားကျောင်းများကို ရံဖန်ရံခါ လုယက်ခဲ့ကြသော်လည်း ကျောင်းကန်ဘုရားများကိုမူ မဖျက်ဆီးခဲ့ကြပေ။ သို့ရာတွင် ယခုအကြိမ် တိုက်ခိုက်လုယက်သူ စစ်သားများကား ယခင်စစ်သားများ နှင့်မတူတော့ချေ။ ၎င်းတို့သည် ဘုရားကျောင်းများကို ဖျက်ဆီးကြ၏။ ဆင်းတုတော်များကို ရိုက်ချိုးကြိတ်ချေပြီး ရဟန်းတော်များနှင့် ဟိန္ဒူတရားဟောဆရာ (ဘုန်းကြီး)များကို သတ်ပစ်ကြ၏။ လုယက်ဖျက်ဆီးရန် မဟုတ်ဘဲ အိန္ဒိယလူမျိုးအများစု နားမလည်နိုင်လောက်အောင် ဖြစ်ရသည့် ပြင်းထန်သော ဘာသာရေး ဝန်တိုစိတ်ကြောင့်ဖြစ်သည်။

တစ်ချိန်တည်းတွင် ဗုဒ္ဓဂယာသည် အခြားများစွာသော နေရာဌာနများထံ ကျရောက်ခဲ့သည့် လုယက်ဖျက်ဆီးမှုမှ လွတ်မြောက်ခဲ့သည်။ ကောလာဟလ အမှောင်သတင်းများ ပျံ့လွင့်နေသော်လည်း ယခင်ကကဲ့သို့ပင် ရှင်သန်နေခဲ့သည်။ မဟာဗောဓိစေတီတော်ကို စောင့်ရှောက်ခဲ့ကြသည့် နောက်ဆုံး သီရိလင်္ကာရဟန်းတော်များနှင့် ပတ်သက်၍ ကျွန်ုပ်တို့သိရသည်မှာ ထိုအချိန်ဝန်းကျင် ခရစ်နှစ် ၁၂၀၂ ခုနှစ်တွင် ရေးထိုးသည့် ကျောက်စာဖြစ်သည်။ ယင်းကျောက်စာတွင် ဤသို့ဖတ်ရ၏ 'သြ၊ ဗောဓိပင်ရိပ်ကား ခမ်းနားကြီးကျယ်လှပါဘိ။ အောင်မြင်သူ (ဘုရားရှင်) တို့အား ဗောဓိဉာဏ်မြတ်ကို အပ်နှင်းရာ၊ ဗောဓိဉာဏ်သို့သွားရောက်ရာ လမ်းပေါ်တွင် ရှိကြသူများ၏ လဲလျောင်းရာ ရှေးဟောင်း ဗောဓိပင်

သွားရောက် လည်ပတ်ခဲ့ပြီးဖြစ်သည်။ ဤရဟန်းတော်သည် မိမိခရီးစဉ် ပြန်လည်မစတင်မီ အစွန့်ပစ်ခံ ထားရပြီဖြစ်သော (ဗုဒ္ဓဂယာ)စေတီတော်၌ တရားဘာဝနာ ရှုမှတ်ခြင်း၊ လှူဒါန်းပူဇော်ခြင်းများပြုလျက် အချိန်အတန်ကြာ နေထိုင်ခဲ့ပုံရသည်။ ထို့နောက်ဤရဟန်းတော်သည် အာသံ၊ တိဗက်(တိဗက်တွင် လူငယ် တာရာနာထသည် ဤအရှင်၏ တပည့်ဖြစ်သွားခဲ့သည်)၊ မြန်မာနှင့်ယိုးဒယားနိုင်ငံမြောက်ပိုင်း လန်းပန်းမြို့များသို့ လည်ပတ်ခဲ့ပြီး နောက်ဆုံးတွင် သမိုင်းမှ ပျောက်ကွယ်သွားသည်။ ဤမဟာခရီးသည်ကြီး မည်သည့်နေရာတွင် ဘဝနိဂုံး အဆုံးသတ်သွားခဲ့သနည်းဟူသည်ကို ရှာဖွေရန် ကျွန်ုပ်တို့အတွက် ထားပစ်ခဲ့သည်။

၁၆–ရာစု အလယ်ခန့်တွင် အဘယရာဇအမည်ရှိ နီပေါဘုရားဖူးတစ်ယောက် ဗုဒ္ဓဂယာသို့ရောက်ခဲ့သည်။ သူသည် ဗုဒ္ဓဂယာတွင် နှစ်ပေါင်းများစွာ နေထိုင်သွားခဲ့သည်။ ထိုစဉ်အတွင်း မဟာဗောဓိစေတီတော်၏ ပုံစံငယ်တစ်ခုကို ဂရုတစိုက်ပြုလုပ်ခဲ့သည်။ မိမိနိုင်ငံသို့ ပြန်ရောက်ပြီးနောက် ထိုပုံစံငယ်ကို (အသုံးပြုလျက်) ခတ္တမန္ဒူမြို့အနီး ပါတန်(Patan)အရပ်တွင် မူလမဟာဗောဓိစေတီ၏ ပုံစံတူစေတီပွားတစ်ဆူတည်ခဲ့သည်။ ၁၇၇၇–တွင် တိဗက်မှ ပင်ချင်လားမားသည် ဗုဒ္ဓဂယာသို့ ရဟန်းအဖွဲ့တစ်ခု စေလွှတ်ခဲ့သော်လည်း ထိုအဖွဲ့ကမည်သည့်ကိစ္စဆောင်ရွက်ခဲ့သည်ကို အတိအကျမသိရပေ။ ၎င်းနောက် ကျွန်ုပ်တို့သိရသည့် နောက်တစ်ကြိမ် ဗုဒ္ဓဂယာသို့ လာရောက်ကြသည့် ဗုဒ္ဓဘာသာဝင်များမှာ အေဒီ ၁၈၁၀–တွင် မြန်မာဘုရင် ဘိုးတော်ဘုရား စေလွှတ်သည့်အဖွဲ့က မဟာဗောဓိစေတီကို ပြုပြင်ပြီး တစ်နှစ်အကြာတွင် ဘိုးတော်မင်းတရားကိုယ်တိုင် (ဗုဒ္ဓဂယာသို့)ကြွရောက်ခြင်း ဖြစ်သည်[၁၁]။

---

[၁၁] မြန်မာ့စွယ်စုံကျမ်း အတွဲ ဂ ပါ ဘိုးတော်ဘုရား အတ္ထုပ္ပတ္တိတွင် ဘိုးတော်ဘုရား ကိုယ်တိုင် အိန္ဒိယ ဗုဒ္ဓဂယာသို့ ဘုရားဖူး သွားရောက်ကြောင်း ဖော်ပြခြင်းမရှိ။ မှူးမတ်များကို အိန္ဒိယသို့ ပညာတော်သင် စေလွှတ်ကြောင်းနှင့် ၎င်းတို့အပြန်တွင် ဗောဓိပင်ပွားနှစ်ပင် ပင့်ဆောင်ခဲ့ကြောင်းသာ ဖော်ပြသည်။ ထိုအချိန်က ဘင်္ဂလားနယ်ကို ဗြိတိသျှတို့သိမ်းပိုက်ထားသဖြင့် မြန်မာမင်းများနှင့် ဗြိတိသျှအစိုးရတို့ ဆက်ဆံရေး မပြေမလည်ရှိသည် (ဘာသာပြန်သူ)။



ဟု မျှော်လင့်နေရပြီး ထွက်မပြေးကြသေးသည့် ရဟန်းတော်အနည်းငယ်မျှသည် စေတီတော်အတွင်းရှိ ဗုဒ္ဓဆင်းတုတော်မြတ်အား ရုပ်တုပူဇော်ရှိခိုးမှုကို ဖျက်ဆီးသူ (မူဆလင်စစ်သား)များ ဖျက်ဆီးခြင်းမှ ကာကွယ်စောင့်ရှောက်ရန် ပြင်ဆင်နေကြသည် ‘ဓမ္မသာမိ ဝဇိရာသနသို့ ဆိုက်ရောက်သွားသောအခါ ထိုနေရာသည် လူသူကင်းဆိတ်နေပြီး ရဟန်းတော်လေးပါးမျှသာ သီတင်းသုံးနေထိုင်လျက်ရှိသည်ကို တွေ့ရ၏။ ၎င်းတို့အနက်တစ်ပါးက ‘အလွန်ဆိုးရွားလှပါသည်ဘုရား၊ တရုရှက (တူရကီ) စစ်သားတွေကို ကြောက်ရွံ့သည့်အတွက် အားလုံး ထွက်ပြေးကုန်ကြပါပြီ’ ဟုဆိုသည်။ ထိုရဟန်းတော်များသည် မဟာဗောဓိဆင်းတု တော်ရှေ့ရှိ တံခါးကို အုတ်ခဲများဖြင့်ပိတ်လျက် အင်္ဂတေများ သုတ်လိမ်းနေကြ၏။ ထိုဆင်းတုတော်နေရာအနီးတွင် အစားထိုးသည့် အနေဖြင့် အခြားဆင်းတုတော်တစ်ခု ထားကြသည်။ ထိုရဟန်းတော်များသည် စေတီတော်၏ အပြင်တံခါးကိုလည်း အင်္ဂတေဖြင့်ကာရံနေကြသည်။ ယင်းအုတ်နံရံတွင် မဟေသွာရရုပ်ပုံ ရေးဆွဲကြသည်။ မဟာဗောဓိစေတီ (အတွင်းရှိဆင်းတု)တော်အား ဗုဒ္ဓဘာသာမဟုတ်သူများ၏ ရန်မှ ကာကွယ်ရန်ဖြစ်သည်။ ထိုရဟန်းတော်များက ‘တပည့်တော်တို့ ငါးပါး ဤနေရာတွင် မနေထိုင်ဝံ့ကြတော့ပါ၊ တပည့်တော်တို့ ဧကန်ပင် ပြေးကြရပါတော့မည်’ဟု ပြောပြကြသည်။ ဓမ္မသာမိအား ဤသို့ဆက်၍ ပြောပြသည် ‘ရက်အနည်းငယ် လွန်သွားပြီး အလွန်ပူပြင်းလှသောကြောင့် ထိုရဟန်းတော်များသည် ပင်ပန်းနွမ်းနယ်ကြ၏။ ညမှောင်သောအခါ ထိုနေရာတွင် ဆက်လက်နေထိုင်ကြပြီး အိပ်ပျော်သွားကြသည်။ အကယ်၍ တုရုကစစ်သားများ လာခဲ့လျှင် ထိုရဟန်းတော်များ သိကြလိမ့်မည်မဟုတ်ပေ။ နေ့ခင်းပိုင်းတွင် ထိုရဟန်းတော်များသည် မြောက်ဘက်သို့ လှည်းလမ်းအတိုင်း ထွက်ပြေးကြ၏။ ဓမ္မသာမိသည် ၁၇–ရက်တိုင်တိုင် စေတီတော်အတွင်းမှ ဗုဒ္ဓဆင်းတုတော်၏ မျက်နှာတော်ကို မဖူးတွေ့ရချေ။ ထိုအချိန်တွင် တုရုရှကစစ်သားများ အဝေးသို့ ထွက်သွားကြပြီဟူသော သတင်းကောင်းများနှင့်အတူ အမျိုးသမီး တစ်

ယောက် ပေါ်လာ၏။ ထို့နောက် ဓမ္မသာမိသည် ဝဇိရာသနသို့ ပြန်လာပြီး မဟာဗောဓိဆင်းတုတော်ကို ရှိခိုးပူဇော်လျက် လက်ယာရစ် လှည့်လည်ရင်း သီတင်းသုံးနေထိုင်၏"။

ထို့နောက်တွင် မဟာဗောဓိစေတီတော်သည် ပျက်စီးသွားတော့သည်။ အကြောင်းမှာ တမင်တကာဖျက်ဆီးခြင်း သို့မဟုတ် ဂရုတစိုက်စောင့်ရှောက်မှုမရှိခြင်း သို့မဟုတ် ထိုနှစ်မျိုးလုံးကြောင့် ဖြစ်ဖွယ်ရှိသည်။ အလည်အပတ် ရောက်လာသည့် ဘုရားဖူးများလည်း နည်း၍နည်း၍ သွားခဲ့သည်။ စေတီတော်ကိုယ်တိုင်မှာလည်း ပစ်ပယ်ခံအပျက်အစီးများ အနက်တစ်ခုမျှသာ ဖြစ်သွားလေသည်။ ဒေသခံပုဂ္ဂိုလ်များသည် ဤစေတီတော်မြတ်ကြီး၏ ကြီးမားခမ်းနားမှုကို မေ့ပျောက်ထားကြတော့သည်။ မူဆလင်တို့ ကျူးကျော် ဝင်ရောက်ပြီးသည့် နောက်ပိုင်းတွင် မြို့ကြီးမြို့ငယ်များ၏ အမည်နာမများ ပြောင်းလဲသွားသောကြောင့် အဝေးမှ လာရောက်သူ တစ်ယောက်တည်းသော ဘုရားဖူးအဖို့ ဗုဒ္ဓဂယာကို (ရှာဖွေ) တွေ့ရှိရုံမျှသည်ပင် အတော်ခက်ခဲသော အလုပ်ဖြစ်သည်။ သို့တိုင်အောင် ဗုဒ္ဓဂယာသည် အထူးသဖြင့် မြန်မာနိုင်ငံမှ ဗုဒ္ဓဘာသာဝင်များ အဖို့ အလုံးစုံမေ့ပျောက်သွားသော နေရာဌာနတစ်ခု လုံးဝဖြစ်မသွားခဲ့ပေ။ သီရိလင်္ကာလူမျိုးများသည် ဗုဒ္ဓဝါဒ၏ အချက်အချာနေရာအဖြစ် တည်ရှိခဲ့စဉ်အတွင်း နှစ်ပေါင်း ၉၀၀–တိုင်တိုင် မဟာဗောဓိစေတီတော်ကို ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြသည်။ မြန်မာလူမျိုးများသည် ဗုဒ္ဓဂယာ စွန့်ပစ်ထားခြင်းခံရပြီးနောက် ၁၃–ရာစုမှသည် ၁၉–ရာစုနှစ်တိုင်အောင် စေတီတော်ကို ပြန်လည်ပြုပြင်ရန်နှင့် စေတီတော်မြတ်ကြီး လုံးဝပျက်စီးသွားခြင်းမှ ကာကွယ်ရန် အကြိမ်ပေါင်းများစွာ လာရောက်လျက် အဆိုပါ အဓိကနေရာကို ရယူရန် ကြိုးစားခဲ့ကြသည်။

အေဒီ ၁၂၉၅–တွင် မြန်မာဘုရင် ကျော်စွာသည် စေတီတော်ကို ပြုပြင်ရန်နှင့် ဗောဓိပင်အား ခမ်းနားသိုက်မြိုက်စွာ လှူဒါန်းပူဇော်မှုပြုရန် ဗုဒ္ဓဂယာသို့ သာသနာပြုအဖွဲ့ တစ်ဖွဲ့ စေလွှတ်ခဲ့သည်။ မြန်မာနိုင်ငံမှ အခြားဗုဒ္ဓသာသနာပြုအဖွဲ့များသည် ၁၄၇၂–ခုနှစ်၊ ၁၈၁၀ နှင့် ၁၈၇၇–ခု



နှစ်များတွင် လာရောက်ခဲ့ကြသည်။ ဤ(သာဓက)များသည် နှစ်ပေါင်း ၆၀၀–ခန့်မျှ ဗုဒ္ဓဂယာစေတီတော်မြတ်ကြီး ဆက်လက် တည်ရှိနေခဲ့ခြင်းသည် မြန်မာဗုဒ္ဓဘာသာဝင်များ၏ ကြည်ညိုသဒ္ဓါတရားနှင့် ရက်ရောမှုကြောင့် လုံးဝဖြစ်ရကြောင်း အဓိပ္ပာယ်ဖွင့်ဆိုလျက်ရှိသည်။

ဗုဒ္ဓဂယာ၌ တွေ့ရှိရသည့် အေဒီ ၁၄–ရာစု ကျောက်စာများသည် အိန္ဒိယတွင် ဗုဒ္ဓဝါဒအပြီးသတ် ချုပ်ငြိမ်းလုနီးပါး ဖြစ်နေသော်လည်း အိန္ဒိယတိုက်ငယ်၏ နေရာဒေသအနှံ့ ကြဲပြန့်နေကြသည့် အနည်းအကျဉ်းမျှသော ဗုဒ္ဓဘာသာဝင်များသည် မိမိတို့၏ ဘာသာတရား (ဗုဒ္ဓဘာသာ)အပေါ် ယုံကြည်နေဆဲဖြစ်ကြောင်း ဖော်ပြကြသည်။ အေဒီ ၁၃၀၁–ခုနှစ်နှင့် ၁၃၃၁–ခုနှစ်အတွင်း ဆင်းဒ် (Sind) ဒေသမှ ဘုရားဖူးအဖွဲ့ အများအပြား ဗုဒ္ဓဂယာသို့ရောက်ရှိလာကြပြီး စေတီတော် အတွင်းပိုင်းတွင် ခင်းထားသော နှမ်းဖတ်ကျောက်များပေါ်တွင် ၎င်းတို့ ဘုရားဖူးရောက်ရှိလာခြင်းအတွက် အထိမ်းအမှတ်များ ထားပစ်ခဲ့ကြသည်။ တစ်ခါတစ်ရံ ၁၅ နှင့် ၁၆ ရာစုအတွင်း မူလ်တန် (Multan) ဒေသမှဟု ယူဆရသော ဘုရားဖူးတစ်ယောက်က ရှေးဟောင်းကျောက် လက်ရန်းတစ်ခုပေါ်တွင် မိမိဗုဒ္ဓဂယာသို့ ရောက်ရှိခဲ့ကြောင်း မှတ်တမ်းများ ရေးထိုးထားခဲ့သည်။ သို့ဖြစ်၍ (ပေါင်းပင်များ) ဖုံးလွှမ်းနေပြီး ပျက်စီးယိုယွင်းနေသော အပျက်အစီးများ အကြားမှာပင် အနည်းငယ်မျှသော တစ်ကိုယ်တော် ဘုရားဖူးများသည် တစ်ခါတစ်ရံ၌ ဤမြေမြတ်မဟာအား ရိုသေလေးစားမှုပြုခဲ့ကြပုံရသည်။

ဗုဒ္ဓဂယာသို့ ကြွရောက်ခဲ့သည့် ကျွန်ုပ်တို့သိရသည့် နောက်ဆုံး အိန္ဒိယလူမျိုး ဗုဒ္ဓဘာသာဝင်နှင့် အိန္ဒိယ၌ နောက်ဆုံးရဟန်းတော် တစ်ပါး ဖြစ်ပုံရသူကား ဗုဒ္ဓဂုတ္တမထေရ်ဖြစ်သည်။ အေဒီ ၁၅ ရာစု၏နောက်ဆုံးနှစ်ဝက်တွင် အိန္ဒိယတောင်ပိုင်း၌ မွေးဖွားခဲ့သူ စိတ်ဝင်စားဖွယ်ကောင်းသည့် ဤရဟန်းတော်သည် ဗုဒ္ဓဂယာသို့ဘုရားဖူး မကြွရောက်မီ အာဖဂန်နစ္စတန်၊ ကက်ရှ်မီးယား (ကသ္မီရ)၊ လာဒက်ခ်၊ သီရိလင်္ကာ၊ ဂျာဗားကျွန်း၊ လစ်စဒီဗေ့စ် (Laccadives)နှင့် အရှေ့အာဖရိကများသို့ပင်

ကြွင်းကျန်သည့် ၂၇–နှစ်ကာလအတွင်း ဓမ္မပါလသည် မိမိ၏ မဟာဗောဓိစေတီ အရေးနှင့်ပတ်သက်၍ ၁၉၂၃ နှင့် ၁၉၂၅ အတွင်း နှစ်စဉ် အိန္ဒိယအမျိုးသားကွန်ဂရက်သို့ ထုတ်ပြန်မှုကို တင်ပြလျက် အစိုးရထံ အသနားခံခြင်း၊ ပြည်သူ့အမြင်ကို စုစည်းခြင်းများပြုလျက် စဉ်ဆက်မပြတ် သွေးထိုးလှုံ့ဆော်ခဲ့သည်။ အိန္ဒိယပြည်သူ့အမြင်သည် တဖြည်းဖြည်း ဗုဒ္ဓဘာသာဝင်တို့၏ ထိန်းချုပ်မှုဘက်သို့ အရေးသာလာပြီး ထင်ရှားသည့် ပညာတတ်လူတန်စားများ အနေဖြင့် (ဓမ္မပါလ၏) တင်ပြမှုအပေါ် ထုတ်ဖော်ပြောဆိုလာကြသည်။

ထိုအချိန်ထိ တစ်ဦးတည်းသော ဥရောပတိုက်သား မဟုတ်ဘဲ နိုဘဲလ်ဆုရသူ ရာဘိန္ဒြာနတ်သ် တဂိုးသည် ဓမ္မပါလဘက်မှ မျှတစွာ ထောက်ခံခဲ့သည် ‘ဗုဒ္ဓရှင်တော်မြတ် ဗောဓိဉာဏ်ကို ရရှိခဲ့သည့် မြေနေရာ၌ တည်ဆောက်ထားသော မဟာဗာဓိစေတီတော်ကို ဗုဒ္ဓဝါဒနှင့် ယင်း၏ရှိခိုးပူဇော်မှုများနှင့် ပတ်သက်၍ အနည်းငယ်မျှသော နားလည်မှုရော စာနာထောက်ထားမှုပါ မရှိနိုင်သေးသည့် ပြိုင်ဘက် (ဘာသာရေး)ဂိုဏ်းတစ်ခု၏ ထိန်းချုပ်မှုအောက်တွင် ဆက်လက် ထားရှိခွင့်သည် သည်းမခံနိုင်သော မှားယွင်းမှု တစ်ရပ်ဖြစ်ကြောင်း မိမိတို့၏ယုံကြည်မှုအတိုင်း ရပ်တည်ကြသည့် ဟိန္ဒူ(ဘာသာဝင်)အားလုံးက ဝန်ခံကြမည်မှာ သေချာပါသည်။ မိမိတို့၏ ရှင်သန်ဆဲ ယုံကြည်ချက်ဖြင့် ဤထင်ရှားသော သမိုင်းဝင်နေရာတွင် ရိုသေကိုင်းရှိုင်းစွာ (ဘာသာရေး) ဆောင်ရွက်ကြဆဲဖြစ်သော (ဗုဒ္ဓဘာသာဝင်) လူထုအား ဤသမိုင်းဝင်နေရာကို ပြန်လည်ထိန်းသိမ်းမှုအတွက် ကူညီရန် လွတ်လပ်မှုနှင့် မျှတမှုကို ယုံကြည်သူတိုင်း လေးစားထိုက်သော တာဝန်ဖြစ်သည်ဟု ကျွန်ုပ်ယူဆပါသည်’။

ဟိန္ဒူရှေးရိုးစွဲဝါဒီ တစ်ယောက်ဖြစ်သည့် မဟတ္တမဂန္ဒီကပင် ဤစေတီတော်ကို ဗုဒ္ဓဘာသာဝင်များက အမှန်ပင် ပိုင်ဆိုင်ကြောင်း ဝန်ခံရသည် ‘ဤမဟာဗောဓိစေတီတော် ပိုင်ဆိုင်မှုအတွက် ဗုဒ္ဓဘာသာဝင်များ၌ အခွင့်အရေးရှိသည်မှာ သံသယဖြစ်ဖွယ် မလိုချေ။ တရားဝင် အခက်



ထိုအချိန်လောက်မှာပင် နီပေါရဟန်းတော်တစ်ပါးလည်း (ဗုဒ္ဓဂယာသို့) ဘုရားဖူးရောက်ခဲ့သည်။ ၎င်းအဖို့ ဗုဒ္ဓဂယာတွင် နေထိုင်ရန် နေရာမရှိသောကြောင့် (ဟိန္ဒူဘုန်းကြီး) မဟန့်၏နန်းတော်တွင် နေထိုင်ခဲ့ရသည်။ ယင်းနန်းတော်တွင် နေထိုင်စဉ် ဟိန္ဒူဘုန်းကြီးတစ်ယောက်ကို ဗုဒ္ဓဘာသာအဖြစ်သို့ သွတ်သွင်းနိုင်ခဲ့ခြင်းအတွက် ထင်ရှားသည်။

၁၉–ရာစု ကုန်ခါနီးအချိန် အနာဂါရိကဓမ္မပါလက မဟာဗောဓိစေတီတော်ကို ဗုဒ္ဓဘာသာဝင်များအတွက် တောင်းဆိုသောအခါ ဟိန္ဒူဘုန်းကြီးမဟန့်က ယင်းစေတီကို မိမိပိုင်ဆိုင်ကြောင်း ငြင်းဆိုသည်။ သို့ရာတွင် ၁၈၈၀–ခုနှစ် ဂျေဒီ ဘဂ်ဂ်လာ (J.D. Beglar)၏ ပြန်လည်ပြုပြင်မွမ်းမံချိန်မတိုင်မီအထိ စေတီတော်၏မှတ်တမ်းများ အားလုံးသည် မဟာဗောဓိစေတီတော်ကို မည်သူမျှ စောင့်ရှောက်ထားခြင်းမရှိဘဲ လျစ်လျူရှုထားသည့် အပျက်အစီးတစ်ခုသာဖြစ်ကြောင်း ညွှန်ပြသည်။ ဒုတိယထပ်ရှိအခန်းနှင့် မြေညီပထမထပ်အခန်းတို့မှာ လုံးဝဖရိုဖရဲဖြစ်နေသည်။ အမာလက (သျှစ်သျှားသီး)နေရာသည် ကျိုးပျက်နေသည်။ စုပြုံနေသည့် ချုံနွယ်ပိတ်ပေါင်းတို့က စေတီတော်အနီးဝန်းကျင်ရှိ မြေညီအဆင့်သည် အပြင်ဘက်နံရံများရှိ မုခ်ခုံးပေါက်များသို့တိုင် မြင့်တက်နေကြောင်းဖော်ပြကြသည်။

လာရောက်ဖူးမြော်သူများသည် (စေတီတော်၏) ပင်မဘုရားခန်းသို့ အမှန်ပင် ဆင်းသက်ရပြီး မိုးရာသီတိုင်းတွင် ရေသေများပြည့်နေသည်။ အပြင်နံရံပျက်စီးယိုယွင်းနေမှုမှာ တောင်ဘက်နှင့် အနောက်ဖက်ခြမ်းများ၌ သိသိသာသာ ဆိုးရွားသည်။ ဤအချက်ကို မိတြက ၁၈၇၈–ခုနှစ်တွင် ဤသို့မှတ်ချက်ချ၏ ‘ယင်းပျက်စီးရမှုသည် ထိုဘေးနံရံများ၌ တပ်ဆင်ရန် အငယ်စားသေနတ်များကို ယူဆောင်ခဲ့ခြင်းကြောင့် ဖြစ်ပေါ်ခဲ့ပုံရ၏။ ထို့ပြင် မူဆလင်အယူသီး စစ်သားတစ်ချို့ တောင်ကုန်းမြင့်ပေါ်တွင် သေနတ်များထားပြီး အနောက်မြောက်ထောင့်စွန်းမှ စေတီတော်ကို တိုက်ခိုက်ခဲ့ခြင်း ဖြစ်ဖွယ်မရှိဟု မဆိုနိုင်ချေ’။

အေဒီ ၁၈၇၇–တွင် မြန်မာ (ဒုတိယ) နောက်ဆုံးဘုရင် မင်းတုန်း

မင်းသည် ဗုဒ္ဓဂယာသို့ အခြားသာသနာပြုအဖွဲ့ တစ်ဖွဲ့ စေလွှတ်ပြန်သည်။ ဤ(ရည်ရွယ်ချက်)မှာ စေတီတော်ကို ပြုပြင်ရန်သာမက ဘုန်းကြီးကျောင်းတိုက်တစ်ခု တည်ဆောက်ရန်၊ ဘုရားဖူးများနေရာထိုင်ခင်းအဆင်ပြေစေရန်နှင့် စေတီတော်ထိန်သိမ်းရေး လုပ်သားများ ခန့်အပ်ရန်၊ အခြားတစ်နည်းဆိုသော် မဟာဗောဓိစေတီတော်အား အသက်ဝင်လှုပ်ရှားလာစေရန် ဖြစ်သည်။ သို့ရာတွင် မင်းကြီး(ကိုယ်တိုင်)နှင့် မင်းကြီးလွှတ်လိုက်သော သာသနာပြုအဖွဲ့ဝင်များ၏ သဒ္ဓါတရားနှင့်ဆုံးဖြတ်ချက် ပြင်းပြနိုင်သော်လည်း စေတီတော်မြတ်ကြီး၏ မူလပုံစံကို ထိန်းသိမ်းမှုအရေးပါကြောင်း နားလည်မှုမရှိသဖြင့် အမှတ်မထင် ဖျက်ဆီးမှုတော်တော် များများ ပြုလုပ်မိကြသည်[၁၂]။

ယခု(ထိုအချိန်) အခါတွင် မဟာဗောဓိစေတီတော်ကို သမိုင်းအရေး အနုပညာလက်ရာအရပါ များစွာခမ်းနား ကြီးကျယ်ကြောင်း အများက အသိအမှတ်ပြုခံထားရပြီး ယင်းသို့ အသိအမှတ်ပြု ခံရခြင်းသည် ဆောင်ရွက်ဆဲကိစ္စနှင့် ပတ်သက်၍ မြန်မာမစ်ရှင်အဖွဲ့အား အကြံပြုရေးအတွက် အလက်စန္ဒာ ကန်နင်ဟမ်နှင့် ရာဇိန္ဒြာလာယမိတြတို့ကို တိုက်တွန်းရန် ဗြိတိသျှအာဏာပိုင်များအား တွန်းအားပေးခဲ့သည်။ အင်္ဂလိပ်မြန်မာ စစ်ပွဲဖြစ်ပွားပြီး မြန်မာအဖွဲ့ ထွက်ခွာရသောအခါ နောက်ဆုံး၌ ဗြိတိသျှတို့သည် ကိုယ်တိုင်ပင် ထို(စေတီပြုပြင်ရေးကိစ္စ)ကို အပြီးသတ်ရန် ဆုံးဖြတ်ခဲ့သည်။

စေတီတော်ပြန်လည်ပြုပြင်ခြင်း၊ စေတီတော် ပရိဝုဏ်အတွင်း ရှင်းလင်းခြင်းနှင့် တစ်စိတ်တစ်ဒေသ တူးဖော်ခြင်းများကို ကန်နင်ဟမ်၏ အနီးကပ် အကြံပြုချက်ဖြင့် ဂျေဒီဘဂ္ဂလာက ဆောင်ရွက်နိုင်စွမ်းခဲ့သည်။ ကုန်ကျတန်ဖိုးစုစုပေါင်းမှာ ရူပီးတစ်သိန်းခန့်ဖြစ်ပြီး အိန္ဒိယအစိုးရကတာဝန်ယူခဲ့သည်။ ဝမ်းနည်းဖွယ်ကောင်းသည်မှာ အကောင်းဆုံး ဗုဒ္ဓဆင်းတုတော်များ၊ ရုပ်တုများနှင့် ရှေးဟောင်းပစ္စည်းအချို့ကို ဗြိတိသျှပြ

[၁၂] ဤအဆိုမှန်မမှန် သို့မဟုတ် အကယ်၍ မှန်သည်ဆိုလျှင် အဘယ်အတိုင်းအတာအထိ မှန်ကန်ကြောင်း သမိုင်းပညာရှင်များ ဝေဖန်သုံးသပ်သင့်ပါသည် (ဘာသာပြန်သူ)။



တိုက် (အင်္ဂလန်)သို့ ယူဆောင်သွားခဲ့ခြင်း ဖြစ်သည်။ စေတီတော်ဝန်းကျင်ရှိ အမှိုက်သရိုက်အစုအပုံကို ရှင်းလင်းစဉ် မဟာဗောဓိစေတီတော်၏ ပုံစံငယ်ကိုတွေ့ရှိခဲ့သဖြင့် ဘင်္ဂလာသည် ထိုပုံစံငယ်ကို အသုံးပြုပြီး ထောင့်စွန်းလေးခုတွင် စေတီရံလေးခုနှင့် စေတီတော်အပေါ်ထပ် မျက်နှာစာထည့်သွင်းလျက် (နဂိုပုံစံဖြစ်အောင်) ပြုပြင်ခဲ့သည်။ ယင်းအတွက် ဘင်္ဂလာသည် နောင်အခါ များစွာ ဝေဖန်ခံခဲ့ရသည်။ သို့ရာတွင် လက်ရှိပုံစံအတိုင်း ဖြစ်လာအောင် အဆိုပါထည့်သွင်းမှုများသည် အလယ်ခေတ် နှောင်းပိုင်းက မဟာဗောဓိစေတီတော်ကို တွေ့မြင်ရပုံအတိုင်း တိကျစွာ ကိုယ်စားမပြုနိုင်သော်လည်း ဘင်္ဂလာ၏ ပြန်လည် ပြုပြင်တည်ဆောက်မှုသည် စေတီတော်မြတ်ကြီးအား နဂိုအတိုင်းကြီးကျယ်ခမ်းနားမှုပေးသည်မှာ သံသယဖြစ်ဖွယ် မလိုပါချေ။ မဟာဗောဓိစေတီတော်သည် ရှေးဟောင်းသုတေသနပညာနှင့် ရှေးဟောင်းသုတေသနလေ့လာသူများ လေ့လာရန်အတွက် သက်မဲ့အကြွင်းအကျန်မျှသာ လုံးဝမဟုတ်ဘဲ ဗုဒ္ဓဘာသာဝင်များ လာရောက်ပူဇော်နိုင်သည့် ဗုဒ္ဓ၏ဗောဓိဉာဏ်ကို အုတ်ကျောက်သားဖြင့် ခင်းကျင်းပြသမှုတစ်ရပ်နှင့် သင့်တင့်လျောက်ပတ်သော စေတီတော်တစ်ခုအဖြစ် ရည်ရွယ်ကြောင်း ဘဂ္ဂလာနားလည်ခဲ့သည်။

ယခုအခါတွင် မဟာဗောဓိစေတီတော်၏ ရုပ်ပိုင်းတည်ဆောက်မှုကို ပြန်လည်ထိန်းသိမ်းထားပြီး ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တို့၏ ရှိခိုးပူဇော်ခွင့် ပြန်လည်ရရှိရေးနှင့် ယင်း (မဟာဗောဓိစေတီ)အား ထိန်းချုပ်မှုလုပ်ငန်းကို ပြန်လည်စတင်ခဲ့သည်။ အနာဂါရိကဓမ္မပါလနှင့် မဟန့်တို့သည် ယင်းစေတီတော်ကို ပိုင်ဆိုင်မှုနှင့် ပတ်သက်သည့် တရားဝင်တိုက်ပွဲ အစီအရီဖြင့် နှစ်ကာလကြာမြင့်စွာ အမှုရင်ဆိုင်ခဲ့ကြသည်။ နောက်ဆုံး ၁၉၀၆–ခုနှစ်တွင် ဓမ္မပါဘ ရှုံးပြီး အငြင်းပွားမှု နိဂုံးချုပ်သွားခဲ့သည်။ ယင်းအပြီးသတ် အခြေအနေသည် ခါးသီးခဲ့သော်လည်း အနာဂါရိက ဓမ္မပါလအနေဖြင့် မိမိ၏ဆုံးဖြတ်ချက်(အဓိဋ္ဌာန်)ကို တိုးမြှင့်အားပေးရန်သာ ဖြစ်စေခဲ့သည်။

ဟိန္ဒူဘုရားကျောင်းတန်းရှိသည်။ ပထမတွေ့ရှိရသည့် ဘုရားကျောင်းတွင် ဟိန္ဒူနတ်ဘုရားများနှင့် တူစေရန် အဝတ်အစားဝတ်ပြီး ဆေးသုတ်ထားသည့် စိတ်ဝင်စားဖွယ် ဗုဒ္ဓဆင်းတုတော် အစုအဝေးရှိသည်။ ထိုနေရာကို အုပ်စိုးနေကြသည့် ပုဏ္ဏားများက (၎င်းတို့ကို) ပေးကမ်းစွန့်ကြဲရန် ဘုရားဖူးပုဂ္ဂိုလ်များအား နှောင့်ယှက်ကြသည်။ အခြားဗုဒ္ဓဂယာရှိ နေရာဌာနများကဲ့သို့ပင် ဤနေရာ၌လည်း ဘုရားဖူးများအနေဖြင့် လှူဒါန်းပေးကမ်းရမည်ဆိုသည့် သတ်မှတ်ချက် မရှိချေ။

**မဟာဗောဓိစေတီတော်**

ဘုရားဖူးသည် ယခုအချိန်တွင် ဗုဒ္ဓဘာသာလောက၌ အလေးစားအပ်ဆုံး အကြည်ညိုအပ်ဆုံးဖြစ်သည့် မဟာဗောဓိ စေတီတော်မြတ်ကြီး၏ ရှေ့မှောက်၌ရပ်နေပါပြီ။ စေတီတော်မြတ်ကြီးသည် လေးထောင့်စပ်ပုံဖြစ်ပြီး သိခရ (Sikhara) ခေါ် ပင်မစေတီကိုယ်ထည်ကြီးမှာ အလယ်မှ အပေါ်ဘက်သို့ ခပ်လျှောလျှော မြင့်တက်သွားသည်။ အစွန်း (လေး) ထောင့်တွင် စေတီရံလေးဆူပါရှိသည်။ ဤအရံစေတီငယ် လေးဆူသည် စေတီတော်မူလတည်ဆောက်စဉ်ကပါရှိခဲ့သော အစိတ်အပိုင်းမဟုတ်ဘဲ နောက်မှ (ဖြည့်စွက်) တည်ဆောက်ခဲ့ခြင်းဖြစ်သည်။ တစ်ဖန် အလယ်ခေတ်တွင် (ဖြည့်စွက် အရံစေတီလေးဆူကို) ပြန်လည်ဖယ်ရှားခဲ့ပြီး ဘင်္ဂလာပြန်လည်ပြုပြင်သောအခါ ပြန်လည်၍ ဖြည့်စွက်တည်ဆောက်ခဲ့ပြန်သည်။ အလယ်စေတီမကြီးသည် ၅၂–မီတာမြင့်ပြီး အိန္ဒိယစေတီအများစု၌ တွေ့ရမြဲဖြစ်သည့် အမာလက (Amalaka)ခေါ် အဝိုင်းပြားပုံ (သျှိသျှားသီး) ဖြင့်ဆောင်းမိုးထားသည်။

ပင်မအဆောက်အအုံမှ ထွက်နေသည့် ဆင်ဝင်အမိုးမှာ နောက်မှ ထည့်သွင်း တည်ဆောက်ထားခြင်းဖြစ်သည်။ ဆင်ဝင်အမိုးမှ ကျောက်တိုင်လေးခု၊ တံခါးဘောင်များ၊ လှေကားထစ်များနှင့် ကြမ်းခင်းတို့မှ တစ်ပါး စေတီတော် တစ်ခုလုံးကို အုတ်ဖြင့်တည်ဆောက်ထားသည်။ စေတီတော်၏ ရှေးအကျဆုံး အစိတ်အပိုင်းရှိ အုတ်ခဲများသည် ၄၈× ၃၃×၅၅ စင်တီမီတာ ပမာဏရှိပြီး (ယင်းအုတ်များကို) တစ်ခုနှင့်တစ်ခု



အခဲများ ရှိနိုင်သည်။ ယင်းအခက်အခဲများကို ကျော်လွှားပစ်ရမည်။ စေတီတော်အတွင်း တိရစ္ဆာန်ယဇ်ပူဇော်မှုရှိသည် ဆိုသည့်သတင်း မှန်လျှင် ယင်း(အပြုအမူ)သည် ဘာသာရေးစော်ကားမှုဖြစ်သည်။ စွပ်စွဲခံရသည့်အတိုင်း ဗုဒ္ဓဘာသာဝင်များအား စိတ်ထိခိုက်နာကျင်စေရန် ကြံရွယ်သည့်နည်းဖြင့် (ယဇ်)ပူဇော် ကြမည်ဆိုလျှင် ယင်း(သို့ပြုခြင်း)သည် သူတစ်ပါးတို့ ကိုးကွယ်သည့် ဘာသာတရားကို မထီမဲ့မြင်ပြုခြင်းနှင့် အတူတူ ဖြစ်သည်’။

နောက်ဆုံး ၁၉၄၉–တွင် ဗုဒ္ဓဂယာ (မဟာဗောဓိ) စေတီဥပဒေ (ဗီဟာပြည်နယ် ဥပဒေအမှတ် ၁၇/၁၉၄၉–၁၉၅၅ ဖေဖော်ဝါရီလ ၈–ရက်နေ့တွင် ပြင်ဆင်)ကို ထုတ်ပြန်ခဲ့သည်။ ဤဥပဒေအရ (မဟာဗောဓိ) စေတီတော်ရေးရာကိစ္စများ ဆောင်ရွက်ရန် ဟိန္ဒူလေးယောက်နှင့် ဗုဒ္ဓဘာသာလေးယောက် အဖွဲ့ကိုဖွဲ့စည်းရေး စည်းကမ်းသတ်မှတ်ချက်များပါရှိသည်။ ဤအစီအစဉ်သည် နှစ်သက်ကျေနပ်ဖွယ်မကောင်းသေးသော်လည်း ယခင်ကကဲ့သို့ ဖုံးကွယ်တိမ်မြုပ်နေသည်ထက်တော့ ပိုမိုကောင်းမွန်လာသည်။

ယနေ့ခေတ်တွင် ဗုဒ္ဓဂယာသည် သေးငယ်သော်လည်း မဟာဗောဓိစေတီဝန်းကျင်၌ ကြီးထွားလာပြီး သက်ဝင်လှုပ်ရှားနေသည့် ကျေးရွာတစ်ခုဖြစ်သည်။ အချိန်မရွေး ဗုဒ္ဓဘာသာနိုင်ငံတစ်ခုမှ သံအမတ်ကြီးတစ်ယောက် သို့မဟုတ် ကျော်ကြားသည့် ဗုဒ္ဓဘာသာပညာရှင် သို့မဟုတ် ကမ္ဘာ့ဌာန်းဆရာတစ်ယောက် လာရောက်နိုင်သည်။ ဘုရားဖူးအရောက်ဆုံးအချိန်ဖြစ်သည့် ဆောင်းရာသီတွင် မဟာရဋ္ဌ (Maharastra)၊ လာဒက်ခ် (Ladakh)၊ ဘင်္ဂလားပြည်နယ်များမှ အိန္ဒိယလူမျိုး ဗုဒ္ဓဘာသာဝင်များ၊ သို့မဟုတ် မေဃလယနှင့် မဏိပူရနယ်များမှ ဗုဒ္ဓဘာသာ လူမျိုးစုများကို တွေ့မြင်နိုင်သည်။ လာအို၊ ဗီယက်နမ်၊ ဂျပန်၊ သီရိလင်္ကာ၊ ယိုးဒယားနှင့် မလေးရှားလူမျိုးများကို တွေ့မြင်နိုင်သည်။ ၁၉၅၉–ခုနှစ် ကတည်းက အိန္ဒိယတွင် အခြေချ နေထိုင်ခဲ့ကြသည့် တိဗက် ဒုက္ခသည်များကိုလည်း တွေ့နိုင်သည်။ ပြန်လာရန် ကတိဝန်ခံ

ချက်များပေး၍ မိသားစုအချို့ (တရုတ်ပြည်မှာ)ကျန်ခဲ့သဖြင့် တရုတ်အာဏာပိုင်များက ဘုရားဖူး သွားရောက်ခွင့် ပြုထားသူအချို့ကိုပင် တွေ့နိုင်သည်။ ဥရောပတိုက်သားများ၊ အမေရိကန်များနှင့် ဩစတြေလျလူမျိုး အများအပြားကိုလည်း တွေ့မြင်နိုင်သည်။ အချို့မှာ စူးစမ်းလို၍ အချို့မှာ ကြည်ညိုယုံကြည်၍ လာကြခြင်းဖြစ်သည်။ ဤယဉ်ကျေးမှုအမျိုးမျိုးမှ လူပေါင်းစုံသည် ဗုဒ္ဓဂယာ၏သမိုင်း၊ အနုပညာနှင့် စိတ်ပိုင်းဆိုင်ရာခမ်းနားမှုတို့အား ဆွဲဆောင်မှုပမာဏကို ဖြည့်တင်းပေးကြပြီး အိန္ဒိယတွင် စိတ်ဝင်စားဖွယ် ခရီးစဉ်များအနက် တစ်ခုအဖြစ် မှတ်ယူကြသည်။

## ကြည့်ရှုဖွယ်

### အဝင်မုခ်ဦး

ဘုရားဖူးသည် အရှေ့ဘက်ဂိတ်မှ စေတီတော်အတွင်းဝင်လိုက်သည်နှင့် ရှေ့တွင်မိုးနေသည့် စေတီတော်အထွတ်များနှင့် အောက်ခြေတွင် မြင့်မြတ်သည့် ပရိဝုဏ်ဝန်းကျင်ကို ဖူးမြင်ရသည်။ အီးအမ် ဖိုစ်တာ (E. M. Foster) အမည်ရှိပုဂ္ဂိုလ်က ထိုနေရာသို့ ရောက်သွားသောအခါ ဤသို့ဆို၏ 'ကားကိုရပ်လိုက်ပြီး ရေတာတမံနှင့်တူသည့် ကုန်းမြင့်စွန်းမှ အရာခပ်သိမ်းကို ရုတ်တရက်တွေ့လိုက်သော မြင်ကွင်းကား ကျမ်းစာများတွင် ပြဆိုထားသည့်အတိုင်း ''လွယ်လွယ်နှင့် မေ့ပျောက်သွားမည့်အရာ'' မဟုတ်ပါချေ။ ကမ္ဘာပေါ်တွင် ထိုမြင်ကွင်းနှင့်တူသောအရာ ရှိနိုင်မည် မဟုတ်'။

လှေကားမှဆင်း၍ စေတီတော်ဘက်သို့ ဆက်လက်လျှောက်သွားခြင်း၌ ဘုရားဖူးသည် မြင့်မြတ်သော (မဟာဗောဓိစေတီတော်) ပရိဝုဏ်အတွင်း ဝင်ရောက်သည့် အထိမ်းအမှတ်အဖြစ် လှပစွာထွင်းထုထားသော အဝင်မုခ်ဦးအောက်မှ ဖြတ်သွားရသည်။ ထွင်းထုထားသည့် လက်ရာဟန်ကို ကြည့်၍ ဆုံးဖြတ်ထားချက်အရ အဝင်မုခ်ဦးသည် အေဒီ ရှစ်ရာစုခန့်က လက်ရာဟု ဆိုသည်။ ဓမ္မသာမိ ဤမဟာဗောဓိ



စေတီတော်မြတ်သို့ ကြွရောက်သောအခါ ဤအဝင်မုခ်ဦးသည် ကျိုးပျက်နေပြီဖြစ်သည်။ ဓမ္မသာမိက ယင်းမုခ်ဦးကို အာစရိယ ဟယဃောသ(မထေရ်) စိုက်ထူခဲ့ကြောင်းဆိုသည်။ မုခ်ဦးအောက်ခြေတွင် ဒူးထောက်နေသည့် မြန်လက်ရာရုပ်တုနှစ်ခုရှိသည်။ ဤသည်မှာ ၁၈၁၀–ခုနှစ် မြန်မာမစ်ရှင်အဖွဲ့ လာရောက်စဉ် တည်ထားခဲ့သည့် ရုပ်တုဖြစ်ဖွယ်ရှိသည်။

### ဗုဒ္ဓပါဒစေတီ

အဝင်မုခ်ဝလက်ဝဲဘက်တွင် ဆင်ဝင်အမိုးနှင့် ဘုရားကျောင်းငယ်တစ်ခုရှိသည်။ ယင်း၏ကျောက်တိုင်များကို သိမ်မွေ့စွာထွင်းထုထားသည်။ (ဆင်ဝင်)အမိုးအောက်တွင် ရာစုနှစ်စောစောပိုင်းကာလများက မြတ်ဗုဒ္ဓအထိမ်းအမှတ်အဖြစ် အသုံးပြုခဲ့သော ခြေတော်ရာများ ထွင်းထုထားသည့် အဝိုင်းပုံ ကျောက်ပလ္လင်ကြီးရှိသည်။ ယင်းကျောက်ပလ္လင်သည် အရှင်ဓမ္မသာမိ ကြွရောက်စဉ် ဖူးတွေ့ခဲ့ရသည့် ကျောက်ပလ္လင်နှင့်တူသည်။ ထိုကျောက်ပလ္လင်နှင့် ပတ်သက်၍ အရှင်ဓမ္မသာမိက စိတ်ဝင်စားဖွယ် မှတ်ချက်ပေးထားသည် 'ယခင်က ဤခြေရာတော် (ပါဒစေတီ) တော်ပေါ်မှ အာရုံခံတန်ဆောင်း တစ်ခုတည်ဆောက်ရန် ရည်ရွယ်ခဲ့သော်လည်း ပညာရှိတို့က အကယ်၍ အာရုံခံတန်ဆောင်း ဆောက်လုပ်ခဲ့သော် တံခါးတပ်ရမည်ဖြစ်၍ တံခါးစောင့်တစ်ယောက် လိုလာမည်ဖြစ်ပြီး ယင်းတံခါးစောင့်က ဘုရားရှိခိုးသူများထံမှ အခကြေးငွေ တောင်းခံမှုကြောင့် ပါဒစေတီတော်ကို ဖူးမြော်လာကြသူများ နည်းပါးသွားနိုင်သည်ဟု ရှုမြင်ကြသောကြောင့် တန်ဆောင်း မတည်ဆောက်ခဲ့ခြင်းဖြစ်၏'။

ဘေးအနီးအနားရှိ ကျောက်စာ အတိုအထွာများအရ ဤ (ပါဒစေတီရှိရာ) ကျောက်ပလ္လင်ကို အေဒီ ၁၃၀၈–ခုနှစ်တွင် ထွင်းထုခဲ့သည်။

### ဟိန္ဒူဘုရားကျောင်းများ

ဗုဒ္ဓပါဒစေတီနှင့် ကပ်လျက်တွင် ဗုဒ္ဓဂယာကို ဗုဒ္ဓဘာသာဝင်တို့ မေ့ပျောက်ထားပြီး ဟိန္ဒူတို့ အသုံးပြုစဉ်အတွင်း တည်ဆောက်ထားခဲ့သည့်

တန် ကျောက်မျက်များပါဝင်သည်။ (ထို့ပြင်) ခရစ် ၁၆၀–ဟု ခန့်မှန်းရသည့် ရွှေဒင်္ဂါးပြားအပါးပေါ်မှ (တံဆိပ်)ခတ်နှိပ်ထားမှု တစ်ခုလည်းတွေ့ရသဖြင့် ဤဒုတိယ ပလ္လင်ကျောင်းတော်ကို အေဒီ ၁၆၀–ခန့်က တည်ဆောက်ခဲ့ကြောင်း ညွှန်ပြသည်။

နောက်ထပ် စုံစမ်းလေ့လာတွေ့ရှိချက်အရ ဒုတိယပလ္လင်ကျောင်းတော်အတွင်း၌ မူလပထမဆုံးဖြစ်သော ဝဇိရာသနဟု ယူဆရသည့် တတိယပလ္လင်ကျောင်းတော်တစ်ခုကို တွေ့ရှိရပြန်သည်။ (ပလ္လင်)ရှေ့ဘက်၌ (အခြေ)တစ်ပိုင်းမြုပ်နေသည့် ကျောက်တိုင်လေးခုပါ အောက်ခံခုံတွင် တင်ထားသည့် အလွန်ပြောင်လက်ချောမွတ်လျက် ကျိုးနေပြီဖြစ်သည့် အပြင်အဆင်မရှိ ပကတိလိပ်သည်း ကျောက်သားပြားတစ်ခုကို တွေ့ရခြင်းဖြစ်သည်။ ဤဝဇိရာသနသည် ဘာရဟုတ (ဒေသရှိစေတီတော်မှရရှိသော) ရုပ်ကြွ၌ ဖော်ပြထားသည့် ဝဇိရာသနပုံစံနှင့် အနီးစပ်ဆုံးတူညီသည်။ ဤပြောင်လက် ချောမွတ်နေသော လိပ်သည်းကျောက်သားပြား(ပလ္လင်)မှာ ပိုမိုရှေးကျသည့် အချိန်ကပင် ကောင်းစွာတည်ရှိခဲ့နိုင်သော်လည်း ဤဝဇိရာသနအခြေလေးခုပါ (ပလ္လင်ကျောင်း)မှာမူ ဘီစီသုံးရာစုက အသောကဘုရင် တည်ဆောက်ခဲ့သော မူလဘုရားကျောင်း (ပလ္လင်)၏ တစ်စိတ်တစ်ပိုင်း ဖြစ်သည်မှာ သံသယဖြစ်ဖွယ် မလိုချေ[၁၃]။

---

[၁၃] ဤ၌ ကျမ်းပြုသူက အောက်ပါအတိုင်း ရှင်းလင်းချက်ပေးထားသည် - ဝဇိရာသနဟူသည် မြတ်ဗုဒ္ဓ ဘုရားမဖြစ်မီနှင့် ဘုရားဖြစ်တော်မူပြီးစအချိန် ထိုင်နေတော်မူခဲ့သည့် ဗောဓိပင်ရင်းမှ နေရာတော်ဖြစ်သည်။ ဘီစီ၆ရာစုတွင် ဤနေရာ၌ ပကတိမြေသားမျှသာ ဖြစ်သည်။ (ကျမ်းဂန်တို့၌ဖော်ပြသည့် အပရာဇိတပလ္လင်တော်မှာ ဗုဒ္ဓအဖြစ်သို့ရောက်တော်မူပြီးနောက် မကြာမီ ကွယ်ပျောက်သွားသည် ဟုဆိုနိုင်သည်။ ဥပမာ မင်းသားသိဒ္ဓတ္ထ တောထွက်တော်မူပြီးနောက် ရွှေအိုးကြီးများ မရှိတော့သကဲ့သို့ ဖြစ်သည်။ ဘာသာပြန်သူ)။ ဘီစီ လေးရာစုသို့ရောက်သောအခါ ‘အပြင်အဆင်မရှိ ပကတိပြောင်လက်ချောမွတ်သော လိပ်သည်းကျောက်သားပလ္လင်’ကို ဗောဓိပင်အောက်၌ တည်ထားကိုးကွယ်ကြသည်။ ဘီစီသုံးရာစု၌မူ အသောကမင်းကြီးသည် မဟာဗောဓိပင်ကို ဝန်းရံပြီး ဘုရားကျောင်းတစ်ခု (ဘာရဟုတရုပ်ကြွပုံဟုယူဆရသည်)ကို တည်ဆောက်ပြီး ဗောဓိပင်အောက်ရှိ ဝဇိရာသနနေရာတွင် မူလလိပ်သည်းကျောက်ပြားပေါ်မှ ‘ထန်းပင်နှင့် ဟင်္သာပုံပါ ချူနာရ (အရပ်မှထွက်သည့်) ကျောက်ပြား ပလ္လင်ခုံပေါ်၌တင်၍’ တည်ထား ပူဇော်ခဲ့သည်။



ချိတ်ဆက်ရန် အင်္ဂတေ မပါသလောက်နီးပါးသာ သုံးရသည်အထိ အလွန် သပ်ရပ်ကောင်းမွန်စွာ ပြုလုပ်ထားပြီး တစ်ခုနှင့်တစ်ခု အနီးစပ်ဆုံး အံဝင်ခွင်ကျ ထိစပ်နေအောင် စီမံထားသည်။ စေတီတော်ကြီးကို တည်ဆောက်ရာ၌ (ယင်းကဲ့သို့) ထင်ရှားသည့် ဂရုတစိုက် ဆောင်ရွက်ထားခြင်းသည် ရာစုနှစ်ပေါင်းများစွာ ကာလအတွင်း ထိုဒေသ၌ လှုပ်ခဲ့သော လျှင်ကြီးများ၏ဒဏ်မှ စေတီတော်ကြီး မပျက်မစီး ကျန်ရှိနေရခြင်း၏ ယုံမှားဖွယ်မရှိသော အကြောင်းရင်းတစ် ရပ်ဖြစ်သည်။

ဟူယင်ဆန်တို့ခေတ်က ပင်မဝင်ပေါက် တစ်ဘက်တစ်ချက်ရှိ ကလိုင်ပေါက်နှစ်ခုတွင် ငွေသားဖြင့်ထုလုပ်ထားသော အဝလောကိတေသွာရနှင့် မေတ္တေယျ (ဘုရားလောင်း)ဆင်းတုများရှိခဲ့သည်။ သို့ရာတွင် ယခုအခါ၌ စေတီတော်ကို ပြန်လည်မွမ်းမံစဉ်က ဗုဒ္ဓဆင်းတုတော်များကို ထည့်သွင်းထားပြီဖြစ်သည်။ ဘယ်ဘက်ရှိ သရဖူဆောင်းထားသည့် ဗုဒ္ဓဆင်းတုတော်၏ ပခုံးများပေါ်တွင် ဗုဒ္ဓဆင်းတုတော်ငယ်နှစ်ဆူပါသည်။ ထိုဆင်းတုတော်၏ဘေးတွင် ဘုရားလောင်း ပဒုမပါဏိနှင့် အဝလောကိတေသွာရတို့ ရပ်နေသည်။ ညာဘက်ကလိုင်ပေါက်ရှိ ဗုဒ္ဓဆင်းတုတော်မှာ အထူးသပ္ပာယ်သည်။ ဟန်အနေအထားအရ ဂုတ္တခေတ်မှ ပလ္လခေတ်အတွင်း လက်ရာဖြစ်ပြီး အေဒီ ၇–ရာစုဟု ခန့်မှန်းထားသည်။ ဗုဒ္ဓဆင်းတုတော် (နှစ်ဆူ)လုံးသည် ကျောက်တောင်စွန်းများနှင့် ဝေ့ရမ်းနေသော သံသရာလှိုင်းဂယက်ပေါ် ပေါက်ရောက်နေသည့် ကြာပွင့်ပေါ်၌ ငြိမ်သက်စွာ ရပ်နေသည်။ ဆင်ဝင်အမိုးအောက်သို့ဝင်သွားပါက နှစ်ဆူထက်မနည်းသော ဗုဒ္ဓဆင်းတုတော်များကို ဝဲယာနှစ်ဘက်လုံး၌ မြင်တွေ့နိုင်သည်။

တစ်ဖန် ပထမအခန်း၏အတွင်းဘက် ကြမ်းခင်းပေါ်ရှိ လိပ်သည်းကျောက်ပြားကြီးများအနက် အကြီးဆုံးတစ်ခုတွင် လက်အုပ်ချီနေဟန်ဖြင့် ဝပ်စင်းနေသည့် အမျိုးသားအမျိုးသမီးပုံ လက်ရာခပ်ကြမ်းကြမ်း ရုပ်ထွင်းများရှိသည်။ အချို့မှာ ကြာဖူးကိုကိုင်လျက် စေတီတော်များအား ပူဇော်နေကြသည်။ (ယင်းကျောက်ပြားများ၌) ကျောက်စာအများ



မဟာဗောဓိစေတီတော်ပုံ

၁။ အဝင်မုခ်ပေါက်
၂။ ခြေတော်ရာစေတီ
၃။ ဟိန္ဒူဘုရားကျောင်း
၄။ မဟာဗောဓိစေတီတော်
၅။ ဝဇီရာသန
၆။ ဗောဓိပင်
၇။ အပြင်ဝဇီရာသန
၈။ ကျောက်သားခြေတော်ရာများ
၉။ ရတနာစင်္ကမစေတီ
၁၀။ ကျောက်လက်ရန်း
၁၁။ ရတနာဃရစေတီ
၁၂။ အနိမိသစေတီ
၁၃။ ဟျူယင်ဆန်အလိုအရ အနိမိသစေတီ
၁၄။ အရှေ့တောင်ဘက်ရှိ ဘုရားကျောင်း
၁၅။ အသောကကျောက်စာတိုင်
၁၆။ အသောကစေတီ
၁၇။ မဟာနာမဘုရားကျောင်း
၁၈။ မဟာဗောဓိစေတီ အပြင်အုတ်တံတိုင်း



အပြားလည်းရှိသည်။ ဤမှတ်တမ်းများအားလုံးသည် အေဒီ ၁၃၀၂–၁၃၃၁ အတွင်း ဆင်းဒ်ဒေသမှ ဗုဒ္ဓဂယာသို့ အုပ်စုလိုက် ဘုရားဖူးလာခဲ့ကြသော မင်းညီမင်းသားများ၊ အကြီးအကဲများနှင့် ၎င်းတို့၏ ဇနီးများ၏ ဘုရားဖူးခရီးကို မှတ်တမ်းတင်ထားခြင်း ဖြစ်သည်။

ယင်းအခန်းမှ ထွက်ခွာပြီးနောက် ဘုရားဖူးသည် ယခုအခါ စည်ပိုင်းပုံခုံးမိုးနှင့် အခန်းကြီးအောက်သို့ ဝင်ရောက်လာသည်။ ယင်း (အခန်း)၏အဆုံးတွင် ပင်မဘုရားကျောင်းတော် နေရာရှိသည်။ ဤပင်မဘုရားကျောင်းနေရာကို ဗုဒ္ဓရှင်တော်မြတ် ဗောဓိဉာဏ်ကို ရရှိသောနေရာ တည့်တည့်၌ တည်ဆောက်ထားခြင်း ဖြစ်သည်။ ဤနေရာကို ဘုရားရှင် အားလုံးတို့၏ အောင်ပလ္လင် (သဗ္ဗဗုဒ္ဓါနံ ပလ္လင်္ကံ)၊ ကမ္ဘာမြေ၏ ဗဟိုချက် (ပုထုဝိ နာဘိ) စသည်ဖြင့် အမျိုးမျိုး ခေါ်ဝေါ်ကြသည်။

ဘီစီ ၅၂၇–ခုနှစ်၊ ကဆုန်လပြည့်ညတွင် ရှင်တော်ဗုဒ္ဓအား ဉာဏ်မျက်စိအကြားအမြင်၊ အသိပညာ၊ နားလည်မှု၊ ဉာဏ်အလင်းများ ဖြစ်ပေါ်ခဲ့သည်မှာ ဤမြေမြတ်မဟာ၌ ထိုင်တော်မူနေစဉ်တွင်ဖြစ်၏။ ဤ (အပရာဇိတပလ္လင်) နေရာတွင် မြတ်ဗုဒ္ဓသည် ဝိမုတ္တိသုခကိုခံစားလျက် ခုနစ်ရက်ပတ်လုံး ဆက်တိုက် သီတင်းသုံးနေတော်မူခဲ့သည်။ ဗုဒ္ဓ ဆင်းတုတော် (တစ်ဆူ)ထိုင်လျက် သီတင်းသုံးကိန်းဝပ်နေသည့် ဤဘုရား (ပလ္လင်)ကျောင်းနေရာတော်သည် ပလ္လဝခေတ် ခေတ်ဦးပိုင်းလက်ရာဖြစ်သည်။ ဤဘုရား(ပလ္လင်)ကျောင်းဆောင်တော်၏ ကျောက်ပြားများကို ကန်နင်ဟမ် ရွှေ့မလိုက်သောအခါ အတွင်း၌ ယင်းမတိုင်မီ တည်ဆောက်ထားသည့် ဘုရား(ပလ္လင်)ကျောင်းငယ်တစ်ခုကို အံ့သြစွာ တွေ့ရှိရသည်။ ဤဒုတိယပလ္လင်ကျောင်းတော်ကို စနစ်တကျလေ့လာသောအခါ အင်္ဂတေသရိုးကို သေးငယ်သည့် သန္တာ၊ နီလာ၊ သလင်းကျောက်၊ ပုလဲ၊ ဆင်စွယ်အမှုန့်များ ရောစပ်ထားသော ထုံးဖြင့် ပြုလုပ်ထားသည်ကို တွေ့ရသည်။ ရွှံ့စေးလုံးတစ်လုံးလည်း တွေ့ရပြီး (ယင်းရွှံ့စေးလုံး) ကွဲသွားသဖြင့် ရွှေထည် အများအပြားတွေ့ရသည်။ (ရွှေ) ပန်းပွင့်များ၊ (ရွှေ)ပြားများနှင့် (ရွှေ)ပုတီးစေ့များ၊ အဖိုးတန်နှင့် အတော်အတန်အဖိုး

နင်းနေသည့်ပုံ ဖြစ်သည်။ မူလဆင်းတု၏ အခြားတစ်ဘက်တွင် လှပစွာ ထွင်းထုထားသော ဆင်စီးနေဟန် ခြသေ့ရုပ်များရှိသည်။

စေတီတော်၏ အပေါ်ထပ် အဆောက်အဦ (အထက်ပစ္စယာ)ပေါ်၌ ခြေချလိုက်သောအခါ ဘုရားဖူးသည် ညာဘက်၌ ပင်မဝင်ပေါက် တည့်တည့်ပေါ်ရှိ အခန်းငယ်သို့ ရောက်သွားနိုင်သော တံခါးတစ်ခုကို တွေ့ရသည်။ ၁၉၉၀–ခန့်အထိ ဤအပေါ်ထပ်အခန်းငယ်ကို ညနေပိုင်းများတွင် သာဖွင့် သည်။ ဤအခန်းငယ်ထဲတွင် သူမတူထူးကဲစွာ သပ္ပာယ်သည့် သရဖူ ဆောင်းရတနာတို့ဖြင့် တန်ဆာဆင်ထားသည့် ရုပ်တော်မူ ပလ္လခေတ် ဗုဒ္ဓဆင်းတုတော်တစ်ဆူရှိသည်။ ရုပ်တော်မူ ဗုဒ္ဓဆင်းတုတော် ငယ်နှစ်ဆူနှင့် ထိုင်တော်မူနှစ်ဆူတို့ကို ယင်းဗုဒ္ဓဆင်းတုတော်၏ ဘေးနှစ်ဘက်တွင် တွေ့မြင်နိုင်သည်။ ဥပါသကာနှစ်ယောက်က ဒူးထောက်၍ ရှိခိုးဦးညွှတ် နေကြသည်။ အောက်ခြေရှိ ရုပ်တုနှစ်ခုမှာ မြေစောင့် နတ်သမီးနှင့် ဟိန္ဒူအချစ်နတ် (ကာမ)၏ ရုပ်တုဖြစ်သည်။ ဂရိဒဏ္ဍာရီ၌ပါရှိသော အချစ်နတ် ကျူးပစ် (Cupid)ကဲ့သို့ပင် ကာမနတ်သည် သူ၏သားကောင်းများကို ပစ်ခွင်း(အာရုံကြွစေ)ရန် လေးနှင့်မြားကို အသုံးပြုသည်။ ဤ၌ ကာမရုပ်တုမှာ ဗုဒ္ဓ၏ တည်ငြိမ်သည့် တဏှာရာဂ ဖယ်ရှားရေး တရားတော်ဖြင့် နှိမ်နင်းခံရသောကြောင့် လေးနှင့်မြားကို ဘေးတွင်ချထားပြီး မကြည်သာသော မျက်နှာထားဖြင့် ထိုင်နေသည်။ ဤ(ဗုဒ္ဓ)ဆင်းတုတော်ကို မကြာမီက ရွှေချထားသဖြင့် ပို၍ သပ္ပာယ်သည်။

အပေါ်ထပ်အခန်းမှ ထွက်ခွာပြီး အထက်ပစ္စယာကို လက်ယာရစ်ပတ်၍ လမ်းလျှောက်သွားခြင်း၌ ဘုရားဖူးသည် စေတီတော်တစ်ခုလုံးကို ပတ်လျှောက်သွား၍ရသည်။ စေတီတော်အနောက်ဘက်ရှိ အရံစေတီငယ်နှစ်ဆူကိုဖြတ်ပြီး ဗောဓိပင်အပေါ်နားမှ ဖြတ်လျှောက်ရသည်။ စေတီတော်၏ အရှေ့မြောက်ထောင့်ရောက်သောအခါ ဘုရားဖူးသည် လှေကားဆောင်ကိုဝင်ပြီး မြေညီထပ်သို့ တစ်ဖန်ဆင်းသွားရသည်။ ဤလှေကားဆောင်ထိပ်တွင် စိတ်ဝင်စားဖွယ်အချို့ ပါရှိသည့် ရုပ်တော်မူဆင်းတုတော်ကြီး တစ်ဆူရှိသည်။ ဤကြည်ညိုဖွယ် ဆင်းတုတော်သည်



မူလပလ္လင်ကျောင်းများကို မဖြိုဖျက်ဘဲ ပလ္လင်ကျောင်း အသစ်ဆောက်လုပ်ခြင်းနှင့် ယင်း (ပလ္လင်ကျောင်း) များအတွင်း တွေ့ရှိရသည့် ရတနာများမှာ ဤမြင့်မြတ်သော နေရာတော်ကို ရာစုနှစ်ပေါင်း များစွာကြာအောင် တည်ရှိခဲ့သည့် အလွန်ရိုသေလေးမြတ်မှုအတွက် သက်သေပင်ဖြစ်သည်။ ဘုရားကျောင်းဆောင်အတွင်းရှိ ၁၀–ရာစုနှောင်းပိုင်းလက်ရာ (ယခုလက်ရှိ) ဆင်းတုတော်သည် နှစ်မီတာကျော်ကျော်မြင့်ပြီး ဘူမိဖဿမုဒြာ (မြေကြီးလက်ထိ)ဟန် ဗုဒ္ဓဆင်းတုတော် ဖြစ်သည်။ ဤဆင်းတုတော်သည် တွေ့ရမြဲကြာပွင့်ပေါ်၌ မဟုတ်ဘဲ အပြောက်အမွမ်းပါသည့် ထိုင်ခင်းပေါ်တွင် သီတင်းသုံးတော်မူသည်။ အောက်ခံ (ပလ္လင်)မှာ ဆင်နှစ်ကောင်နှင့် ခြသေ့နှစ်ကောင် ခြံရံနေသည့် မြေနတ်သမီးပုံဖြစ်သည်။ တရုတ်ရဟန်းတော် ဟူယင်ဆန် လက်ထက်တွင် ဤဘုရားကျောင်းဆောင်သည် အတွင်းပိုင်းရှိ ဆင်းတုတော်ပုံကို မှန်ကြီးတစ်ချပ်ဖြင့် အတွင်းသို့ အလင်းရောင် ပြန်ဟပ်စေခြင်းဖြင့်သာ ဖူးမြင်နိုင်သည်ထိ မှောင်လွန်းနေသည်။ ဤသည်မှာ အဝင်ဝရှိ သစ်သားဆင်ဝင်အမိုးကြောင့် ဖြစ်ဖွယ်ရှိသည်။ ဟူယင်ဆန်သည် မိမိ မကြွရောက်မီတစ်ချိန်က ဖြစ်ပျက်ခဲ့သည့် စိတ်ဝင်စားဖွယ် ဖြစ်ရပ်အကြောင်း ဤသို့ ပြောပြထားသည် –

---

အေဒီ၇ဝ၀ီးရာစု၌ မဟာဗောဓိပင်ရင်းရှိ ဝဇိရာသနနေရာပေါ်တွင် မဟာဗောဓိစေတီကို တည်သောအခါ (ဤအချိန်၌ အသောကမင်း ဆောက်လုပ်ခဲ့သည့် ဘုရားကျောင်း ပျက်စီးသွားလျက် ဗောဓိပင်ကြီးလည်း သေဆုံးသွားပြီး အစားပြန်မစိုက်ရသေး။ သို့မဟုတ် အနောက်ဖက်သို့ နေရာရွှေ့ပြောင်းစိုက်ထားပြီဟု ဆိုနိုင်သည်။ ဘာသာပြန်သူ)။ အသောကမင်းကြီး လှူဒါန်းသည့် အခြေလေးခုပါ ကျောက်သားပလ္လင်ခုံနှင့် ယင်းမတိုင်မီရှိခဲ့သည့် မူလလိပ်သည်းကျောက်ပြားကို မဟာဗောဓိစေတီတော်အတွင်း ထည့်သွင်းဌာပနာလိုက်သည်။ ယင်းသည် မဟာဗောဓိစေတီအတွင်းရှိ ဗုဒ္ဓဆင်းတုတော်ကိန်းဝပ်ရာ ပလ္လင်မြင့်အတွင်းကို ကန်နင်ဟမ် တူးဖော်စဉ်တွေ့ရှိရသည့် တတိယဝဇိရာသနပလ္လင်ကျောင်းဖြစ်သည်။ စေတီ၏ အနောက်ဘက်သို့ ရွှေ့ပြောင်းစိုက်ပျိုးထားသည့် မဟာဗောဓိပင်အောက်၌ အသောကမင်းကောင်းမှု ‘ထန်းပင်နှင့် ဟင်္သာရုပ်ပါ ချူနာရသဲကျောက်ပြားပလ္လင်’ကို တည်ထားပူဇော်ကြသည်။ ယင်းသည် ယနေ့ခေတ် ဘုရားဖူးများ တွေ့မြင်ရသည့် အပြင်ဝဇိရာသနပလ္လင်ကျောင်းတော်ဖြစ်သည်။ (ဤစာအုပ် စာမျက်နှာ ၁၂၉–ကိုလည်း ရှုပါ)။

'သာသင်္ကမင်း[၁၄]သည် ဗောဓိပင်ကို ခုတ်လှဲစေပြီးနောက် ဤဗုဒ္ဓဆင်းတုတော်ကို ဖျက်ဆီးပစ်ချင်၏။ သို့သော် ဆင်းတုတော်၏ ကြည်ညိုဖွယ်သွင်ပြင်ကို တွေ့ရသောအခါ ဆုံးဖြတ်ချက်ပျက်သွားပြီး အခြွေအရံများနှင့်အတူ နန်းတော်သို့ ပြန်ဆုတ်သွား၏။ လမ်းတွင် ၎င်း၏ အရာရှိတစ်ယောက်အား ''ဒီဗုဒ္ဓဆင်းတော်ကိုရွှေ့ပြီး သူ့နေရာမှာ မဟေသွာရရုပ်တုကို (အစားထိုး)ထားရမည်'' ဟုဆို၏။ အရာရှိသည် အမိန့်ရပြီးသောအခါ ကြောက်ရွံ့တုန်လှုပ်သွားပြီး သက်ပြင်းချလျက် ဤသို့ဆိုသည် ''အကယ်၍ ငါ ဗုဒ္ဓဆင်းတုကို ဖျက်ဆီးလျှင် ကမ္ဘာပေါင်းများစွာ အကုသိုလ်အကျိုးခံ စားရမည်။ ဘုရင်အမိန့်ကို မနာခံလျှင် ဘုရင့်က ငါ့ကို သေဒဏ်ပေးပြီး ငါ့မိသားစုကို ဖျက်ဆီးလိမ့်မည်။ တစ်နည်းဆိုရလျှင် အမိန့်ကို နာခံသည်ဖြစ်စေ၊ မနာခံသည်ဖြစ်စေ ဒီအကျိုးဆက်တွေဖြစ်မည်။ ဒါဖြင့် ငါ မည်သို့ ဆောင်ရွက်ရ မည်နည်း။ ထိုအချိန်တွင် အရာရှိသည် ဗုဒ္ဓအားယုံကြည်သည့် နှလုံးသားရှိသူ (ဗုဒ္ဓဘာသာဝင်) ယောကျ်ားတစ်ယောက်အား မိမိကိုကူညီရန် ခေါ်ယူပြီး ဘုရား (ပလ္လင်) အခန်းကို ကန့်လန့်ဖြတ်လျက် ဆင်းတုတော်ရှေ့၌ နံရံတစ်ခု တည်ဆောက်ခိုင်း၏။ ထိုယောကျ်ားသည် (ဘုရားခန်း၌) မှောင်နေမှုကို မလိုလားသဖြင့် အထဲတွင် ဆင်းတုတော် နှင့်အတူ ဆီမီးတိုင်ထွန်းညှိထားလိုက်ပြီး နံရံတွင်မဟေသွာရပုံရေးဆွဲ၏။ ရေးဆွဲပြီးသောအခါ ဘုရင်အားအကြောင်းကြား၏။ ထိုကိစ္စကို ကြားသိသွားခြင်း၌ ဘုရင်ကြီးသည် အလွန်အမင်း ကြောက်ရွံ့တုန်လှုပ်သွားလျက် သူ့ခန္ဓာ တစ်ကိုယ်လုံး အနာများ ထလာပြီး အသားမှ သွေးပုပ်များ ယိုကျလာ၏။ မကြာမီ ဘုရင်ကြီး သေဆုံးသွား၏။ ထို့နောက် အရာရှိသည် ကြားခံအုတ်နံရံကို

[၁၄] ဗြဟ္မဏဝါဒစွဲပြင်းထန်သူ ဘင်္ဂလားနယ်မှဘုရင် (Sasanka 600-635 A.D.)၊ ဤမင်းသည် ဗုဒ္ဓ ပါဒခြေတော်ရာစေတီကို ဂင်္ဂါမြစ်ထဲ မျှောခိုင်းသည်၊ မဟာဗောဓိပင်ကို ခုတ်ဖြတ်ပြီး အမြစ်များကို ရေထဲ မျှောလျက် သစ်ပင်နေရာကို မီရှို့ခိုင်းသည်၊ ဗုဒ္ဓဆင်းတုတော် နေရာတွင် သျှိဝလိင်္ဂကို အစားထိုးခိုင်းသည်ဟု ဟူယင်ဆန်မှတ်တမ်း၌ ဖော်ပြသည် (Watters ဘာသာပြန်၊ ဒုတိယ တွဲ၊ စာ– ၉၂။ ၁၁၅၊ ၁၁၆။ ဘာသာပြန်သူ)။



အလျင်အမြန် ဖြိုချစေ၏။ ဖြိုချပြီးသောအခါ အတွင်း၌ ထွန်းညှိထားခဲ့သော ဆီးမီးတိုင်သည် ရက်များစွာကြာသည်ထိ ဆက်လက်ထွန်းလင်းနေသေးသည်ကို တွေ့ရ၏'။

တိဗက်ရဟန်းတော် ဓမ္မသာမိခေတ်တွင် ဤ (မဟာဗောဓိဆင်းတုတော်)ကို လွယ်ကူစွာ ဖူးမြင်နိုင်သေးသည်မှာ သေချာသည်။ 'စေတီအတွင်းရှိ မဟာဗောဓိဆင်းတုတော်၏ မျက်နှာတော်သည် အမြင့်နှစ်တောင်ရှိ၏။ ဤကဲ့သို့သော ဆင်းတုတော်ကို ဖူးမြင်ရသူတစ်ယောက်သည် လုံးဝကျေနပ်သွားနိုင်ခြင်းမရှိဘဲ အခြားတစ်နေရာသို့ သွားရောက်ဖူးမြော်လိုခြင်း မရှိတော့ချေ'။ ဓမ္မသာမိအရှင်မြတ်က 'ဗုဒ္ဓအား မကြည်ညိုသူများပင် ဤဆင်းတုတော်ရှေ့၌ ရပ်လိုက်သောအခါ (ဝမ်းသာ)မျက်ရည်မကျဘဲ မနေနိုင်သည်အထိ ခံစားရ၏'ဟုလည်း ဆိုသည်။ သို့ရာတွင် ဤဆင်းတုတော်မြတ်ကြီးသည် ရှေးအကြာကြီး ကတည်းက ဖျက်ဆီးပစ်ခြင်းခံခဲ့ရသည်။ မူဆလင်တို့ ကျူးကျော် ဝင်ရောက်စဉ်အတွင်း ဖြစ်ဖွယ်ရှိသည်။ ယနေ့ခေတ် (မဟာဗောဓိစေတီတော်အတွင်း) ဖူးတွေ့ရသည့် ဆင်းတုတော်ကို ဟိန္ဒူဘုန်းကြီး မဟန့်နန်းတော် ဝင်းထဲ၌ တွေ့ရှိခဲ့ပြီး ဗိုလ်ချုပ် ကန်နင်ဟမ်၏ တောင်းပန်မှုကြောင့် လက်ရှိနေရာ (စေတီတော်အတွင်း)သို့ ရွှေ့ပြောင်းနိုင်ခဲ့ခြင်း ဖြစ်သည်။ ဤဗုဒ္ဓဆင်းတုတော်မှာ ထင်ရှားသည့် စိတ်ခံစားမှုမရှိသော်လည်း ဆင်းတုကို ထိန်းသိမ်းထားသည့် ပတ်ဝန်းကျင်က ဆင်းတုတော်အား သေချာသောဆွဲဆောင်မှုတစ်ရပ်ကို ပေးသည်။ ရာဘိန္ဒြာနတ်သ်တဂိုးက ဤ (မဟာဗောဓိဆင်းတု)ကို ဖူးမြင်ရသောအခါ သူ့ဘဝ၌ ရုပ်တုရှေ့တွင် ဦးညွှတ်လိုစိတ် ခံစားမိသည်မှာ ဤတစ်ကြိမ်သာ ဖြစ်ကြောင်းဆိုခဲ့သည်။

ပထမဘုရားခန်းဆောင်သို့ ပြန်လာခြင်း၌ ဘုရားဖူးသည် ဒုတိယထပ်သို့ရောက်သည့် ဘယ်ဘက်တည့်တည့်ရှိ လှေကားကို တက်ရသည်။ လှေကားထိပ်တွင် ဆင်းတုငယ်နှစ်ဆူ ခြံရံနေသည့် သရဖူဆောင်း ရုပ်တော်မူ ဗုဒ္ဓဆင်းတုတော် တစ်ဆူရှိသည်။ (ဘုရားဆင်းတုငယ် နှစ်ဆူအနက်) ညာဘက်ရှိအဆူမှာ နာဠာဂိရိဆင်ပြောင်ကို နှိမ်

ဟောင်းနွမ်းခြင်း၏ တစ်စိတ်တစ်ဒေသကို ဗောဓိပင်အား ကာရံသည့် ခြံစည်းရိုးအသစ်နှင့် ပူးတွဲတည်ဆောက်ထားသည့် ပန်းပုထွင်းထား သော ကျောက်ဘောင်များပါရှိပြီး ၎င်း၏အောက်ဘက်တွင် ဆင်၊ မြင်း၊ အစွန်းတစ်ဘက်၌ သန်လျက်ကိုင်ထားသည့် ရုပ်ပုံတစ်ခုနှင့် ခွက်တစ်ခု ကို အခြားတစ်ယောက်အား ပေးနေသည့် ဥပါသကာတစ်ယောက်ပုံ များထွင်းထုထားသော ကျောက်ထွင်းရုပ်ပုံများမှာ ဆိုးရွားစွာဟောင်း နွမ်းနေပြီး ဂုတ္တ ခေတ်နှောင်းပိုင်း လက်ရာများဖြစ်သည်။

၁၈၉၉–ခုနှစ်တွင် ဂျပန်ရဟန်းတော် အီကိုင်ကဝါဂူချိ (Ekaii Kawaguchi) သည် တိဗက်သို့ စွန့်စားခန်းခရီး မထွက်ခွာမီ ဗုဒ္ဓဂယာသို့ ဘုရားဖူးသွားရောက်ခဲ့သည်။ အီကိုင်သည် တရားနှလုံးသွင်းရင်း ဗောဓိ ပင်အောက်၌ တစ်ညတာ နေခဲ့ရာတွင် လွန်ခဲ့သောအချိန်များက အခြား ဘုရားဖူးများ ဖော်ပြသကဲ့သို့ပင် ၎င်း၏ခံစားမှုကို ဤသို့ ဖော်ပြခဲ့သည် 'ထိုအချိန်က ကျွန်ုပ်ခံစားခဲ့ရသော ခံစားမှုမျိုးကို ဖော်ပြနိုင်စွမ်း မရှိပါ။ အငြိမ်သက်ဆုံးနှင့် အငြိမ်းချမ်းဆုံးသော ပီတိအဟုန်ဖြင့် တစ်ညတာ ကုန်ဆုံးခဲ့သည်ဟူ၍သာ ကျွန်ုပ်ပြောပြနိုင်ပါ၏။ ကြည်လင်သော လစန္ဒာ သည် ဗောဓိကိုင်းများအကြားမှ အပရာဇိတပလ္လင်တော် နေရာပေါ်တွင် သဘာဝအတိုင်း ဖြူဖွေးသောရောင်ခြည် ဖြာလက်ပေးနေသည်ကို မြင် တွေ့ရ၏။ ကျွန်ုပ်သည် ဤနေရာမြတ်၌ တရားနှလုံးသွင်းရင်း ဗုဒ္ဓရှင် တော်မြတ် ကုန်လွန်ခဲ့သော နေ့ညများကို တွေးမိလိုက်စဉ် ဤမြင်ကွင်း ကား အဆန်းတကြယ် နှစ်လိုဖွယ်ကောင်းပြီး ထူးမြတ်လှပါဘိ'။

## အပြင်ဝဇိရာသန

ဗောဓိပင်ခြေတွင် ဗုဒ္ဓဂယာ၌ တွေ့ရှိရဆဲ ရှေးအကျဆုံးအရာမှာ ထောင့် မှန်ပုံ ကျောက်ပလ္လင်ကြီးဖြစ်သည်။ ဤကျောက် ပလ္လင်မှာ အခြားဝဇိရာ သနနေရာ တစ်ခုဖြစ်သည်။ ဤဝဇိရာသန၏ ရှေးအကျဆုံး မူလနေရာ ကို (မဟာဗောဓိ) စေတီတော်အတွင်း ထည့်သွင်း ဌာပနာထားပြီးဖြစ် သည်။ ဤအပြင်ဝဇိရာသနနေရာသည် ၁၄၃×၂၃၈×၁၃၅ စင်တီမီတာ ရှိပြီး ပြောင်လက်ချောမွေ့သည့် ချူနာရ(Chunar)သဲကျောက်ဖြင့် ပြုလုပ်



ဆုတော်ပေးဟန် မုဒြာဖြစ်ပြီး ဘယ်ဘက်တွင် အဝလောကိတေသွာရ နှင့် ညာဘက်တွင် မေတ္တေယျတို့ ခြံရံနေသည်။ ဤဆင်းတုတော်ပေါ် တွင် ကျောက်စာ အများအပြားရှိသည်။ ယခုခေတ် ဘင်္ဂလားဒေ့ရှ် ဟု ယူဆရသည့် အရပ်မှ ရဟန်းတော်တစ်ပါး လှူဒါန်းသည်ဟု ယူဆရ သော ညာဘက်အောက်ခြေရှိ စာတန်းက ဤသို့ဖော်ပြ၏ 'ဝိနည်း (ပိဋကတ်)၌ လိမ္မာကျွမ်းကျင်ပြီး သောမပူရမြို့ မဟာဝိဟာရတစ်ခုတွင် နေထိုင်လျက် သာမတာတ (Samatata)နိုင်ငံသား မဟာယာနဂိုဏ်း ဝင်ဖြစ်သူ ဝီရိယိန္ဒြ (ရဟန်းတော်)၏ ကောင်းမှု'။ ကျောက်စာ ဘေးရှိ ရုပ်တုငယ်မှာ ဝီရိယိန္ဒြ၏ ဘေးတိုက်ပုံ ဖြစ်ဖွယ်ရှိသည်။

စေတီအတွင်းမှ ထွက်ခွာပြီး လက်ယာရစ်လှည့်လိုက်သော် ဘုရား ဖူးသည် စေတီတော်အပြင် ပတ်လည်ကို လမ်းလျှောက်နိုင်သည်။ စေတီတော်အပြင်နံရံရှိ ကလိုင်ငယ်များတွင် ဗုဒ္ဓဆင်းတုများရှိသည်။ အားလုံးမှာ မကြာမီက တည်ဆောက် ထည့်သွင်းထားသော လက်ရာ များဖြစ်သည်။ ကလိုင်ငယ်အောက်ခြေတိုင်းတွင် ငှက်နှစ်ကောင်ပုံပါ သည့် မှန်ကူကွက်တစ်ခုရှိသည်။ (ငှက်များသည်) နှုတ်ခမ်းတွင် ပုလဲ ကုံးကို ကိုက်ချီ၍ဖြစ်စေ၊ ဦးတည်ရာမတူသည့်ဘက်သို့ ပျံသန်း၍ဖြစ် စေ (တွေ့ရသည်)။ မှန်ကူကွက်တိုင်းကို ခွဲခြားထားသည့် ကျောက်တိုင် (ငယ်)များတွင် ပန်းပွင့်ပုံဒီဇိုင်းများ သို့မဟုတ် နှုတ်ခမ်းများတွင် ပုလဲ ကုံးကိုကိုက်ချီထားသည့် မခါရ(Makhara)ခေါ် သတ္တဝါတစ်မျိုးပုံတို့ ပါရှိ သည်။ ဟူယင်ဆန်သည် ဤအင်္ဂတေရုပ်ကြွများအားလုံးကို တွေ့မြင်ရ ကြောင်း ဖော်ပြသည်။ သို့ရာတွင် ထိုအချိန်ကတည်းက ယင်း (အင်္ဂ တေရုပ်ကြွ)များကို များစွာပြုပြင်ထားပြီး ဖြစ်ပုံရသည်။ ဟူယင်ဆန်က ထိုအချိန်တွင် ကလိုင်ငယ်များ အတွင်းရှိ ဗုဒ္ဓဆင်းတုတော်အားလုံးကို ရွှေချထားကြောင်းလည်း ဖော်ပြသည်။

## မဟာဗောဓိပင်

မဟာဗောဓိ စေတီတော်မြတ်ကြီး၏ အနောက်ဘက်တွင် ဗောဓိပင်ရှိ သည်။ သဗ္ဗညုတဉာဏ်ကို ရတော်မူသည့်ညက မြတ်ဗုဒ္ဓသည် ဤကဲ့သို့

သောသစ်ပင်၏ အကိုင်းများအောက်တွင် ခိုလှုံတော်မူခဲ့သည်။ ဤသဖန်းမျိုးဝင်အပင်ကို ဗုဒ္ဓဘာသာဝင်များက ဗောဓိရုက္ခ (ဗောဓိပင်)ဟုခေါ်ကြသည်။ ရုက္ခဗေဒအလို Ficus religiosa ဖြစ်သည်။ လက်ရှိဗောဓိပင်ကို ၁၉–ရာစုတွင်စိုက်ပျိုးခဲ့သည်။ ယခင်က ဗောဓိပင်ပေါင်း အများအပြားသေ သို့မဟုတ် ဖျက်ဆီးခံခဲ့ရပြီးဖြစ်သည်။ ဒဏ္ဍာရီအဆိုအရ အသောကမင်းသည် ဗုဒ္ဓဘာသာမဖြစ်မီက ဤဗောဓိပင်ကို ခုတ်လှဲခဲ့သော်လည်း အံ့သြဖွယ်ကောင်းစွာ တစ်ဖန် ပေါက်ရောက်ကြီးထွားလာခဲ့သည်ဟု ဆိုသည်။

အစဉ်အလာအဆိုများအရမူ ဗုဒ္ဓဘာသာဝင် ဖြစ်သွားပြီးနောက် အသောကမင်းကြီးသည် ၎င်း၏မိဖုရား တိဿရက္ခိတာ (Tishyarkshita) မနာလိုဖြစ်ပြီး ဗောဓိပင်ကို ခုတ်လှဲခိုင်းသည်အထိ ဗောဓိပင်အား အလွန်ကြည်ညိုသွားခဲ့သည်။ ယင်းသို့ ခုတ်လှဲလိုက်ပြီးနောက် အံ့သြဖွယ်ပင် တစ်ဖန် ရှင်သန်ကြီးထွားလာသည်ဟု ဆိုသည်။ အသောကမင်း၏သမီးတော် သံဃမိတ္တာသည် (ဤပင်မ) ဗောဓိပင်ကြီးမှ အကိုင်းတစ်ကိုင်းကို သီရိလင်္ကာသို့ ယူဆောင်သွားသည့် အကြောင်းအရာအတွက် သမိုင်းဝင်အထောက်အထားများရှိသည်။ အဆိုပါဗောဓိကိုင်းမှ ပေါက်ပွားခဲ့သည့် ဗောဓိပင်သည် သီရိလင်္ကာရှေးဟောင်းမြို့တော် အနုရာဓပူရတွင် ယနေ့တိုင်တည်ရှိဆဲဖြစ်ပြီး ကမ္ဘာပေါ်တွင် ရှေးအကျဆုံးသစ်ပင်အဖြစ်မှတ်တမ်းတင်ခံရသည်။ သမိုင်းအရ သာသင်္က (Sasanka) မင်းသည် အေဒီ ၆၀၀–ရာစု ဗုဒ္ဓဘာသာဝင်များအား ကွပ်မျက်စဉ်အတွင်း ဗောဓိပင်ကြီး ဖျက်ဆီးခံရကြောင်းလည်း သိရသည်။

ဟူယင်ဆန်က ကဆုန်လတိုင်းတွင် အိန္ဒိယတစ်ခွင်လုံးမှ လူထောင်ပေါင်းများစွာသည် ဗုဒ္ဓဂယာတွင်စုရုံးကြပြီး ဗောဓိမြစ်များကို နံ့သာရည် နို့ရည်များဖြင့် သွန်းလောင်းကြပြီး ဂီတဖြင့်သီဆို တီးမှုတ်ကြလျက် ပန်းများ ကြဲဖြန်းကြကြောင်းဆိုသည်။ ဓမ္မသာမိ (ကိုယ်တိုင်)လည်း အလားတူ ကြည်ညိုပူဇော်ပုံအကြောင်း ဖော်ပြပြီး မှတ်ချက်ပေးထားသည် 'ဗောဓိပင်သည် တောင်အနောက် မြောက်ဘက်တို့မှ အုတ်နံရံဖြင့် ကာရံထားသည့် ခံတပ်ပုံအဆောက်အအုံ အတွင်း၌တည်ရှိသည်။



ဗောဓိပင်ကြီး၌ အဖျားချွန်ပြီး တောက်ပသည့် အစိမ်းရောင် အရွက်များရှိသည်။ တံခါးကို ဖွင့်လိုက်သောအခါ ဒယ်အိုးပုံ ကတုတ်ကျင်းသဏ္ဌာန် တွေ့ရသည် … ကြည်ညိုသူ (ဗုဒ္ဓဘာသာဝင်များ)သည် ဗောဓိပင်ကြီးအား နို့ဓမ်း၊ နို့ရည်နှင့် စန္ဒကူးနီ၊ စန္ဒကူးဖြူစသည်ကဲ့သို့သော အမွှေးနံ့သာများဖြင့် ပူဇော်ကြသည်။ ဥပါသကာများ သည် အဝေးမှပင် လှူဒါန်းဖွယ် (အမွှေးတိုင်စသည်)များကို ယူဆောင်ခဲ့ကြပြီး ယင်းတို့ကို အဆက်မပြတ် အဆင်သင့်ဖြစ်နေအောင် စီမံကြသည်'။

ဗောဓိပင်ကြီးသည် မူလတွင် လက်ရှိနေရာမှ အရှေ့ဘက်သို့ အနည်းငယ် အကွာအဝေးတွင် ရှိခဲ့သော်လည်း မဟာဗောဓိစေတီတော်ကို တည်ဆောက်သောအခါ (အနောက်ဘက်သို့) ရွှေ့သွားသည်။ ယခု ဖူးတွေ့ရသော ဗောဓိပင်ကို ၁၉–ရာစုတွင် စိုက်ပျိုးခဲ့ပြီး မူလဗောဓိပင်၏ အလွန်ဝေးကွာသော သာမန် မြေးဆက်ဖြစ်ဖွယ်ရှိသည်။ ကန်နင်ဟမ်က ၁၈၉၂–ခုနှစ်တွင် ဤသို့ရေးသားခဲ့သည် '၁၈၆၂–ခုနှစ် ဒီဇင်ဘာလတွင် ကျွန်ုပ်သည် ဤဗောဓိပင်ကြီး အလွန်ဆွေးမြေ့ အိုမင်းနေသည်ကို တွေ့ခဲ့ရသည်။ အနောက်ဘက်သို့ ခက်မ (ကိုင်းကွဲ) သုံးခုနှင့် အကိုင်းကြီးတစ်ခုသည် စိမ်းလန်းဆဲဖြစ်သည်။ သို့ရာတွင် အခြား အကိုင်းအခက်များမှာ အခွံအခေါက်မရှိတော့ဘဲ ခြောက်သယောင်းနေ ပြီဖြစ်သည်။ ကျွန်ုပ်သည် ၁၈၇၁–ခုနှစ်တွင် တစ်ကြိမ်တွေ့ရပြီး တစ်ဖန် ၁၈၇၅–ခုနှစ်မှာပင် တစ်ခုတည်းကြွင်းကျန်နေသည့် သစ်ပင်၏အစိတ်အပိုင်းသည် လေမုန်တိုင်းတိုက်ခတ်စဉ် အနောက်ဘက်သို့ ကျိုးကျသွားသည်။ ဤသို့ဖြင့် ဗောဓိပင်အိုကြီးမှာ သေဆုံးသွားခဲ့သည်။ သို့ရာတွင် အစေ့ပေါင်းများစွာ စုဆောင်းထားပြီးဖြစ်၍ လက်ရှိဗောဓိပင် (ပေါ်ပေါက်လာရေး)အတွက် (လဲသွားသည့်)ပင်အိုကြီးနေရာတွင် အစားထိုး (စိုက်ပျိုး)ရန် ဗောဓိပင်ပျိုများ အဆင့်ဆင့် တည်ရှိပြီးဖြစ်သည်။

၁၈၈၀–ခုနှစ်တွင် ကန်နင်ဟမ်သည် အသစ်စိုက်ပျိုးထားသော ဗောဓိပင်အနီးတွင် တစ်မီတာခန့်နက်သည်အထိ တူးရာတွင် အလွန်ရှေးကျသော သစ်ငုတ်အပိုင်းအစများကိုတွေ့ရှိခဲ့ပြီး ယင်းကို သာသင်္ကမင်း ဖျက်ဆီးခဲ့သော ဗောဓိပင် အကြွင်းအကျန်ဟု ယူဆခဲ့သည်။ ရှေး

တွင် ဘုရားဖူးသည် အဓိဋ္ဌာန်စေတီတော် ရာပေါင်း များစွာကို တွေ့ရမည်ဖြစ်သည်။ စက်ဝိုင်းခြမ်းပုံ အမိုးခုံးများနှင့် အပြင်အဆင်မရှိသော စေတီတော်များမှာ ထိပ်ပိုင်းအပြား အမိုးခုံးနှင့်အသေးစိတ် ပန်းပုလက်ရာများ ပါရှိသည့် ပလ္လဝခေတ် စေတီတော်များထက် ပိုမိုရှေးကျသည်။ ပိုမိုသပ္ပာယ်စွာ ထွင်းထုထားသည့် နှောင်းခေတ်လက်ရာ စေတီအချို့ကို ခြံစည်းရိုးလက်ရန်း၏ အတွင်းပိုင်းကျကျ အရှေ့ဘက် တစ်လျှောက် တွေ့နိုင်သည်။

၁၉–ရာစုတွင် ထောင်ပေါင်း များစွာသော ရွှံ့စေတီငယ်များနှင့် အဓိဋ္ဌာန်ကျောက်ပြားများကိုလည်း စေတီပတ်လည်၌ တွေ့ရသည်။ သို့ရာတွင် ယင်းတို့မှာ ယခုအခါ၌ ပျောက်ဆုံးကုန်ပြီဖြစ်သည်။ အဆိုပါ (အဓိဋ္ဌာန်)ကျောက်ပြားများကို မြန်မာနိုင်ငံ ပုဂံနှင့် ပဲခူးမြို့များ၌ တွေ့ရသည်။ ဗိုလ်မှူး တမ်းပဲလ် (Major R.C. Temple)က ယင်းတွေ့ရှိချက်များကို ဤသို့မှတ်ချက်ချသည် 'ဗုဒ္ဓဂယာတွင် ဘုရားဖူးများအတွက် ဤသို့သော ကျောက်ချပ်များ ထုတ်လုပ်သည့် အလုပ်ရုံရှိပြီး ဘုရားဖူးများသည် ထိုခေတ်က ဗုဒ္ဓဘာသာနိုင်ငံ အားလုံးသို့ အဆိုပါပစ္စည်းများကို အမှတ်တရနှင့် ရှိခိုးပူဇော်မည့် အရာများအဖြစ် ယူဆောင်သွားကြပြီး ယင်း(ကျောက်ချပ်)များကို အမိနိုင်ငံပြန်ရောက်သောအခါ ပူဇော်ကိုးကွယ်သည့် နေရာတွင် ထားကြ၏'။ မဟာဗောဓိစေတီတော်၏ တောင်ဘက် တည့်တည့်တွင် ဗုဒ္ဓဂယာ၌ တည်ဆောက်ပြီး စေတီပုထိုးများအနက် အကြီးဆုံးဖြစ်သည့် စေတီတော်တစ်ဆူ၏ အုတ်မြစ်များရှိသည်။ ဟူယင်ဆန် အဆိုအရ ဤစေတီတော်မှာ မူလက ပေ ၂၀၀ မြင့်ပြီး အသောကမင်းကြီး တည်ဆောက်ခဲ့ကြောင်း ဆိုသည်။

## ရတနာဃရစေတီ

စေတီတော်ပတ်လည် ခြံဝင်း၏ အနောက်မြောက်ထောင့်တွင် ရတနာဃရ (ရတနာအိမ်) စေတီတော်တည်ရှိသည်။ ယခုအခါ စေတီတော်၏ နံရံများသာ ကြွင်းကျန်တော့သည်။ မူလစေတီတော်ကို မြတ်ဗုဒ္ဓ (ဗုဒ္ဓသီတင်သုံးရန်)အတွက် နတ်ဒေဝါတို့က တည်ဆောက် ဖန်ဆင်းပေး



ထားသည်။ အပေါ်ပိုင်းကို ပုံမှန်မဟုတ်သော ဂျီသြမေတြီတွင် အသုံးပြုသည့်လိုင်းများ ရုပ်ပုံဒီဇိုင်းများဖြင့် တန်ဆာဆင်ထားသည်။ ထောင့်စွန်းပတ်လည်တွင် ထန်းပင်နှင့် ဟသ်ာပုံပန်းဆွဲများပါရှိသည်။ ပြောင်းရွှေ့နေထိုင်လေ့ရှိသည့် သဘာဝကြောင့် ဟသ်ာရိုင်းကို အလောဘ (တဏှာမရှိခြင်း)၏ သင်္ကေတအဖြစ် ရှေးဦးဗုဒ္ဓဝါဒတွင် အသုံးပြုခဲ့သည်။ ဤအပြင်ဝဇိရာသနကို အသောကမင်းကြီး တည်ဆောက်ခဲ့ပုံရသည်[၁၅]။ ဆန်ချီအရပ်ရှိ ကျောက်လက်ရန်းများပေါ်တွင် အလားတူ ဟသ်ာရုပ်များနှင့် ထန်းပင်ရုပ်များ တွေ့ရသောအချက်က ဤဆက်စပ်မှုကို ထောက်ခံလျက်ရှိသည်။

## ရတနာစင်္ကြံမစေတီ

ဗောဓိပင်မှထွက်ခွာပြီး ဆက်လက်၍ စေတီတော်ကို (လက်ယာရစ်) ပတ်မည်ဆိုလျှင် ဘုရားဖူးသည် ရတနာစင်္ကြံမ စေတီတော်ကို တွေ့ရမည်ဖြစ်သည်။ ဤနေရာသည် ဗုဒ္ဓရှင်တော်မြတ် ဗောဓိဉာဏ်ကို ရရှိပြီးနောက် သုံးပတ်အကြာ ခေါက်တုံ့ခေါက်ပြန် စင်္ကြံလျှောက်နေခဲ့သော နေရာအထိမ်းအမှတ် ဖြစ်သည်။ ဝဇိရာသန၊ ဗောဓိပင်နှင့် ကျောက်လက်ရန်းတို့နည်းတူ ဗုဒ္ဓဂယာ (မဟာဗောဓိ)စေတီ (ပရိဝုဏ်အတွင်း) ရှေးအကျဆုံး အစိတ်အပိုင်းများ ဖြစ်ကြသည်။

ရတနာစင်္ကြံမစေတီသည် (မဟာဗောဓိစေတီတော်) ဘေးတွင် မူလကအရေအတွက် ၁၁–ခုရှိသည့် အုတ်ခုံရှည်တန်းဖြစ်ပြီး အပေါ်က ဆင်ဝင်အမိုးရှိခဲ့သည်။ ယခုအခါတွင် အုတ်ခုံရှည်များကို ကျောက်သားဖြင့် ဖုံးအုပ်လိုက်ပြီး အုတ်ခုံရှည်တန်းတစ်ခုကိုသာ ဖူးတွေ့နိုင်သည်။ အခြား အုတ်ခုံရှည်တန်းတစ်ခုမှာ စေတီတော်မြောက်ဘက်နံရံ အောက်

---

[၁၅] မဟာဗောဓိစေတီတော်အတွင်းရှိ (ရှေးအကျဆုံး) တတိယဝဇိရာသန (ချောမွတ်သည့် လိပ်သည်းကျောက်ပြားပလ္လင်နှင့် အခြေလေးခုပါရှိသော ပလ္လင်ခုံ)မှ ကျောက်တိုင်ပလ္လင်ခုံသည်လည်း အသောကမင်းတည်ဆောက်ခဲ့သော ဝဇိရာသန၏ တစ်စိတ်တစ်ပိုင်း ဖြစ်ပြီး ဤအပြင်ဝဇိရာသနနှင့် ဆက်စပ်မှုရှိကြောင်း စာရေးဆရာကိုယ်တိုင် ရှင်းလင်းချက် ပေးထားပြီးဖြစ်သည်။ ဤစာအုပ် စာ–၁၂၀ မှ အောက်ခြေမှတ်ချက်ကို ရှုပါ။ ဘာသာပြန်သူ)။

တွင် မြုပ်နေသည်။ မူလအုတ်ခုံရှည်တစ်ခုလည်း မပျက်မစီး ကျန်ရှိနေသေးပြီး ရှေးဟောင်းသုတေသနပြတိုက် (ACC No. 46) တွင် ကြည့်ရှုနိုင်သေးသည်။ အုတ်ခုံရှည်၏တိုင်လုံးသည် အနားရှစ်ခုပါရှိပြီး ၎င်းတွင် တင့်တယ်သော အမျိုးသမီးရုပ်ပုံတစ်ခု ထွင်းထုထားသည်။ ကျောက်တိုင်၏ အောက်ခြေတွင် ထွင်းထုထားသည့်စာများမှာ ပန်းရန်ဆရာ၏ အမှတ်အသားဖြစ်ပုံရပြီး ဘီစီ ၁၀၀–ခန့်က လက်ရာဟု ခန့်မှန်းရသည်။

## ကျောက်လက်ရန်း

ဘုရားဖူးသည် မဟာဗောဓိစေတီတော်အား ခြံစည်းရိုးကျောက်လက်ရန်းဖြင့် ကာရံထားသည်ကို သတိပြုမိလိမ့်မည်။ ပထမတွင် ခြံစည်းရိုးကို သစ်သားဖြင့်ပြုလုပ်ခဲ့ပြီး လက်ရှိခြံစည်းရိုးထက် များစွာသေးငယ်သည့် အကျယ်အဝန်းဖြင့် ကာရံထားခဲ့ခြင်းဖြစ်သည်။ ဘီစီ ၁၀၀–ခန့်၌ မူလ(သစ်သား)လက်ရန်းနေရာတွင် ကျောက်လက်ရန်းကို အစားထိုးခဲ့သည်။ ဤရှေးဟောင်း ကျောက်လက်ရန်း အစိတ်အပိုင်းများသည် ယခုအချိန်ထိ မပျက်မစီးကျန်ရှိသေးပြီး ယင်းတွင် ရေးထိုးထားသည့် ကျောက်စာများက (ဤကျောက်လက်ရန်းကို) ဘုရင်မင်းနှင့် ပတ်သက်သည့် အဖွဲ့တစ်ဖွဲ့က လှူဒါန်းခဲ့ကြောင်း ညွှန်ပြသည်။

ကျောက်လက်ရန်းဟောင်းသည် လေးထောင့် ပုံသဏ္ဌာန်ရှိပြီး လက်ရှိမဟာဗောဓိစေတီတော် (လက်ရန်း)နေရာ အကျယ်အဝန်းထက် မဆိုစလောက် ပိုကျဉ်းသည်။ အမှန်စင်စစ် ကန်နင်ဟမ်သည် (ယင်း) ကျောက်လက်ရန်းဟောင်းများ တည်ရှိခဲ့သည့် အုတ်မြစ်အကြွင်းအကျန်ကို (မဟာဗောဓိ)စေတီတော် အုတ်မြစ်များအောက်ခြေ၌ တွေ့ရှိခဲ့သည်။ အေဒီ ၆–ရာစုခန့်တွင် ဤကျောက်လက်ရန်းဟောင်းသည် ပြိုပျက်ပြီး ကျောက်လက်ရန်းအသစ် အစားထိုးခဲ့သည်။ ဤခြံစည်းရိုး ကျောက်လက်ရန်းအသစ်ကို ယခင်ထက် နှစ်ဆမျှကျယ်အောင် ပြန်လည်တည်ဆောက်ခဲ့သည်။ လက်ရန်းဟောင်းနှင့် လက်ရန်းအသစ် ကွဲပြားချက်မှာ အသုံးပြုထားသည့် ကျောက်ဖြင့် ထင်ရှားသည်။ ပထမ လက်ရန်းဟောင်းကို ချောမွတ်သည့် အညိုရောင် သဲကျောက်ဖြင့် တည်ဆောက်



ပြီး လက်ရန်းအသစ်မှာ အတော်ကြမ်းသည့် မီးခိုးရောင် နှမ်းဖတ်ကျောက်ဖြင့် ပြုလုပ်ထားသည်။ ယခုအခါ ကျောက်လက်ရန်းများကို ရှေးဟောင်းသုတေသနပြတိုက်များသို့ ရွှေ့ပြောင်းထားပြီး မူလလက်ရန်းပုံအတိုင်း အတော်ကြမ်းသည့် အင်္ဂတေဖြင့် အစားထိုးပြီးဖြစ်သည်။

ကျန်နေသေးသည့် ကျောက်တိုင်များမှာ အနောက်ဘက်ခြမ်း၏ အနောက်တောင်စွန်းနေရာများရှိ အမှတ် ၄၊ ၇ နှင့် ၉၊ တောင်ဘက်ခြင်း၏ အနောက်တောင်စွန်းရှိ အမှတ် ၁၂၊ ၁၄ နှင့် မြောက်ဘက်ခြမ်းရှိ အဝင်ဂိတ် လက်ရန်းတိုင်များဖြစ်သည်။ ယင်းတို့အနက် နှစ်ခု (အမှတ် ၄ အနောက်နှင့် အမှတ် ၁၂ တောင်) လက်ရန်းများတွင် စိတ်ဝင်စားဖွယ် ရုပ်တုများ ထွင်းထုထားသည်။ ပထမလက်ရန်းတိုင် (အမှတ် ၄ အနောက်)တွင် ဆင်တစ်ကောင်ကို ထိန်းချုပ်နေသည့် အမျိုးသားတစ်ယောက်ပုံ တွေ့ရသည်။ ဤသည်မှာ ဓမ္မပဒ ၃၂၆–ဂါထာကို သရုပ်ဖော်ထားပုံရသည် -

'ရှေးယခင်က ဤစိတ်သည် ၎င်းနှစ်သက်သည့်အတိုင်း
အလိုရှိရာသို့ ပျော်မွေ့သည့် အားလျော်စွာ လှည့်လည်ခဲ့ပြီ။
ဆင်ဦးစီးသည် ဆင်ကို ချွန်းဖြင့် ထိန်းစောင့်သကဲ့သို့
ငါသည် ဤစိတ်ကို အသိပညာဖြင့် ယဉ်ကျေးအောင် ဆုံးမအံ့'။

ဒုတိယလက်ရန်းတိုင် (အမှတ် ၁၂ တောင်) အပြင်ပိုင်း သရုပ်ဖော်ပုံမှာ မိဂဒါဝုန်ရှိ စေတီတော်အတွင်းပိုင်းနေရာကို ကိုယ်စားပြုသည်ဟု ယူဆရသည်။ ကျောက်လက်ရန်းပေါ်ရှိ အခြားပန်းပုလက်ရာများ အကြောင်းကို ရှေးဟောင်းသုတေသနပြတိုက်အခန်းတွင် ဆွေးနွေးပါမည်။

၁၉–ရာစုတွင် ကျောက်လက်ရန်းအများစု ပျောက်ဆုံးကုန်ပြီး အမှိုက်ပုံများအောက်တွင် မြုပ်လျက် ကျန်ရှိနေ သို့မဟုတ် မဟာဗောဓိစေတီတော် ပင်မဝင်ပေါက်၏ ဘယ်ဘက်ရှိ ဟိန္ဒူဘုရားကျောင်း နံရံများ (တည်ဆောက်စဉ်)တွင် အသုံးပြုခဲ့ခြင်း ဖြစ်ဖွယ်သည်။

## အမိဋ္ဌာန်စေတီ(ကျောက်စေတီ)များ

(စေတီတော်မြတ်၏) ခြံစည်းရိုး လက်ရန်းအပြင်ဘက်ရှိ ခြံဝင်းပတ်လည်

တာခန့် အကွာအဝေးရှိ မုချလိန် (Muchalin)ဟု ခေါ်သည့် အလွန်မနက်တော့သော ရေကန်ငယ်ဖြစ်သည်။ ယခု(ဖော်ပြနေသည့်) ရေကန်မှာမူ မဟာဗောဓိစေတီတော်နှင့် အခြား အဆောက်အအုံများအတွက် အုတ်များတစ်သီတစ်တန်းကြီးရရှိရန် တူဖော်ခဲ့ခြင်းဖြစ်ပြီး နောင်တွင် ရေချိုးကန်အဖြစ်လည်း အသုံးပြုခဲ့သည်။ ၁၉–ရာစုကုန်လောက် အထိ ပင် ရေကန်ထဲ၌ မိကျောင်းများရှိခဲ့သည်။

## ရှေးဟောင်းသုတေသနပြတိုက်

ဗုဒ္ဓဂယာရှိ ပန်းပုလက်ရာအများစုကို ၁၉–ရာစုအတွင်း အခြားပြတိုက်များသို့ယူဆောင်ခြင်း သို့မဟုတ် သက်သက်မဲ့ ပျောက်ဆုံးသွားခြင်းတို့ကြောင့် (ဤ)ရှေးဟောင်းသုတေသနပြတိုက်မှာ အနည်းငယ်မျှသာ စုဆောင်းထားနိုင်သည်။ အရေးအကြီးဆုံး ပြသခန်းတစ်ခုမှာ တစ်ချိန်က မဟာဗောဓိစေတီတော်ကို ကာရံခဲ့သည့် ကျောက်လက်ရန်း ဖြစ်သည်။ ယင်းကျောက်လက်ရန်းအများစုကို ပြတိုက်အဝင်ဝတွင် စုစည်းထားပြီးအတွင်း၌ သေးငယ်သော အစိတ်အပိုင်းကို ပြသထားသည်။

ကျောက်လက်ရန်းပေါ်ရှိ ပန်းပုလက်ရာများ၏ အဓိပ္ပာယ်သည် များစွာသောအတွေးအမြင်ကို ဖြစ်ပေါ်စေသည်။ ဘေနိမာဓာဘ ဘရူးဝါး (Benimadhab Barua)အမည်ရှိပုဂ္ဂိုလ်က လက်ရာအများစုသည် ဆယ့်နှစ်ရာသီခွင် အမှတ်သင်္ကေတများကို ကိုယ်စားပြုကြောင်းယူဆသည်။ သို့ရာတွင် ၎င်း၏ထင်မြင်ချက်အများစုမှာ လက်ခံနိုင်ဖွယ်မရှိချေ။ အမှန်အားဖြင့် လက်ရာအများစုမှာ ကျော်ကြားသည့် ဗုဒ္ဓဘာသာကျောင်းတိုက်များ၊ မြတ်ဗုဒ္ဓလက်ထက်တော်က အဖြစ်အပျက်များ၊ နေ့စဉ်ဘဝအဖြစ်အပျက်များ၊ မင်္ဂလာသင်္ကေတများနှင့် အချို့နေရာတွင် ထင်ရှားသည့် ဟိန္ဒူနတ်များ ကိုယ်စားပြုရုပ်ပုံနှင့် ရာသီစက်ဝန်းအမှတ်အသားများကို သရုပ်ဖော်ထားဟန်တူပြီး ထူးခြားသောအစီအစဉ်ဖြင့် ဖွဲ့စည်းထားသည် မဟုတ်ချေ။

ပြတိုက်ပြင်ဘက်မှ ကျောက်လက်ရန်းများပေါ်ရှိ ရှင်းလင်းထူးခြားသည့် လက်ရန်းများအနက် အချို့မှာ ၁) ဂူတစ်ခုထဲမှ ရဟန်းတစ်ပါး ၂)



ထားကြောင်း ဆိုသည်[၁၆]။ မြတ်ဗုဒ္ဓသည် ဗောဓိဉာဏ်ကို ရရှိပြီးနောက် လေးကြိမ်မြောက်သတ္တာဟ (လေးခုမြောက် ရက်သတ္တတစ်ပတ်)ကို အဘိဓမ္မာတရားနှလုံးသွင်းရင်း ဤနေရာတွင် ကုန်လွန်တော်မူခဲ့သည်။ စနစ်တကျထွင်းထုထားသည့် မူလတံခါးမှာ နဂိုမပျက်တည်ရှိဆဲဖြစ်သည်။ သို့ရာတွင် အတွင်း၌ သီတင်းသုံးတော်မူသည့် ဆင်းတုတော်မှာ မကြာမြင့်သေးချေ။

## အနိမိသစေတီ

မဟာဗောဓိစေတီတော် ပင်မဝင်ပေါက်သို့ သွားရာလမ်း၏ ညာဘက်ကုန်းမြင့်ထိပ်တွင် လုံးပတ်တော် တစ်ခုတည်းနှင့် စေတီတော် တစ်ဆူရှိသည်။ ယင်းစေတီသည် မဟာဗောဓိစေတီတော် (နံရံ)တွင်တွေ့ရသော စေတီတစ်ဆူနှင့် ခပ်ဆင်ဆင်တူသည်။ ဤစေတီကား အနိမိသစေတီဟု ထင်ရှားသည်။ ဗောဓိဉာဏ်ကို ရပြီးနောက် တစ်ပတ်အကြာတွင် ဗုဒ္ဓရှင်တော်မြတ်သည် မမှိတ်သောမျက်လုံးဖြင့် ဗောဓိပင်ကို စိုက်ကြည့်ပြီး ထိုင်နေတော်မူခဲ့သည့်နေရာ အထိမ်းအမှတ်ပြုစေတီတော် ဖြစ်ကြောင်း ဆိုစမှတ်ပြုကြသည်။

သို့ရာတွင် ဤ(အနိမိသစေတီတော်)၏ တည်နေရာသည် ဟူယင်ဆန်ပေးသော အချက်အလက်နှင့် ညီညွတ်မှုမရှိချေ။ ဟူယင်ဆန်က အနိမိသစေတီသည် ‘လမ်း၏ဘယ်ဘက် မြတ်ဗုဒ္ဓ စင်္ကြံလျှောက်တော်မူသည့်နေရာ၏ မြောက်ဘက်တွင်’ ရှိကြောင်းဆိုသည်။ ဤသည်မှာ ရတနာဃရစေတီတော်၏ မြောက်ဘက်ဟု ဆိုလိုခြင်းဖြစ်သည်။ ယင်းသို့ဖြစ်ပါက အနိမိသစေတီသည် လက်ရန်း၏ မြောက်ဘက်ဂိတ် အလွန်လောက်တွင်ရှိသည့် ရောမအဆောက်အအုံကြီး တစ်ခု၏ အုတ်မြစ်နေရာဖြစ်မည်သေချာသည်။

---

[၁၆] ရတနာဃရစံအိမ်ဟူသည် ရတနာခုနစ်ပါးအစစ်ဖြင့် တည်ဆောက်ထားသော ပကတိအိမ်မဟုတ်၊ အဘိဓမ္မာခုနစ်ကျမ်းဟူသော ရတနာ ခုနစ်ပါးဖြင့် တည်ဆောက်ထားသောအိမ်ကို တင်စား၍ ခေါ်ဝေါ်ခြင်းဖြစ်သည်။ အဘိ–ဋ္ဌ ၁၊ ၁၃။ (ဘာသာပြန်သူ)။

**အရှေ့တောင်ဘက်ဘုရားကျောင်း**

ဗုဒ္ဓရှင်တော်မြတ်သည် ဗောဓိဉာဏ်ကိုရပြီးနောက် မိမိ၏တရားဒေသနာကို လူအနည်းစုသာ သိမြင်နိုင်စွမ်းရှိလိမ့်မည်ဟု ဆင်ခြင်တော်မူပြီး တရားဓမ္မဟောကြားရန် တွန့်ဆုတ်တော်မူသည်။ (ထိုအခါ) သဟမ္ပတိအမည်ရှိ ဗြဟ္မာကြီး ဗုဒ္ဓရှင်တော်မြတ် ရှေ့တော်မှောက်သို့ ရောက်ရှိလာပြီး စိတ်တော်ကို ပြန်လည်ပြင်ဆင်တော်မူရန် တောင်းပန်သည် 'ရှင်တော်ဘုရား၊ တရားဒေသနာ ဟောကြားတော်မူပါ။ ဤလောက၌ ဉာဏ်မျက်လုံးတွင် တိမ်သလာ အနည်းငယ်သာရှိကြသော ပုဂ္ဂိုလ်တွေ အများကြီးရှိကြပြီး အကယ်၍ တရားဓမ္မကို မကြားနာရလျှင် ထိုပုဂ္ဂိုလ်များ အကျိုးမဲ့မည်ဖြစ်ပြီး တရားဒေသနာဟောတော်မူပါက ထိုပုဂ္ဂိုလ်တွေ ချမ်းသာကြပါလိမ့်မည်ဘုရား' (ဝိ ၃၊ ၅)[၁၇]။

ဗုဒ္ဓရှင်တော်မြတ်သည် သဟမ္ပတိဗြဟ္မာ၏ လျှောက်ထား တောင်းပန်ချက်ကို ဆင်ခြင်တော်မူပြီး နာယူမည့်သူ နားလည်နိုင်သည့် ပုဂ္ဂိုလ်များအား တရားဒေသနာ ဟောကြားတော်မူမည်ဟု ဆုံးဖြတ်တော်မူလျက် 'သေခြင်းမရှိရာ အမတ(အမြိုက်နိဗ္ဗာန်)၏ တံခါးများကို ဖွင့်ထားပါပြီ။ ကြားနာနိုင်သူ အားလုံး ယုံကြည်စွာ တုံ့ပြန်ကြကုန်လော့' ဟု ကြေညာတော်မူသည်။

ဟူယင်ဆန်သည် အထက်ပါအဖြစ်အပျက် ဖြစ်ပေါ်ခဲ့သည့်နေရာတွင် စေတီတော်တစ်ဆူ တည်ထားသည်ကို တွေ့ခဲ့ရသည်။ ယခုအခါတွင် ယင်းစေတီတော်၏ အကြွင်းအကျန်များသည် (မဟာဗောဓိ) စေတီတော်၏ အနီးဝန်းကျင်ရှိ နေရာတော်မြတ်များ၏ အရှေ့တောင်ထောင့်တွင် တည်ရှိဆဲဖြစ်သည်။ ဤစေတီတော်၏ အုတ်ခုံများသည်သာ ကြွင်း

[၁၇] ဗြဟ္မာကြီး လာရောက်တောင်းပန်စေလိုသဖြင့် လောကအား တရားဟောရန် တွန့်ဆုတ်သည့်အကြံ ဖြစ်တော်မူသည်။ အကြောင်းမူ (ထိုခေတ်) လူအပေါင်းသည် ဗြဟ္မာကို အလေးဂရုပြုကြသဖြင့် ဗြဟ္မာတောင်းပန်လျှင် မိမိတရားကို လူထုပိုမိုအလေးအမြတ်ပြုမည်ဟု မြတ်ဗုဒ္ဓသိမြင်တော်မူသောကြောင့်ဖြစ်သည်။ ဤသို့ အကြံဖြစ်ခြင်းမှာ ပွင့်တော်မူပြီး ဘုရားရှင်တိုင်း၏ ထုံးစံဓမ္မတာလည်း ဖြစ်သည် (ဝိ–ဋ ၃၊ ၂၄၂)။ (ဘာသာပြန်သူ)။



ကျန်ပြီး ပလ္လခေတ်လက်ရာ ဗုဒ္ဓဆင်းတုတော်ကြီး တစ်ဆူရှိပြီး ယင်းဆင်းတု၏ ဦးခေါင်းတော်ကို မကြာမီက ပြန်လည် ပြုပြင်ထားသည်။

**အသောကကျောက်စာတိုင်**

စေတီတော်အနီးဝန်းကျင်ရှိ (အထိမ်းအမှတ်) နေရာတော်များ၏ အရှေ့တောင်ယွန်းယွန်းတွင် အသောကကျောက်စာတိုင် အပိုင်းအစတစ်ခုရှိသည်။ ဘာရဟုတ ရုပ်ကြွင်းနှင့် ကုမာရဟုရ (Kumarhur) ကျောက်ချပ်များအရ ထိပ်တွင် ဆင်ရုပ်ပါသည့် အသောကကျောက်စာတိုင်တစ်ခုသည် မူလက စေတီတော်အရှေ့ဘက်ဝင်ပေါက်၏ ညာဘက်ရှိခြံစည်းရိုးလက်ရန်း အပြင်နားလောက်တွင် တည်ရှိကြောင်းဖော်ပြသည်။ သို့ရာတွင် ဖာဟီယန်ရော ဟူယင်ဆန်ပါ အဆိုပါကျောက်စာတိုင်ကို မြင်တွေ့ရကြောင်း ဖော်ပြခြင်းမရှိချေ။ ဤအချက်သည် ယင်းကျောက်စာတိုင်အား ထိုအချိန်ကတည်းက ဖျက်ဆီး သို့မဟုတ် အခြားနေရာသို့ ရွှေ့ပြောင်းခံရကြောင်း ညွှန်ပြသည်။

ယခုဘုရားဖူးများ တွေ့ရသည့် အသောကကျောက်စာတိုင်ကို ဂယာမြို့ရှိ ဂေါလပတ္တာရ (Gol Patthar)အရပ်တွင် တွေ့ရှိရပြီး ၁၉၅၆–ခုနှစ်က လက်ရှိနေရာသို့ ပြောင်းရွှေ့ခဲ့ခြင်းဖြစ်သည်။ ဤကျောက်စာတိုင်သည် မူလက အသောကမင်းကြီး ဗုဒ္ဓဂယာ၌ စိုက်ထူခဲ့သောကျောက်စာတိုင် အစိတ်အပိုင်းဖြစ်သည်မှာ သံသယဖြစ်ဖွယ်မလိုချေ။

**ရေကန်**

အသောကကျောက်စာတိုင်၏ တောင်ဘက် ဆင်ဝင်အမိုးအောက်ကိုဖြတ်၍ လျှောက်သွားပါက ဘုရားဖူးသည် ရာသီအလိုက်လှပသည့် ကြာမျိုးများ ရေပေါ်တွင် ပွင့်လန်းနေသည့် ရေကန်ကြီးတစ်ခုတွေ့ရပေလိမ့်မည်။ ဤရေကန်ကို မုစလိန္ဒအိုင်နှင့် မကြာခဏမှားလေ့ရှိကြသည်။

အနီးအနားရှိအမှတ်အသား သို့မဟုတ် ရေကန်အလယ်၌ မုစလိန္ဒနဂါးက အရိပ်ပေးနေသည့် ဗုဒ္ဓဆင်းတုတော်ပုံ တည်ဆောက်ထားခြင်းတို့က ဤမှားယွင်းစွာနားလည်မှုကို အထောက်အကူမပြုနိုင်ဘဲရှိသည်။ မုစလိန္ဒရေအိုင်သည် အမှန်စင်စစ် ယခုအခါ တောင်ဘက် တစ်ကီလိုမီ

တွင် ဒေဝနာဂရီနှင့် မြန်မာအက္ခရာများဖြင့် ရေးထိုးထားသည်။ ဒုတိယ အဆောက်အအုံနံရံ၌ ပန်းချီဆေးရေးများရှိပြီး မြန်မာအဖွဲ့စေတီတော်ကို ရှိခိုးနေသည့်ပုံ ဖြစ်နိုင်သည်။ သို့ရာတွင် ဝမ်းနည်းဖွယ်ကောင်းသည်မှာ ပန်းချီများကို မကြာမီက ထုံးရည်သုတ်(ဖျက်ဆီး)လိုက်ပြီဖြစ်သည်။

ဝင်ပေါက်အတိုင်းနောက်ဘက်သို့ ပြန်ဆုတ်ခဲ့ပါက ဘုရားဖူးသည် နန်းတော်ထဲသို့ ဝင်ရမည်ဖြစ်သည်။ အဝင်ဝတွင် မဟာန့်၏ ကျားရေခံ ပလ္လင်ရှိသည်။ ၎င်း၏နောက်ဘက်နံရံတွင် အင်္ဂတေဖြင့် စီမံထားသည့် ဗုဒ္ဓဝင်ပန်းပုလက်ရာ အများအပြားရှိသည်။ ယင်းတို့အနက် စိတ်ဝင်စားဖွယ်အကောင်းဆုံးမှာ ခြင်္သေ့စီးပြီး အချွန်သုံးခုပါ လှံတံကိုင်ထားသည့် သီဟနာဒ အဝလောကိတေသွာရပုံဖြစ်သည်။ နန်းတော်တွင်နေထိုင်ကြသည့် ပုဏ္ဏားများမှာ ငွေကြေးရလိုကြသည်။ ရှုပ်အနည်းငယ်ဆိုလျှင် ကောင်းကောင်းလုံလောက်ပါသည်။

ပင်မဝင်ပေါက်အတိုင်း နန်းတော်မှထွက်ပြီး ဘယ်ဘက်သို့လှည့်လျှင် ဘုရားဖူးသည် ဝင်းပတ်လည်တွင် တည်ဆောက်ထားသည့် အထွတ်ပါသည့် ဘုရားကျောင်းစုကို တွေ့နိုင်သည်။ ထိုဝင်းအတွင်း ဗုဒ္ဓဆင်းတုတော်ကြီး ၁၄–ခု သိမ်းဆည်းထားသည်။ သို့သော် စိတ်ဝင်စားစရာအကောင်းဆုံး ဆင်းတုတော်မှာ မကြာမီက ခိုးခံလိုက်ရ (သဖြင့် ပျောက်ဆုံးသွား)ပြီ ဖြစ်သည်။ ဘယ်ဘက်မှ ဆင်းတုတော်တစ်ဆူမှာ အပေါ်ပိုင်းမျှသာ ကြွင်းကျန်ပြီး အေဒီ၆ါးရာစုလက်ရာ ဖြစ်သည်။ ထို့ကြောင့် ဗုဒ္ဓဂယာ၌ တွေ့ရှိပြီး ဆင်းတုများအနက် ရှေးအကျဆုံးဖြစ်သည်။ ဆင်းတုတော်သည် ကြောက်ရွံ့ ခြင်းကင်းမဲ့ပုံကို ဖော်ပြသည့် ဟန်(အဘယမုဒြာ)ဖြင့် လက်တော်တစ်ဘက်ကို မြှောက်ထားလျက် မဏ္ဍိတော်နောက် ဘက်တွင် ထူးခြားရှည်မျောသည့် ရောင်လျှံစက်ဝန်းပါရှိသည်။ ခြံဝင်း၏အဆုံးတွင် ဗုဒ္ဓခြေတော်ရာများနှင့် ရုပ်ပွားတော်များရှိသည့် ကျောက်သားပလ္လင်ကြီးတစ်ခုရှိသည်။ ထို့နောက်ဘုရားဖူးသည် ပင်မဝင်းအတွင်းသို့ ပြန်သွားပြီး မြစ်သို့ ရောက်သွားသည့် အရှေ့ဘက်တံခါးမှ ထွက်ခွာသွားရမည်ဖြစ်သည်။ ဝင်းတံခါးညာဘက်ရှိ ချိုင့်ဝင်နေ



အတောင်ပါသည့်သမင် ၃) ခြင်္သေ့တစ်ကောင်နှင့်အတူ သခ်မ်းကျောင်းငယ်အတွင်းမှ ရဟန်းတစ်ပါး ၄) မြင်းခေါင်းပါ အမျိုးသမီးတစ်ယောက်နှင့် အတူရှိနေသည့် အမျိုးသားတစ်ယောက် ၅) ဇ၄–ကွက်ပါ ခုံပေါ်၌ ကျားထိုးနေသည့် အမျိုးသားနှစ်ယောက် ၆) မြည်း သို့မဟုတ် သမင်(၏အသံ)ကို နားထောင်နေသည့် အမျိုးသမီးတစ်ယောက်နှင့် ကလေးငယ် - ဤသည်မှာ ရောဟနတမိဂဇာတ်ကို သရုပ်ဖော်ထားခြင်းဖြစ်နိုင်သည်၊ ၇) အတောင်ပါသည့်ဆင် ၈) ရေသူမပုံတို့ပါဝင်သည်။ ခြံစည်းရိုးအနားသပ် ကျောက်လက်ရန်း (ထုပ်တန်း)များ တစ်လျှောက်တွင် ရေသူယောကျ်ားများသည် ၎င်းတို့၏လက်ကို ပင်လယ်သတ္တဝါကြီးများ၏ ပါးစပ်ထဲသို့ ထည့်ထားကြသည်။ (ထို့ပြင်) စိတ်ကူးယဉ် သတ္တဝါကြီးများနှင့် ပန်းပွင့်ပုံစံများ ဖြစ်သည်။

ပြတိုက်အတွင်းရှိ ကျောက်လက်ရန်းများပေါ်တွင် ထွင်းထုထားသည့် လက်ရာများမှာ ၁) ဣန္ဒသာလလိုဏ်ဂူတွင် ဝတ်ပြုနေကြသည့် ပုဂ္ဂိုလ်နှစ်ယောက် ၂) ချစ်တင်းနှောနေသည့် စုံတွဲ ၃) ကျောက်လက်ရန်းများဖြင့် ကာရံထားသည့် ဗောဓိပင်တစ်ပင် ၄) မြင်းကိုယ်နှင့် လူခေါင်းသတ္တဝါ - ခနုခေါ်သည့် အိန္ဒိယ မိဂသီနက္ခတ်ပုံဖြစ်ဖွယ်ရှိသည်၊ ၅) ဗောဓိပင်ကို ရှိခိုးနေကြသည့် ဆင်သုံးကောင် ၆) ကြာပန်း ခူးနေကြသည့် လှေပေါ်မှအမျိုးသားများ – ဤသည်မှာ သုတ္တနိပါတ် ဂါထာအမှတ် ၂–ကို သရုပ်ဖော်ထားခြင်းဖြစ်ဖွယ်ရှိသည်၊ ၇) ဟိန္ဒူနတ်သမီးဂဇလက္ခမီး ၈) ဓမ္မစကြာကို ဥပနာထားသည့် စေတီတစ်ဆူ ၉) ဇေတဝန်ဥယျာဉ်ကို အနာထပိဏ်သူဌေးက ဝယ်ယူနေပုံ ၁၀) အတောင်ပါသည့်မြင်း ၁၁) ပင်လယ်သတ္တဝါကြီးကို စီးနေသည့် အတောင်နှင့်ယောကျ်ား ၁၂) သန်လျက်နှင့်ကာကို ကိုင်ထားသည့် စစ်သူကြီးတစ်ယောက်တို့ပါဝင်သည်။ ထုပ်တန်းများပေါ်၌ အလယ်တွင် အချို့လူခေါင်းများ၊ အချို့ တိရစ္ဆာန်ရုပ်များ ပါရှိသည့် ကြာဝန်းပုံအဝိုင်းများဖြစ်သည်။

ပြတိုက်ကို နံနက် ၁၀–နာရီမှ ညနေ ၅–နာရီအထိဖွင့်ပြီး သောကြာနေ့တွင် ပိတ်သည်။

## ခေတ်သစ်ကျောင်းတိုက်များ

များစွာသော ဗုဒ္ဓဘာသာနိုင်ငံများနှင့် ဗုဒ္ဓဝါဒဂိုဏ်းကွဲများသည် ဗုဒ္ဓဂယာတွင် ကျောင်းတိုက်များ တည်ဆောက်ကြသည်။ များသောအားဖြင့် ၎င်းတို့နိုင်ငံ၏ ထင်ရှားသောအစဉ်အလာဟန်များဖြင့် တည်ဆောက်ကြခြင်းဖြစ်သည်။ ယင်းအဆောက်အအုံများသည် ဤအိန္ဒိယတိုက်ငယ် (ဗုဒ္ဓဂယာ)အား တစ်မူထူးခြားသည့် နိုင်ငံတကာစိတ်ဝင်စားမှုကို ပေးလျက်ရှိသည်။ ယင်းကျောင်းတိုက်များအနက် ရာစုနှစ်အစောပိုင်းက အနာဂါရိကဓမ္မပါလ တည်ဆောက်ခဲ့သည့် မဟာဗောဓိအသင်းတိုက်မှာ ရှေးအကျဆုံးဖြစ်သည်။ ဤအဆောက်အအုံနှင့် ကပ်လျက်ညာဘက်ရှိ အဆောက်အအုံမှာ ဂေလုပ္ပ (Gelugpa) ဂိုဏ်းဝင် တိဗက်ဘုန်းကြီးကျောင်းဖြစ်သည်။ ဤကျောင်းတိုက်၏ ဘေးနံရံများတွင် တိဗက်ရိုးရာဟန်ဖြင့် မြတ်ဗုဒ္ဓ လက်ထက်က ဖြစ်ရပ်များနှင့် အိန္ဒိယမဟာယာနနှင့် တိဗက်ဝဇိရယာနဂိုဏ်းဝင် ပညာရှိကြီးတို့၏ ရုပ်ပုံများကို ရေးဆွဲထားသည်။ ဘုရားခန်းတွင် သပ္ပာယ်လှပသည့် မေတ္တာယျဘုရားလောင်းဆင်းတုရှိသည်။

လမ်းအောက်ဘက်တွင် သေးငယ်သော်လည်း အတော်အတန်ဆွဲဆောင်မှုရှိသည့် တရုတ်ဘုရားကျောင်းနှင့် ၎င်း အလွန်တွင် ၁၉၅၀–ခုနှစ်များဆီက ယိုဒယားဘုရင်တည်ဆောက်ထားခဲ့သည့် ဝပ်ဗုဒ္ဓဂယာ (ယိုးဒယား)ကျောင်းရှိသည်။

ထောင့်စွန်းနေရာကိုပတ်ပြီး ရှေ့ကိုဆက်သွားပါက ဘုရားဖူးသည် သစ်လွင်တောက်ပစွာ ဆေးခြယ်ထားသည့် ဘူတန်ဘုရားကျောင်းသို့ ရောက်လိမ့်မည်။ အတွင်းရှိပန်းချီများမှာ ကလေးစာအုပ်များတွင် သရုပ်ဖော်ထားသလောက် အဆင့်သာရှိပြီး ဆွဲဆောင်မှုမရှိချေ။ မိဂဒါဝုန်ရှိ ကိုဆေဆုနိုင်ဆု (Kosetsu Nosu)၏ ပန်းချီလက်ရာတစ်စိတ်တစ်ဒေသကို ကူးယူထားခြင်းဖြစ်သည်။ ဤကျောင်းအလွန်တွင် ဂျပန်ဘုရားကျောင်းနှင့် လမ်းအဆုံးတွင် သဲကျောက်ဖြင့် ဆောက်လုပ်ထားသည့် ၂၄–မီတာအမြင့်ရှိ ဗုဒ္ဓဆင်းတုတော်ရှိသည်။



ဂယာသို့သွားသည့်လမ်းဘေးရှိ မြို့၏အခြားတစ်ဘက် မဟန့်နန်းတော်အလွန်လောက်တွင် မြန်မာကျောင်းရှိသည်။ ဤကျောင်း၏ ဘုရားခန်းတွင် ဗုဒ္ဓလက်ထက်တော်အခါက ထင်ရှားသည့် အဖြစ်အပျက်ဇာတ်လမ်းများကို ရေးဆွဲထားသည့် ထူးခြားသည့် ပန်းချီကားများရှိသည်။

## မဟန့်နန်းတော်

မြစ်ကမ်းတစ်လျှောက် အတော်အတန်ဝေးကွာသည်အထိ နေရာယူထားသော အုတ်တံတိုင်းကြီးကာရံထားသည့် ဤနန်းတော်ကား မဟန့် (ဟိန္ဒူဘုန်းကြီး)၏ နေရာဖြစ်၏။ ဘာသာရေးနှင့် ပတ်သက်သော ရသေ့ရဟန်းတစ်ပါး၏အိမ် ဖြစ်သော်လည်း ဤနန်းတော်သည် ငန်းများ၊ ကြက်များနှင့် ဦးတည်ရာမဲ့သွားလာနေသည့် နွားများ သိုလှောင်သည့်နေရာ ဖြစ်နေပြီး လယ်ထွန်စက်များ ဝင်ထွက်သွားလာနေသည်။

ဤနန်းတော်ကို ဗုဒ္ဓဂယာ၌ ဗုဒ္ဓဘာသာဝင်များ မရှိတော့သည့်အချိန်က ခမ်းနားစွာတည်ဆောက်ခဲ့ခြင်းဖြစ်သည်။ တည်ဆောက်သူများသည် ဗုဒ္ဓဝါဒဆိုင်ရာ ပန်းပုဆင်းတုတော်များစွာကို ဤအဆောက်အဦအတွင်းသို့ ယူဆောင်ခဲ့ကြသဖြင့် ဗုဒ္ဓဘာသာဝင်များ စိတ်ဝင်စားသည့်နေရာလည်းဖြစ်သည်။ နန်းတော်ဝင်းသို့ ဝင်သွားသည့် ပင်မဝင်ပေါက်၏ တစ်ဘက်ရှိ နံရံကလိုင်ပေါက်များတွင် သေးငယ်သော်လည်း သပ္ပာယ်လှသည့် ဗုဒ္ဓဆင်းတုတော်များရှိသည်။ လက်ဝဲဘက်ရှိ ဆင်းတုတော်တစ်ဆူစီ၏ ဦးခေါင်းမှာ မကြာမီက ကျိုးပျက်သွားပြီဖြစ်သည်။

ပင်မဂိတ်ပေါက်မှဝင်၍ အတန်ငယ်ဆက်သွားပြီး ညာဘက်ရှိ ပထမဝင်ပေါက်အတိုင်း သွားသော် ဘုရားဖူးသည် အုတ်တံတိုင်းကြီးဖြင့် ကာရံလျက် စားသောက်ပင်များ စိုက်ပျိုးထားသည့် ဥယျာဉ်တစ်ခုတွေ့ရမည်။ ဤဥယျာဉ်အဆုံး ခပ်လှမ်းလှမ်းတွင် မြန်မာ့ဟန်ဆင်ဝင်ဆောင် (တန်းလျား) နှစ်ခုတွေ့နိုင်သည်။ ယင်းအဆောင် နှစ်ခုအနက် ပထမအဆောင်တွင် မဟာဗောဓိစေတီကို ပြုပြင်ရန် (မြန်မာဘုရင်) မင်းတုန်းမင်း လွှတ်လိုက်သည့်အဖွဲ့ စိုက်ထူခဲ့သောကျောက်စာ ရှိသည်။

ယင်းကျောက်စာကို ချောမွတ် ဖြူဖွေးသည့် စကျင်ကျောက်ပြား






သော ကလိုင်ပေါက်တွင် အလွှန်ဆွဲဆောင်သည့် တန္တရ(ဝါဒ)ဆိုင်ရာ စုန္ဒနတ်ရုပ်ရှိသည်။

## နေရဉ္ဇရာမြစ်

ဗုဒ္ဓဂယာဝန်းကျင်တွင် ဆွဲဆောင်မှုအကောင်းဆုံးသော သဘာဝအထိမ်းအမှတ်နေရာတစ်ခုဟု ဆိုရမည့်အရာမှာ နေရဉ္ဇရာမြစ်ဖြစ်သည်။ ယခုအခါ နီလဂျန် (Nilajan) တစ်ခါတစ်ရံ လီလာဂျန် (Lilajan) ဟုခေါ်ဝေါ်သည်။ ကျယ်ဝန်းပြီး သဲထူထပ်လျက် မိုးရာသီမှာပင် အလွန်မနက်သည့် ဤနေရဉ္ဇရာမြစ်သည် မြစ်ကမ်းတွင်ထိုင်ရန် သို့မဟုတ် ညနေချမ်း အချိန်တွင် လမ်းလျှောက်ရန် နှစ်သက်စရာကောင်းသည့် နေရာတစ်ခုဖြစ်သည်။ မြတ်ဗုဒ္ဓသည် ဗုဒ္ဓဂယာတွင် သီတင်းသုံးတော်မူစဉ်က နေရဉ္ဇရာမြစ်တွင် အကြိမ်ကြိမ် ရေသုံးသပ်တော်မူခဲ့သည်။

ရှေးဟောင်းအဋ္ဌကထာကျမ်း (ဥဒါန–ဋ္ဌ၊ ၂၄)၌ နေရဉ္ဇရာဟူသော အမည်သည် နှစ်သက်ဖွယ်ကောင်းသော (နေလံ) သို့မဟုတ် တစ်ပုဒ်စီ အဓိပ္ပာယ်ယူ၍ အပြာရောင်(နီလ)နှင့် ရေ(အလ)က ဆင်းသက်လာသော အမည်ဖြစ်ကြောင်း ဖွင့်ဆိုသည်။ အပြာရောင် ကြည်လင် အေးမြသောရေ စီးဆင်းနေသောကြောင့် နေရဉ္ဇရာအမည်ရကြောင်းလည်း ဖော်ပြသည်။ မြစ်၏နေရာအချို့ကို ဒေသခံများက အိမ်သာအဖြစ်အသုံးပြုကြသော်လည်း ကောင်းမွန် သင့်မြတ်ဆဲဖြစ်သည့် ဖွင့်ဆိုချက်ပင်ဖြစ်သည်။ ဗုဒ္ဓဂယာမှ မြစ်အောက်ဘက် ကီလိုမီတာ အနည်းငယ်အကွာတွင် နေရဉ္ဇရာမြစ်သည် မောဟနမြစ်နှင့်ဆုံပြီး ဖလဂူ (Falgu) မြစ်ဖြစ်ပေါ်လာလျက် ယင်း (ဖလဂူ)ဖြစ်သည် ဂယာမြစ်အထိ စီးဆင်းပြီး ဟိန္ဒူတို့က မြင့်မြတ်သောမြစ်အဖြစ် ယုံကြည်ကြသည်။

## စေတီကုန်း

ဗုဒ္ဓဂယာမှ တည့်တည့် မြစ်ဟိုဘက်ကမ်းတွင် ရွာငယ်တစ်ရွာ ပတ်ဝန်းနေပြီး မြက်ပင်များ ပေါက်ရောက်နေသည့် တောင်ကမူတစ်ခုရှိသည်။ ယင်းသည် ရှေးဟောင်းစေတီတော်ပျက် တည်ရှိသည့်နေရာဖြစ်သည်။

ယနေ့ခေတ်တွင် ယင်းတောင်ကုန်းစေတီကို သူဌေးသမီး သုဇာတာ၏ အိမ်ဟောင်းနေရာတွင် တည်ဆောက်ထားသည်ဟု ဆိုကြသည်။ သို့ရာတွင် ဤအဆိုနှင့်ပတ်သက်၍ သမိုင်းအထောက်အထားရော အစဉ်အလာ အထောက်အထားပါ မရှိချေ။ ဟူယင်ဆန်က ဤစေတီတော်ကို ဖော်ပြသော်လည်း ဗုဒ္ဓ၏အတိတ်ဘဝ အဖြစ်အပျက်တစ်ခုကို အထိမ်းအမှတ်ပြုတည်ထားသော စေတီဖြစ်ကြောင်း ပြဆိုသည်။

ဤစေတီ၏အရှေ့တောင်ဘက် တစ်ကီလိုမီတာခန့်အကွာတွင် ဆွဲဆောင်သည့်ပတ်ဝန်းကျင်ဖြင့် ဆောက်လုပ်ထားသော ဟိန္ဒူဘုရားကျောင်း တစ်ခုရှိသည်။ သို့ရာတွင် နောင်အခါ ဤဒေသရှိပုဏ္ဏားတို့က ဤနေရာသည် ဥရုဝေလ ကဿပတို့ကို ဗုဒ္ဓရှင်တော်မြတ်က မိမိအယူဝါဒကို လက်ခံကျင့်သုံးစေသည့် နေရာဖြစ်ကြောင်း ဆိုကြသည်။ ဤသည်မှာ ကမ္ဘာလှည့်ခရီးသည်များနှင့် ဘုရားဖူးများကို ဆွဲဆောင်ရန် ရည်ရွယ်ချက်ဖြင့် ပြောဆိုကြသည်မှာ သေချာသည်။ ဤပြောဆိုချက်များအတွက် သမိုင်းအထောက်အထားရော အစဉ်အလာအထောက်အထားပါ မတွေ့ရချေ။

**ဗုဒ္ဓဂယာသို့**

ဗုဒ္ဓဂယာသည် ဂယာမြို့မှ ၁၂–ကီလိုမီတာ အကွာအဝေးတွင်ရှိသည်။ ဘတ်စ်ကား သို့မဟုတ် ရိန့်ချား (လန်ချား)ဖြင့် လွယ်ကူစွာ သွားရောက်နိုင်သည်။ ဂယာခေါင်းစဉ်ပါသည့် အခန်းကို ရှုပါ။

## ဗုဒ္ဓဂယာဝန်းကျင်

**ပရဗောဓိ**

မဟာသစ္စကသုတ် (မ ၁၊ ၂၉၉) တွင် ဗုဒ္ဓသည် မိမိဗောဓိဉာဏ်ကို မရမီအချိန်က ခြောက်နှစ်တိုင်တိုင် လေ့ကျင့်အားထုတ်ခဲ့သော ပြင်းထန်သည့် အကျင့်အကြောင်းကို ရှင်းလင်းပီပြင်စွာ ဟောကြားတော်မူသည်။ သို့ရာတွင် မြတ်ဗုဒ္ဓသည် ဤအချိန်အတွင်း မည်သည့်နေရာတွင် နေထိုင်ခဲ့သည်ဆိုခြင်းနှင့်ပတ်သက်၍မူ အရိပ်အမြွက်မျှ ဖော်ပြထားခြင်း မရှိချေ။ ရာဇဂြိုဟ်ဝန်းကျင်တွင် နေထိုင်ခဲ့ပြီး နောင်တွင်ဂယာ၌ နေထိုင်ခဲ့သည်ဟူ၍သာ ဆိုနိုင်သည်။ ဟူယင်ဆန်ခေတ်က အစဉ်အလာအရ ဘုရားလောင်းမင်းသား သိဒ္ဓတ္ထသည် ဗုဒ္ဓဂယာသို့ သွားရောက်ရန် ဆုံးဖြတ်ချက်မချမီ ပရဗောဓိ (Pragbodhi) 'ဗောဓိဉာဏ်မတိုင်မီ' ဟုခေါ်သည့် တောင်ကုန်းဘေးတွင်ရှိသည့် လိုဏ်ဂူ၌ နေထိုင်ခဲ့ကြောင်း ပြောဆိုကြသည်။ ဤအစဉ်အလာပြောဆိုချက်နှင့် ပတ်သက်၍ သံသယဖြစ်ဖွယ်မလိုချေ။ ယခု ဒေါင်ဂေဆွာ (Don-geswa) ဟုခေါ်သည့် ပရဗောဓိသည် ဗုဒ္ဓဂယာ၏ အရှေ့မြောက်ဘက် ခြောက်ကီလိုမီတာခွဲလောက် အဝေးတွင်တည်ရှိသည်။ ဤတောင်ကုန်းသည် မြောက်ဘက်နှင့် တောင်ဘက်သို့ ခြောက်ကီလိုမီတာခန့်ရှည်လျားသည့် တောင်ထွတ် ကွင်းဆက်များ၏ အစိတ်အပိုင်းတစ်ခုဖြစ်သည်။

ချောက်နက်တစ်ခု၏ အောက်ခြေပိုင်းရှိ တောင်ကုန်းပေါ်သို့ (အတက်ခရီး) တစ်ဝက်လောက်တွင် ဖော်ရွေရင်းနှီးတတ်သည့် တိဗက်ရဟန်းတော်များ ထိန်းသိမ်းထားသော ဘုန်းကြီးကျောင်းငယ် တစ်ခုရှိသည်။ ဤဘုန်းကြီးကျောင်း အပေါ်တည့်တည့်လောက်တွင် ဘုရားလောင်းသိဒ္ဓတ္ထ အရိပ်အာဝါသခိုလှုံခဲ့သည်ဟု အစဉ်အလာအရသိရသည့် လိုဏ်ဂူရှိသည်။ ဤဘုန်းကြီးကျောင်းမှ လမ်းကြမ်းအတိုင်း ပရဗောဓိ တောင်ထွတ်ပေါ်သို့ လျှောက်လှမ်းပါက ဘုရားဖူးသည် ဒေသဝန်းကျင်တစ်ခွင်လုံး၏ လှပခမ်းနားသည့် ရှုမျှော်ခင်းကို ရရှိပေလိမ့်မည်။

ဤတောင်ထွတ်သည် ကျောက်ဆောင်ထူထပ်ပြီး သစ်ပင်များ မပေါက်ရောက်ချေ။ အပေါ်တွင် လင်းတငှက်များ ပျံဝဲနေသည်က တိတ်ဆိတ်မှုကို အထူးပြုနေသလားဟု ထင်ရသည်။ ဘုရားဖူးသည် အောက်ဘက်၌ တိဗက်ဘုန်းတော် ကြီးကျောင်း၏ ရှုပ်ထွေးလှသော အုတ်မြစ်များနှင့် တောင်ကုန်းထိပ်တွင် ရှေးဟောင်းစေတီပုထိုး အပျက်အစီးအများအပြားကို မြင်တွေ့ရမည်ဖြစ်သည်။ ပရဗောဓိ၏ ငြိမ်းချမ်းသော ပတ်ဝန်းကျင်၊ ၎င်း၏ တောရိုင်းသဘာဝအလှနှင့် ဂူထဲ၌တွေ့ကြုံ

မူသောသုတ္တန် အမြောက်အမြား[၁၈] ကို ထောက်ရှု၍ ဗုဒ္ဓသည် အခါများစွာ ပင် မိဂဒါဝုန်သို့ ကြွရောက်တော်မူခဲ့ကြောင်း ခန့်မှန်းရသည်။

ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက် ရာစုနှစ်ပေါင်း များစွာအတွင်း မိဂဒါဝုန်သည် ဗုဒ္ဓဝါဒဆိုင်ရာ အသိပညာကျွမ်းကျင်မှုနှင့် အနုပညာတို့အတွက် အောင်မြင်ရှင်သန်သည့် ဗဟိုဌာနတစ်ခုအဖြစ်သို့ တိုးတက်သွားခဲ့သည်။ ဟူယင်ဆန် လက်ထက်တွင် မိဂဒါဝုန်၌ဘုန်းကြီး ကျောင်းနှင့် ဘုရားစေတီပေါင်းများစွာရှိပြီး ရဟန်းသံဃာ ၁၅၀၀–ခန့်ရှိ သည်။ ရှေးဟောင်းသုတေသနဆိုင်ရာ စုံစမ်းလေ့လာမှုများအရ မိဂဒါ ဝုန်တွင် မောရိယခေတ်မှသည် ၁၂–ရာစု၏ နောက်ဆုံးနှစ်ဝက်တိုင် အောင် ဗုဒ္ဓဝါဒဆိုင်ရာလုပ်ရှား (ဆောင်ရွက်)မှု အထောက်အထားများ တွေ့ရှိရသည်။ မိဂဒါဝုန်သည် အေဒီ ၁၀၁၇–ခုနှစ်၌ ဗာရာဏသီမြို့ကို တ္ကနိဝါဒီစစ်သွေးကြွ ဃဇနီ (Ghazni) ဝင်ရောက်လုယက် တိုက်ခိုက်ချိန် အတွင်း ဆိုးဆိုးရွားရွား ပျက်စီးသွားပုံရသည်။ သို့သော် မိဂဒါဝုန်သည် အနည်းဆုံးနောက်ထပ် ရာစုနှစ်တစ်ခုနီးပါး ဆက်လက် ရှင်သန်လှုပ် ရှားနိုင်အောင် ကောင်းစွာပြန်လည် နာလန်ထူခဲ့သေးသည်။ သို့ရာတွင် နောက်ဆုံး အချိန်၌မူ မိဂဒါဝုန်သည် မီးလျှံထခဲ့သည်။ ဤအချက်နှင့် ပတ်သက်၍ ကနန်ငဟမ်က ဤသို့မှတ်ချက်ချသည် 'မိဂဒါဝုန်အနီး တူး ဖော်စဉ်အတွင်း မီးလောင်ကျွမ်းသည့် အရိပ်လက္ခဏာများ တွေ့ရသည်။

[၁၈] မြတ်ဗုဒ္ဓ မိဂဒါဝုန်၌ ဟောကြားတော်မူခဲ့သော သုတ္တန်များမှာ ဓမ္မစက္ကပ္ပဝတ္တနသုတ္တ (သံ ၃၊ ၃၆၈)၊ အနတ္တလက္ခဏသုတ္တ (သံ ၂၊ ၅၄)၊ ပထမမာရပါသသုတ္တ (သံ ၁၊ ၁၀၅)၊ ဒုတိယ မာရပါသသုတ္တ (သံ ၁၊ ၁၀၆)၊ ဓမ္မဒိန္နသုတ္တ (သံ ၃၊ ၃၅၅)၊ သစ္စဝိဘင်္ဂသုတ္တ (မ ၃၊ ၂၉၀)၊ သစေတနသုတ္တ (အံ ၁၊ ၁၀၈)၊ ကဋုဝိယသုတ္တ (အံ ၁၊ ၂၈၃)၊ ဒုတိယသမယသုတ္တ (အံ ၂၊ ၂၈၁)၊ ဟတ္ထိသာရိပုတ္တသုတ္တ (အံ ၂၊ ၁၄၄)၊ မဇ္ဈေသုတ္တ (အံ ၂၊ ၃၄၉) စသည်တို့ဖြစ်သည်။

ထို့ပြင် အရှင်မဟာကောဋ္ဌိကမေးသည်ကို အရှင်သာရိပုတ္တရာဖြေကြားသည့် နဠကလာပီ သုတ္တ (သံ ၁၊ ၃၃၄)၊ သုတဝန္တသုတ္တ (သံ ၂၊ ၁၃၇)၊ သီလဝန္တသုတ္တ (သံ ၂၊ ၁၃၅) စသည်နှင့် အရှင်သာရိပုတ္တရာ မေး သည်ကို အရှင်မဟာကဿပဖြေကြားသော ပရံမရဏသုတ္တ (သံ ၂၊ ၁၃၅)၊ အနောတ္တပ္ပီသုတ္တ (သံ ၁၊ ၄၀၀) စသော သုတ္တန်များမှာ ဤမိဂဒါဝုန်၌ ဖြစ်ပေါ်ခဲ့သည်။ ထို့ပြင် ကောသမ္ဗီ၌ ဗြဟ္မဒဏ်ပေးခံရပြီးနောက် မြတ်စွာဘုရား၏ ဖွားဘက်တော် အရှင်ဆန္န မထေရ်က မိမိအားသြဝါဒ ပေးတော်မူကြပါရန် မထေရ်ကြီးများထံ ချဉ်းကပ်တောင်းပန် သည်မှာ ဤမိဂဒါဝုန်တွင်ဖြစ်သည်။ ဆန္နသုတ် (သံ ၂၊ ၁၀၇)။ (ဘာသာပြန်သူ)။



ခံစားရနိုင်သော စွမ်းအင်ကြီးမားသည့် လက်တွေ့အခြေအနေက ထိုနေ ရာသို့ သွားရောက် ကြည့်ရှုသင့်ကြောင်း ဖော်ပြလျက်ရှိသည်။

### သွားရောက်ရန်

ဗုဒ္ဓဂယာမှ ကိရိယာမရွာသို့ မြစ်ကြောင်းအတိုင်းသွားသည့် ဂယာလမ်း ဟောင်းမှ ရိန့်ချား (လန်ချား) ငှားပါ။ ဤကျေးရွာသည် ဒုတိယသံမဏိ ဓာတ်ကြိုးလိုင်း မြစ်ကိုဖြတ်သွားသည့် နေရာတွင်ရှိသည်။ (ရေမရှိ သို့ မဟုတ် ရေနည်း)မြစ်ကို ဖြတ်သန်း လမ်းလျှောက်လျက် စပါးကွင်း များကို ကျော်ဖြတ်ပြီး တောင်ကုန်းပေါ်သို့ ဆက်သွားပါ။

# ၄။ မိဂဒါဝုန်

*ထိုအခါ၌ ငါဘုရားသည် ခရီးဒေသစာရီ လှည့်လည်တော်မူရင်း ဗာရာဏသီမြို့အနီး ဣသိပတနမိဂဒါဝုန်သို့ အချိန်မီ ရောက်ရှိသွားပြီး မိဂဒါဝုန်တွင် ပဥ္စဝဂ္ဂီငါးဦးတို့နှင့် တွေ့ဆုံခဲ့၏ (မ ၁၊ ၂၂၇)။*

ဗုဒ္ဓရှင်တော်မြတ်သည် ဗုဒ္ဓဂယာတွင် ဗောဓိဉာဏ်ကို ရရှိတော်မူပြီးနောက် မိမိရှာဖွေတွေ့ရှိခဲ့သည့် (ဘဝသံသရာ) လွတ်မြောက်ရေး အမှန်တရားများကို သင်ကြားရန် ဆုံးဖြတ်တော်မူသည်။ မြတ်ဗုဒ္ဓ၏ဆရာဟောင်း (တော်စပ်ဖူးသူ) အာဠာရကာလာမနှင့် ဥဒကရာမပုတ္တတို့မှာ နှစ်ဦးလုံး ကွယ်လွန်သွားနှင့်ကြပြီဖြစ်၍ မိမိ၏အဖော်မိတ်ဆွေဟောင်း (ပဥ္စဝဂ္ဂီ)ငါးဦးကို ရှာဖွေ၍ ၎င်းတို့အား သစ္စာဓမ္မကို ဟောကြားရန် ဆုံးဖြတ်တော်မူသည်။ အဘိဉာဏ်တန်ခိုးတော်အားဖြင့် ဗုဒ္ဓရှင်တော်မြတ်သည် ထို (ရဟန်းငါးဦး)တို့သည် သာရနာထ (Sarnath)ဟု ယခုခေတ်ခေါ်ဝေါ်သည့် ဣသိ ပတန မိဂဒါဝုန် (မိဂဒါယ)၌ ရှိကြကြောင်း သိမြင်တော်မူသဖြင့် ၎င်းတို့နှင့် တွေ့ဆုံရန် ထွက်ခွာတော်မူသည်။ ထိုအဖော်ရဟန်းငါးဦးတို့သည် ဗုဒ္ဓလောင်းလျာအနေဖြင့် ခန္ဓာကိုယ်ကို ညှဉ်းပန်းမှု (အတ္တကိလမထ) ပြင်းထန်သည့် ကျင့်စဉ်ကို စွန့်လွှတ်လိုက်သဖြင့် ကာဂုဏ်စည်းစိမ်ကို ပြန်လည်ခံစားပြီဟု ယူဆလျက် ဗုဒ္ဓလောင်းလျာအား စွန့်ပစ်ခဲ့ကြသည် (မ ၁၊ ၂၂၇)။

ဗုဒ္ဓရှင်တော်မြတ် မိဂဒါဝုန်သို့ ချဉ်းကပ်မိသောအခါ ရဟန်းငါးဦးတို့သည် မြတ်ဗုဒ္ဓကို တွေ့မြင်ကြစဉ် မြတ်ဗုဒ္ဓအား (ရိုသေလေးစားသည့်အနေဖြင့်) နေရာမှ မထမိရန် သို့မဟုတ် နှုတ်မဆက် (မကြိုဆို)ကြရန် ၎င်းတို့အချင်းချင်း တိုင်ပင်ဆုံးဖြတ်ထားကြသည်။ သို့ရာတွင် ဗုဒ္ဓရှင်တော်မြတ်ပိုမို နီးကပ်လာသောအခါ ဗုဒ္ဓ၏မျက်နှာတော်၌ လုံးဝငြိမ်းချမ်းသည့်သွင်ပြင်ကို ကြည်ညိုသွားကြပြီး တစ်ယောက်ပြီးတစ်ယောက် နေရာမှထကြသည်။ ပထမတွင် ရဟန်းငါးဦးတို့က ဗုဒ္ဓရှင်တော်မြတ်



မြွက်ဟတော်မူသည့်အတိုင်း (ဗုဒ္ဓသည်) ဗောဓိဉာဏ်ကို (အမှန်တကယ်) ရပြီးသူဖြစ်ကြောင်း ယုံကြည်ရန် ငြင်းဆိုကြသည် 'ယခင်ကငါသည် သင်တို့အား ဤကဲ့သို့ပြောကြားခဲ့ဖူးပါသလား' ဟု မြတ်ဗုဒ္ဓက ပဥ္စဝဂ္ဂီတို့ကို မေးမြန်းသည်။ ၎င်းတို့က မပြောကြားဖူးပါကြောင်း ဝန်ခံကြပြီး ဗုဒ္ဓရှင်တော်မြတ်၏ တရားကို နာယူရန်ဆုံးဖြတ်ကြသည် (မ ၁၊ ၂၂၈)။ ဤသို့ဖြင့် ယခုအခါ တရားစကြာကို လည်စေခြင်း (ဓမ္မစက္ကပဝတ္တန)ဟုခေါ်သည့် သုတ္တန်ဖြင့် ပထမဆုံးအဖြစ် ကမ္ဘာလောကအား ကောင်းမြတ်သော တရားဓမ္မကို ဟောကြားတော်မူသည်။

မကြာမြင့်မီအချိန်၌ ဗုဒ္ဓရှင်တော်မြတ်သည် ဒုတိယမြောက် အတ္တမရှိ (အနတ္တလက္ခဏ)သုတ္တန်ကို ဟောကြားတော်မူပြန်သည်။ ၎င်းနောက်တွင် ကောဏ္ဍည၊ ဘဒ္ဒိယ၊ ဝပ္ပ၊ မဟာနာမနှင့် အဿဇိဟူသော ရဟန်းငါးဦးတို့အားလုံး ရဟန္တာဖြစ်သွားကြသည်။ ယင်းနောက် (မကြာမီ) မြတ်ဗုဒ္ဓ၏ ဟောကြားချက်ကို နာယူရခြင်းကြောင့် ချမ်းသာသည့် သူကြွယ်တစ်ယောက်၏သားဖြစ်သူ ယသနှင့် ၎င်း၏မိတ်ဆွေငါးဆယ်တို့ ရဟန်းဖြစ်လာကြသည်။ ၎င်းနောက် ဗုဒ္ဓရှင်တော်မြတ်သည် ထိုရဟန္တာအရှင်မြတ်တို့အား ထိုထိုအရပ်ဒေသတို့၌ တရားဓမ္မကို ဖြန့်ဖြူးရန် မိန့်မြွက်တော်မူသည် 'ရဟန်းတို့၊ လူများစွာ၏ ကောင်းကျိုးအလို့ငှာ၊ လူများစွာ၏ ချမ်းသာအလို့ငှာ၊ လောကအား သနားစောင့် ရှောက်ခြင်းငှာ၊ နတ်နှင့်တကွသော လူအပေါင်း၏ အစီးအပွားကောင်းကျိုးချမ်းသာအလို့ငှာ ခရီးထွက်ကြလော့။ တစ်နေရာတည်းသို့ နှစ်ယောက်မသွားကြနှင့်။ အစအလယ်အဆုံး သုံးပါးလုံး၌ လှပကောင်းမွန်သော တရားဒေသနာကို ဟောကြားကြလော့။ လုံးဝပြည့်စုံစင်ကြယ် မြင့်မြတ်သောဘဝကို အက္ခရာအားဖြင့်ရော အနက်အဓိပ္ပာယ်အားဖြင့်ပါ ရှင်းပြကြလော့' (ဝိ ၃၊ ၂၇)။

ဤသို့ဖြင့် ဓမ္မသည် မိဂဒါဝုန်တွင် စတင်ခဲ့ပြီး ကမ္ဘာမြေအဆုံးသို့တိုင်ခရီးနှင်ခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ်သည် ဗောဓိဉာဏ်ကို ရပြီးနောက် ပထမဝါကို မိဂဒါဝုန်တွင် ကုန်လွန်ခဲ့ပြီး ဤ(မိဂဒါဝုန်)၌ဟောကြားတော်

**မူလဂန္ဓကုဋိတိုက်**

ဤဘုရားကျောင်းကို မိဂဒါဝုန်တွင် ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးတော်မူစဉ်အတွင်း မူလဂန္ဓကုဋိ (အဆောက်အအုံငယ်) နေရာတွင် တည်ဆောက်ထားသည်။ ထို့ကြောင့် ဤအမည် မူလဂန္ဓကုဋိကို ရခြင်းဖြစ်သည်။ နှောင်းခေတ် ရာစုနှစ်များတွင် မူလဂန္ဓကုဋိသည် အဆောက်အအုံကြီးအဖြစ်သို့ တိုးတက်ပြောင်းလဲသွားခဲ့သည်။ ဟူယင်ဆန်သည် ဤအဆောက်အအုံကိုတွေ့မြင်ပြီး ဤသို့ဆိုသည် 'ရောမဝင်းကြီးထဲ၌ အမြင့်ပေ ၂၀၀–ခန့်မြင့်သည့် ဘုရားကျောင်းတစ်ခုရှိ၏။ အမိုးပေါ်တွင် ထွင်းထုထားသည့် ရွှေရောင်သရက်သီးပုံ တစ်ခုရှိ၏။ အဆောက်အအုံ၏အုတ်မြစ်နှင့် လှေကားတို့မှာ ကျောက်သားပကတိဖြင့် ပြုလုပ်ထား၏။ မျှော်စင်များနှင့် ကလိုင်ငယ်များကိုသာ အုတ်များဖြင့် ပြုလုပ်ထား၏။ နံရံကလိုင်ငယ်များမှာ လေးဘက်လုံး၌ ဆက်တိုက် လိုင်းတန်းတစ်ရာဖြင့် စီမံထား၏။ ကလိုင်တိုင်းတွင် ဗုဒ္ဓရှင်တော်မြတ်၏ ရွှေရောင်ဆင်းတုတော် တစ်ဆူစီရှိ၏။ ဘုရားကျောင်း၏အလယ်တွင် ဗုဒ္ဓကြေးဆင်းတုတော်တစ်ဆူရှိ၏။ ယင်းဆင်းတုတော်သည် ပကတိအရွယ်ရှိပြီး တရားစကြာကိုလည် (ဟောကြား)နေသည့်ပုံကို သရုပ်ဖော်ထား၏'။ နံရံများ၏ထုထဲမှုက မူလဂန္ဓကုဋိသည် ဟူယင်ဆန် ခန့်မှန်းခဲ့သည့်အတိုင်း ဖြစ်နိုင်ကြောင်း ညွှန်ပြနေသည်။ နံရံတွင်မြုပ်နေသည့် ပန်းပုရုပ်ပါ ကျောက်တုံး အပိုင်းအစဟောင်းများသည် ယင်း(မူလဂန္ဓကုဋိ) အဆောက်အအုံအား ယခင် အဆောက်အုံဟောင်း အစိတ်အပိုင်းများကို ပြန်သုံးပြီး အနည်းဆုံးတစ်ကြိမ် တည်ဆောက်ခဲ့ကြောင်း ညွှန်ပြသည်။ ဘုရားကျောင်း၏ လက်ရှိပုံသဏ္ဌာန်မှာ ဂုတ္တခေတ်ဦးပိုင်းပုံ သဏ္ဌာန်တည်ဆောက်ထားခြင်းဖြစ်သည်။

မူလဂန္ဓကုဋိတိုက်၏ အနောက်ဘက် ကပ်လျက်တွင် ရှိသည့် အဓိဋ္ဌာန်စေတီငယ်များအကြားမှ ဓမ္မစက္ကပ္ပဝတ္တနသုတ္တန်လာ စာသားများ ရေးထွင်းထားသည့် ကျောက်ထီး အပိုင်းအစများ တွေ့ရှိရသည်။ ၎င်းစာမှာ 'ရဟန်းတို့၊ မြင့်မြတ်သော (အရိယ)သစ္စာတရား လေးပါး ရှိ



မီးလောင်ကျွမ်းထားသည့် တိုင်များနှင့် တစ်ဝက်တစ်ပြက် လောင်ကျွမ်းထားသည့် ဂျုံစပါးများကို ကျွန်ုပ်ကိုယ်တိုင်ပင် တွေ့ရသည်။ (ကျွန်ုပ်တွေ့ရသည့် ပစ္စည်းများနှင့်) အလားတူ ပစ္စည်းများကို မေဂျာ ကစ်တိုး (Major Kitto)လည်း တွေ့ရှိခဲ့သည်။ ထို့ပြင် (မေဂျာကစ်တိုးသည်) ကျောက်တိုင်များ၊ ထီးများနှင့် ဆင်းတုများ၌ မီးလောင်ကျွမ်းသည့် အထောက်အထားများကိုလည်း (တွေ့ရသည်)။ ၎င်းတူးဖော်စဉ် အတွင်း ရရှိခဲ့သည့် တွေ့ရှိချက်များအရ မေဂျာကစ်တိုး၏ စိတ်ထဲ၌ စွဲထင်နေသည့် နောက်ဆုံးတွင် မီးရှို့ခံရပြီး အကြီးအကျယ် ပျက်စီးခဲ့ရသည်ဟူသော ထင်မြင်ချက်သည် ၎င်း(မေဂျာကစ်တိုး)က ကျွန်ုပ် (ကန်နင်ဟမ်) အား ''ရဟန်းတော်များ၊ ဘုန်းကြီးကျောင်းများ၊ ဆင်းတုများ အားလုံး တစ်ပြိုင်နက် မီးရှို့ဖျက်ဆီးခြင်းခံခဲ့ရ၏။ အချို့နေရာများတွင် အရိုးများ၊ သံ၊ တိုင်၊ ဆင်းတုများစသည်တို့ အရည်ပျော်ပြီး ရောမအပုံကြီးဖြစ်၏။ ဤဖြစ်ရပ်သည် တစ်ကြိမ်မက ဖြစ်ပျက်ခဲ့၏''ဟု စကားလုံးအနည်းငယ်ဖြင့် ကောက်ချက်ချပြီး အကျဉ်းချုပ်ဆိုသည်အထိ ရှင်းလင်းတိကျ၏'။

မိဂဒါဝုန်သည် ဗုဒ္ဓဝင်နေရာတော်များ အားလုံးထက် ပိုမိုစောစီးစွာ လူအများအာရုံစိုက်လာပြီး တူးဖော်မှုအများစုမှာ သိပ္ပံနည်းမကျခဲ့သဖြင့် မိဂဒါဝုန်၏ အနုပညာရတနာအမြောက်အမြား ပျက်စီးဆုံးရှုံးကုန်သည်။ ၁၇၉၄–ခုနှစ်တွင် ဂျာဂတ် ဆင်း (Jagat Singhe) အမည်ရှိသူသည် ဓမ္မရာဇိက စေတီကို ဖြိုဖျက်ပစ်လိုက်ပြီး ဓမ္မေကစေတီမှ ထူးခြားသည့် ကျောက်တုံး အများအပြားကို ပြောင်းရွှေ့ (ဖယ်ရှား)ပစ်ခဲ့သည်။ မည်သည့်အချိန်က ပြုလုပ်ခဲ့သည်ဟု အတိအကျ မသိနိုင်သော်လည်း မိဂဒါဝုန်မှ ပန်းပုရုပ်ထွင်းကျောက်တုံးများသည် ဗာရာဏသီရှိ မူဆလင်ပလီကျောင်းများစွာ၏ နံရံများ၌ မြုပ်နေသည်ကို တွေ့ရှိရသည်။ ၁၉၅၀–ခုနှစ်မတိုင်မီက ဗာရာဏသီမြို့မှ ကီလိုမီတာ ၈၀–ခန့် အဝေးရှိ ခါလိဆပူရ (Khalispur) ရွာအနီး တံတားတစ်ခုပြိုကျသောအခါ မိဂဒါဝုန်မှဟု ယူဆရသည့် ပန်းပုလက်ရာ အများအပြား အင်္ဂတေအတွင်း၌ တွေ့ရပြီး ထိုနေရာတွင် (ယနေ့တိုင်) အထင်အရှားရှိနေဆဲဖြစ်သည်။

ကန်နင်ဟမ်သည် ၎င်း၏ ၁၈၃၅–၃၆ ခုနှစ်တူးဖော်မှုများအတွင်း ၎င်းတွေ့ရှိခဲ့သည့် ပန်းပုလက်ရာများစွာကို ကာလကတ္တားသို့ ဂရုတစိုက် ရွှေ့ပြောင်းခဲ့သည်။ ယင်း (ကာလကတ္တား)ရှိ အိန္ဒိယပြတိုက်တွင် ထို(ပန်းပုလက်ရာ)များကို ယနေ့တွေ့မြင်နိုင်သေးသည်။ သို့ရာတွင် ကန်နင်ဟမ် မရွှေ့ပြောင်းနိုင်ခဲ့သည့် လှည်းအစီး ခြောက်ဆယ်တိုက်မျှလောက်သော ပန်းပုလက်ရာများကိုမူ ဗာရာဏသီမြို့ရှိ တံတားတစ်ခု တည်ဆောက်သောအခါတွင် အုတ်မြစ်များအဖြစ် အသုံးချပစ်လိုက်ကြသည်။ မိဂဒါဝုန်၌ မေဂျာကစ်တိုး တူးဖော်စဉ်အတွင်း သူ(ကစ်တိုး)သည် ဗာရာဏသီရှိ ဘုရင်မ ကောလိပ်တည်ဆောက်မှု လုပ်ငန်းကိုလည်း ကြီးကြပ်နေရသဖြင့် ကောလိပ်၏တစ်စိတ်တစ်ဒေသကို မိဂဒါဝုန်မှ သဲကျောက်ဖြင့် တည်ဆောက်ခဲ့သည်ဟု ယုံကြည်ရသည်။ မိဂဒါဝုန်၌ ၁၉၀၄–ခုနှစ်၊ ၁၉၀၇–ခုနှစ်နှင့် တစ်ဖန် ၁၉၁၄–၁၅ ခုနှစ်များတွင် သင့်တင့်ကောင်းမွန်စွာ တူးဖော်မှုများပြုလုပ်ခဲ့သည်။

ယနေ့ခေတ်တွင် ခေတ်သစ်ဘုရားဖူးသည် မိဂဒါဝုန်အား ကောင်းစွာစောင့်ရှောက်ထားသည့် ဥယျာဉ်များ၊ ဘေးမဲ့ ပန်ခြံများနှင့် မဇ္ဈိမဒေသရှိ ဗုဒ္ဓဝင်နေရာတော်အားလုံးအနက် အငြိမ်းချမ်းဆုံး အသာယာဆုံးနေရာများတွင် တစ်ခု အပါအဝင်အဖြစ် မြင်တွေ့နိုင်သည်။

## ကြည့်ရှုဖွယ်

### အသောကကျောက်စာတိုင်

မူလက ဆယ့်နှစ်မီတာမြင့်ခဲ့ပြီး ယခုပြတိုက်တွင် တွေ့နိုင်သည့် ခြင်္သေ့ရုပ်ခေါင်း ဆောင်းမိုးထားသော ခမ်းနားလှသည့် အသောကကျောက်စာတိုင်သည် ဤ(ကျောက်စာတိုင်) အနီးအနားတွင် ဖြစ်ပေါ်ခဲ့သော အရေးကြီးဖြစ်ရပ် (ဓမ္မစကြာ တရားဟောကြားမှု)နှင့် သင့်လျော်ပတ်သော အထိမ်းအမှတ်တစ်ခု ကေနပ်ပင်ဖြစ်သည်။ ပထမ စာနှစ်ကြောင်းမရှိတော့သဖြင့် မပြည့်စုံသည့်ကျောက်စာကို ဤသို့ဖတ်ရ၏ '... သံဃာသည် မပြိုကွဲနိုင်၊ ရဟန်းယောကျ်ားဖြစ်စေ၊ ရဟန်းမိန်းမဖြစ်စေ သံဃာကိုသင်းခွဲသူ မည်သူမဆိုအား အဖြူရောင်ပိတ်စများ ဝတ်ပစ်ရမည် ဖြစ်ပြီး ကျောင်းတိုက်မှ အခြား တစ်ပါးနေရာ၌ နေစေရမည်။ ဤအမိန့်ကို ဘိက္ခု ဘိက္ခုနီအဖွဲ့အစည်းအတွင်း သိစေရမည်။ နတ်တို့ချစ်မြတ်နိုးခြင်းခံရသည့် (မင်းကြီး)က ဤသို့ဆို၏ ''ဤကျောက်စာ၏ မူပွားတစ်ခုကို ကျောင်းတိုက်၏ ဆင်ဝင်အနီးတွင် ထားစေ။ အခြားတစ်မူကို လူဒကာဒကာမများအား ပေးစေ။ ဥပါသကာများသည် (သံဃာဥပုသ်ပြုသည့်) ဥပုသ်နေ့တိုင်း ဤကျောက်စာပါအမိန့်ကို ၎င်းတို့ (ဥပါသကာများ) ကိုယ်တိုင် နားလည်စေရန် (ကျောင်းတိုက်သို့) လာရောက်ရမည်။ ဥပုသ်နေ့တိုင်း မဟာမတ္တ (အမတ်ကြီး) အသီးသီးသည် ဤကျောက်စာ (အမိန့်)ကို ကြားနိုင်ရန်နှင့် အမှန်အတိုင်းနားလည်ရန် ကျောင်းတိုက်သို့သွားရမည်။ သင် (အမတ်ကြီး)၏ စီရင်ပိုင်ခွင့် ကျယ်ပြန့်သလောက် သင်(အမတ်)သည် ဤအမိန့်စာ သက်ရောက်မှုအတွက် အမိန့်ချမှတ်ရမည်။ ခံတပ်(မြို့ရိုး)အတွင်းရှိ မြို့သူမြို့သား ခရိုင်သူခရိုင်သားများ အားလုံး တွင် ဤထုတ်ပြန်မှု အကျိုးသက်ရောက်ရန် အမိန့်တစ်ရပ်ရှိသည်'။

ဤကျောက်စာပါအမိန့်ကို အသောကသည် တတိယသံဂါယနာတင်ပြီးနောက် မကြာမီ ကောင်းစွာ ထုတ်ပြန်ခဲ့ခြင်းဖြစ်နိုင်သည်။ အစဉ်အလာအရ ဤတတိယသံဂါယနာအတွင်း ကွဲပြားလိုသည့် ဘိက္ခု ဘိက္ခုနီများကို သံဃာအတွင်းမှ နှင်ထုတ်ခဲ့ကြောင်းသိရသည်။ မဆိုစလောက်သာကွဲပြားသည့် ဤပြန်တမ်းနှင့် အလားတူ ပြန်တမ်းများကို ဆန်ချီနှင့် အဘာဟာဘတ်မြို့များ၌ တည်ရှိသော ကျောက်စာများ၌လည်း တွေ့မြင်နိုင်သည်။ ၁၉၀၄–ခုနှစ်က မိဂဒါဝုန်တွင် တွေ့ရှိခဲ့သည့် ကျောက်စာတိုင်ထိပ်ပိုင်း၏ အကျိုးသည် ယင်း၏ ပကတိအခြေအနေအတိုင်း တည်ရှိဆဲဖြစ်သည်။ (ဤအချက်သည်) အောက်သို့ ကျိုးကျသွားခြင်းကြောင့် အစိတ်စိတ်အမြွှာမြွှာ ကွဲသွားသည် မဟုတ်ဘဲ ပြင်းထန်သည့် အင်အားတစ်ခုဖြင့် အထိခံရသည်ကို ညွှန်ပြသည်။ (ဤသည်မှာ) မူလဂန္ဓကုဋီတိုက်၏ အထွတ်က ထို(အသောကကျောက်စာတိုင်)ပေါ်ကို ကျိုးကျခြင်း ဖြစ်ဖွယ်ရှိသည်။





ပေ၏။ အဘယ်လေးပါးတို့နည်းဟူမူ - ဆင်းရဲခြင်းအမှန်တရား၊ ဆင်းရဲဖြစ်ကြောင်း အမှန်တရား၊ ဆင်းရဲငြိမ်းကြောင်းအမှန်တရား၊ ဆင်းရဲငြိမ်းရာ (နိဗ္ဗာန်)သို့ရောက်ကြောင်း အမှန်တရားတို့ ဖြစ်ပေ၏' ဟုဖြစ်သည်။ အေဒီ ၃-ရာစုဟု ခန့်မှန်းရသည့် ဤကျောက်စာကို ပါဠိဘာသာဖြင့် ရေးထိုးထား၏။ ထိုအချိန်က မိဂဒါဝုန်တွင် ပါဠိတိပိဋကကို အသုံးပြုခဲ့ကြောင်း ထင်ရှားသည်။ ဤစိတ်ဝင်စားဖွယ် ကျောက်စာကို ယခုအခါ မိဂဒါဝုန်ပြတိုက်တွင် ပြသထားသည်။

## အသောကခေတ် ကျောက်လက်ရန်း

မူလဂန္ဓကုဋိ၏ တောင်ဘက်တွင် မူလက ဓမ္မရာဇိကစေတီတော်ထပ်တွင် တည်ရှိခဲ့သည့် ကျောက်လက်ရန်းရှိသည်။ ဤထူးခြားသည့် ကျောက်လက်ရန်းကို ချုနာရသဲကျောက် တစ်တုံးတည်းဖြင့် ထွင်းထုထားပြီး မောရိယခေတ် ကျောက်ဆစ်လက်ရာ၏ အဆင့်မြင့် တောက်ပချောမွတ်သည့် လက္ခဏာများ တွေ့ရသည်။ ကျောက်လက်ရန်း၏ ထောင့်များရှိ ကွင်းများ၌ အပြန်အလှန်အားဖြင့် စေတီတော်ထီးရိုးတွင် ချိတ်ဆက်မည့် ကွင်းဆက်များတပ်ဆင်ထားသည်။

## ဓမ္မရာဇိကစေတီ

အသောကကျောက်စာတိုင်နှင့် ဤပင်မစေတီတော်ကြီးတို့ နီးကပ်စွာတည်ရှိခြင်းသည် ဤနေရာတော်မှာ ဗုဒ္ဓရှင်တော်မြတ်၏ ပထမဦးဆုံးတရား ဓမ္မစကပ္ပဝတ္တနသုတ္တန်ကို ဟောသည့်နေရာကို အထိမ်းအမှတ်ပြုသည့် ဓမ္မရာဇိကစေတီဖြစ်ကြောင်း သေချာစေသည်။ ဟုယင်ဆန်ဖူးမြော်ရစဉ်က ဤစေတီသည် မီတာ ၃၀-မက မြင့်သည်။ တစ်ချိန်က တင့်တယ်တော်မူခဲ့သည့် ဤ (ဓမ္မရာဇိကစေတီ) အဆောက်အအုံ၏ အုတ်မြစ်များသည်သာလျှင် ယခုအချိန်၌ ဝမ်းနည်းဖွယ်ရာ ကျန်ရှိသေးတော့သည်။ ၁၇၉၄-ခုနှစ်က ဤဒေသဆိုင်ရာ မဟာရာဇာဖြစ်သူ ဂျဂတ်ဆင်းသည် ထိုအချိန်အတွင်း ဗာရာဏသီတွင် တည်ဆောက်နေသည့် ဈေး (အဆောက်အအုံ)တစ်ခုအတွက် ဆောက်လုပ်ရေးပစ္စည်းရယူရန် (ဤစေတီတော်ကို) ဖြိုဖျက်ခိုင်းခဲ့သည်။ (ဖြိုဖျက်ရေး) လုပ်ငန်းအရှိန် ရ

နေချိန်တွင် ဓာတ်တော်ကြုတ်ပါသည့် ကျောက်သေတ္တာကြီးတစ်ခုနှင့် စာတန်းရေးထိုးထားသည့် ဗုဒ္ဓဆင်းတုတစ်ဆူ တွေ့ရှိခဲ့သည်။ ကြုတ်ထဲမှ မီးလောင်ကျွမ်းထားသည့် အရိုး(ဓာတ်တော်)များကို ဂင်္ဂါမြစ်ထဲသို့ မျှောပစ်လိုက်ပြီး ကျောက်သေတ္တာမှာမူ ကာလကတ္တားရှိ အိန္ဒိယပြတိုက်အတွင်း ဖုံထူထပ်သည့် အခန်းကျဉ်းကလေးများ တစ်နေရာတွင် တွေ့နိုင်သေးသည်။ (ဓာတ်တော်)ကြုတ်ကား ပျောက်ဆုံး သွားခဲ့သည်။

နှစ်ကာလ အတန်ကြာပြီးနောက် ကန်နင်ဟမ်သည် ဤဆင်းတုတော်အကြောင်း ကြားသိရသောအခါ ရေးထားသည့်စာတန်းကို ဖတ်ရှုနိုင်ရန် ယင်းဆင်းတုတော်အား ရှာပုံတော်ဖွင့်ခဲ့သည်။ နောက်ဆုံး၌ ကန်နင်ဟမ် အောင်မြင်သွားသည်။ ယင်း(ဆင်းတု)သည် တရားဟောတော်မူဟန် ဗုဒ္ဓဆင်းတုတော်ဖြစ်ကြောင်းတွေ့ရှိရပြီး ရေးထားသည့် စာတန်းတွင် စေတီတော်ကို ပြန်လည်ပြုပြင်ပြီး ဆီမီးတိုင်များနှင့် (စေတီတော်ကို) တန်ဆာဆင်သည့် ခေါင်းလောင်းများ လှူဒါန်းခဲ့သူ ဘဂီလီဘုရင်တစ်ပါးကို ဖော်ပြထားသည်။ ကန်နင်ဟမ်သည် စေတီတော်ကို ဖြိုဖျက်စဉ်က တွေ့ရှိခဲ့သည့် ကျောက်သေတ္တာကိုလည်း ပြန်လည်ရရှိရန် စွမ်းနိုင်ခဲ့သည်။

## ဗဟုဂံပုံစေတီ

အသောကကျောက်စာတိုင် အနောက်တည့်တည့်တွင် မောရိယခေတ်လက်ရာ စေတီငယ်တစ်ဆူ၏ အုတ်မြစ်ရာများရှိသည်။ ခေတ်ကာလရေးကျသည့်အချက်နှင့် အသောကကျောက်စာတိုင်ကို မျက်နှာပြုထားသည့်အချက်တို့ကြောင့် ဤစေတီကို (အသောက)မင်းကြီးကိုယ်တိုင် တည်ဆောက်ခဲ့သည်မှာ သေချာသည်။ ဗုဒ္ဓဂယာရှိ ကျောက်လက်ရန်းတွင် စေတီပုံစံတစ်ခု ရေးဆွဲဖော်ပြထားပြီး ယင်းစေတီသည် ဤဗဟုဂံပုံစေတီ အနေအထားကို ကောင်းစွာ ပုံဖော်ပေးပြီး ဤစေတီကိုပင်ကိုယ်စားပြု ရေးဆွဲထားခြင်းလည်း ဖြစ်နိုင်သည်။ ဤစေတီ၌ ပတ်ပတ်လည်လက်ယာရစ် လှည့်လည်နိုင်သော လူသွားလမ်းပါရှိလျက် ရှည်လျားပြီးထုတ်ချင်းထွင်း ခန်းမတစ်ခု (ပုံစံ)ဖြစ်သည်။ စည်ပိုင်းပုံ အမိုးခုံး



ရှိသည်။ ခန်းမအဆုံး၌ရှိသော စေတီတစ်ဆူဟုဆိုခြင်းထက် မဟာရဋ္ဌပြည်နယ်ရှိ ဗဟုဂံဂူဘုရားကျောင်းကဲ့သို့ပင် ဤစေတီသည် ဓမ္မစကြာပုံ စက်ဝိုင်းဘီးပါရှိသည့် ကျောက်စာတိုင်ကို ဌာပနာထားခြင်းလည်း ဖြစ်နိုင်သည်။

၁၉၀၄–ခုနှစ်ဆီက ဤစေတီကို တူးဖော်စဉ်အတွင်း ချူနာရသဲကျောက်ဖြင့်ပြုလုပ်ပြီး မောရိယခေတ် အချောကိုင်လက်ရာနှင့် စိတ်ဝင်စားဖွယ် ပန်းပုရုပ်ပါ အကျိုးအပဲ့အများအပြားတွေ့ရှိခဲ့သည်။ ယင်းပန်းပုအပိုင်းအစများတွင် မဟာဆန်သည့် လူဦးခေါင်းပုံနှင့် အချို့တွင် သရဖူဆောင်းထားသည့် လူဦးခေါင်းပြတ်ပုံများပါရှိပြီး ဘုရင်အသောကနှင့် ၎င်း၏မိသားစု သို့မဟုတ် နောက်လိုက်အခြွေအရံများ မိဂဒါဝုန်၌ဘုရားရှိခိုးနေကြသည့် ဆေးရောင်ခြယ်ရုပ်ပုံ အပိုင်းအစများ ဖြစ်ဖွယ်ရှိသည်။ ယင်းပန်းပုလက်ရာအချို့ကို ရှေးဟောင်းသုတေသနပြတိုက် (မိဂဒါဝုန်)တွင် တွေ့နိုင်ပြီး အခြားအများစုကိုမူ ဒေလီမြို့၌ အမျိုးသားပြတိုက်၌ ကြည့်ရှုနိုင်သည်။ ဤဗဟုဂံပုံစေတီမှာ မောရိယခေတ်နောက်ပိုင်းတစ်ချိန်၌ မီးရှို့ဖျက်ဆီးခြင်းခံခဲ့ရပြီး အခြားအဆောက်အအုံသစ် ကို (မီးလောင်အဆောက်အအုံ)ပေါ်၌ (ပြန်လည်) တည်ဆောက်ခဲ့သည်။

## ဂုတ္တခေတ် ဘုရားကျောင်း

မူလဂန္ဓကုဋီဝိဟာရသို့ သွားသည့် ပင်မလမ်း၏တောင်ဘက်တွင် ယခုအခါ အင်္ဂတေအမိုးဖြင့်ပြုပြင်ထားသည့် ရှေးဟောင်း ဘုရားကျောင်းတစ်ခုရှိသည်။ (ပန်းပု)ထွင်းထုထားသည့် နီညိုရောင်မြေအုတ်ဖြင့် ပြုလုပ်ထားသော ဤဘုရား ကျောင်းသည် စိတ်ဝင်စားဖွယ်ကောင်းလှ၏။ အကြောင်းမူ ဂုတ္တခေတ် စတုရန်းလေးခုပါစေတီ (ပဉ္စာယန)များအနက်တစ်ခုနှင့်တူသောကြောင့်ဖြစ်သည်။ ယင်းစေတီပုံစံမှာ ယခုအခါတစ်ခုမျှမကျန်ရှိတော့သဖြင့် ယင်းစေတီတော် အဆောက်အအုံပုံစံ မည်သို့ရှိမည်ကို (ဤစေတီက) တစ်စေ့တစ်စောင်းဖော်ပြနေသည်။ အထပ်နှစ်ထပ်ရှိပြီး ထောင့်တိုင်းတွင် မျှော်စင်များ၊ တန်ဆာဆင်ထားသည့် မှန်ကူကွက်ပုံ ပြတင်းပေါက်များနှင့် တံခါး၏အခြားတစ်ဘက်တွင် တစ်ပိုင်း

ငါးရာထက်မနည်း ကုန်ကျခြင်းတို့ကြောင့် မည်သည့် ဓာတ်တော်ကိုမျှ မရရှိခဲ့ချေ။

ဓမ္မေကစေတီကို ပထမမောရိယခေတ်တွင် တည်ဆောက်ခဲ့ပြီး ယနေ့ဘုရားဖူးများ မြင်တွေ့နိုင်သည့် ကျောက်သရိုး (အင်္ဂတေသရိုး) မှာမူ ဂုတ္တခေတ်လက်ရာဖြစ်သည်။ ဓမ္မေကစေတီတော်၏ အရှေ့မြောက်ဘက် ကပ်လျက်တွင် အဓိဋ္ဌာန်စေတီငယ် အစုအဝေးရှိသည်။ ယင်းတို့အနက်တစ်ခုမှာ အပြည့်အစုံနီးပါးလောက်ရှိပြီး ဂုတ္တခေတ်ဓမ္မေကစေတီတော်၏ ပုံသဏ္ဌာန်နှင့်ပတ်သက်၍ ကောင်းသောအတွေးအမြင် တစ်ရပ်ကို ပေးသည်။

## ဓမ္မစက္ကရာဇိနကျောင်းတိုက်
## (ကျောင်းဆောင်အမှတ် ၁)

ထိုအပျက်အစီးများ၏ မြောက်ဘက် တစ်လျှောက်တွင် မိဂဒါဝုန်၌ ဆောက်လုပ်ပြီးသမျှ နောက်ဆုံးနှင့် အမှန်ပင် အကြီးကျယ်ဆုံးကျောင်းဆောင်တစ်ခု၏ အကြွင်းအကျန်များရှိသည်။ ဤကျောင်းတော်ရာအနီးတွေ့ရှိရသည့် လှပစွာ ရေးထွင်းထားပြီး ယခုပြတိုက်တွင်ရှိသည့် စာတန်းတစ်ခုသည် ဤကျောင်းဆောင်ကြီးအား ဝန်းရံနေသည့် အခြေအနေများကို ပြောပြသည်။ ကာနောဇတိုင်း(Kanauj)တိုင်းဘုရင် ဂေါဝိန္ဒစန္ဒြ (Govindachandra 1114-1154 A.D.) သည် ဟိန္ဒူဘာသာဝင် ဖြစ်သော်လည်း ၎င်း၏မိဖုရား ကုမာရဒေဝီမှာ ဗုဒ္ဓဘာသာကို ကိုင်းရှိုင်းသူဖြစ်သည်။ ဤမင်းကြီးအား ကောက်ကျစ်သည့် ကျူးကျော်သူ မူဆလင်တုရုရှက (တူရကီ)များ၏ အန္တရာယ်မှ ဗာရာဏသီကို ကာကွယ်ရန် တာဝန်ဖြင့် ရောက်ရှိလာသည့် ဗိသနိုး(ဘုရား) ဝင်စားသူအဖြစ် ဖော်ပြထားသည်။ (ဤသည်မှာ) မကြာမီက တရုရှက ကျူးကျော်သူများနှင့် (တိုက်ခိုက်ရသည့်) တိုက်ပွဲငယ်များကို ရည်ညွှန်းမှု ဖြစ်ဖွယ်ရှိသည်။ ကျောက်စာတွင် ကုမာရဒေဝီ၏ ကာယနှင့်စိတ်ပိုင်း စွမ်းရည်များကိုလည်း ဖော်ပြထားသည် ‘မိဖုရား၏စိတ်သည် ဘာသာရေးတစ်ခုကိုသာ



မြုပ်နေသည့် တိုင်များပါရှိသည်။ မူလက ဤဘုရားကျောင်းတွင် ဗုဒ္ဓဆင်းတုတော်တစ်ဆူရှိခဲ့နိုင်သည်။

## ကျောင်းဆောင်အမှတ် ၅

ဂုတ္တခေတ်လက်ရာ ဖြစ်ဖွယ်ရှိသည့် ဤကျောင်းဆောင်သည် ခြံဝင်း အလယ်တွင် တည်ဆောက်ထားပြီး ထူးခြားသည့် အခန်းငယ်များ ပိုစံရှိကြောင်း ဖော်ပြသည်။ တစ်ချိန်က ဝရန်တာကို ခံဆောင်ထားခဲ့သည့် ကျောက်တိုင်များကို ယခုမြင်တွေ့နိုင်သေးသည်။ ခြံဝင်းအတွင်း ရေတွင်းတစ်ခုရှိသည်။ ကျောင်းဆောင်၏ မြောက်ဘက်တွင် ဘုရားခန်းရှိသည်။ ကန်နင်ဟမ်သည် ဤကျောင်းဆောင်ကို တူးဖော်စဉ်က ရရှိခဲ့သည့် တွေ့ရှိချက်များအပေါ် စိတ်ဝင်စားဖွယ် မှတ်ချက်အချို့ပြုခဲ့သည် ‘ဤကျောင်းဆောင်ကြီး ပျက်စီးသွားခြင်းသည် ရုတ်တရက်မမျှော်လင့်ဘဲ ဖြစ်ခဲ့ပုံရ၏။ အကြောင်းမူ မေဂျာကစ်တိုးသည် စတုရန်းပုံ၏ အရှေ့မြောက်ထောင့်စွန်းရှိ အိပ်ခန်းတွင်ပါရှိ (ဆက်သွယ် တည်ဆောက်ထား) သော အခန်းကွယ်တစ်ခု၌ ဂျုံဖြင့်ပြုလုပ်ထားသော စားရန်အဆင်သင့်ဖြစ်နေသည့် အကြွင်းအကျန်များတွေ့ရှိရကြောင်း မစ္စတာ သောမတ်စ်က မှတ်တမ်းတင်ထားခဲ့သောကြောင့် ဖြစ်သည်။ မစ္စတာသောမတ်စ်ကိုယ်တိုင်ပင် အခန်းကျဉ်းအတွင်း ပြန့်ကျဲနေသည့် ဂျုံအကြွင်းအကျန်များနှင့် အခြားစပါးစေ့များတွေ့ရှိခဲ့သည်။

ဤတွေ့ရှိချက်များသည် အကြီးအကျယ် ရုတ်တရက် အရှိန်ပြင်းစွာ လောင်သောမီးကြောင့် ရဟန်းတော်များသည် ၎င်းတို့ စားဆဲအစားအစာကိုပင် စွန့်ပစ်ရန် မဖြစ်နိုင်ခဲ့ကြောင်း ဖော်ပြသည်။ မစ္စတာ သောမတ်စ် အယူအဆမှာလည်း ဖော်ပြပြီး ထင်မြင်ချက်ကဲ့သို့ပင် ဤသို့ရှင်းလင်းစွာ ရေးသားဖော်ပြခဲ့သည် ‘စတုရန်းပုံ (ကျောင်းဆောင်)၏ အရှေ့ဘက်ရှိ အခန်းငယ်များ၌ ကြမ်းပြင်တွင် အလျှင်အမြန် စွန့်ပစ်ခဲ့ရလျက်ချက်ပင် မချက်ပြုတ်ရသေးသော ဆန်းပြားသည့် အစားအစာမျိုးစုံအပြင် နေ့စဉ်သုံးအိုးများနှင့် အများသုံးချက်ပြုတ်အိုးများ အရည်ပျော်သွား၍ ထူးခြားစွာ ဖြစ်ပေါ်လာသော ကြေးတုံးများဖြင့် ပြည့်နေသည်။

ယင်း (ပစ္စည်းများ၏)အပေါ်တွင် မီးလောင်ထားသည့် ခေါင်မိုးတိုင် အကြွင်းအကျန်များနှင့် ၎င်းတို့တွင် ရှိနေသေးသည့် သံမှိုများ၊ ထိုထက်မြေကြီးနှင့် အမှိုက်သရိုက်ရောနေသည့် အုတ်ကျိုးများသည် အုတ်နံရံအမြင့်ထိ အချို့မှာ မူလအထပ်မှ ခြောက်ပေအမြင့်ထိ (မြင့်တက်နေသည်) ကို တွေ့ရသည်။ တွေ့ရှိချက်တိုင်းသည် အကြီးအကျယ် လုံးဝမီးလောင် ပျက်စီးခြင်းအတွက် အထောက်အထားများဖြစ်သည်။ နံရံအစိတ်အပိုင်းများ မတ်ထောင်နေဆဲရှိပြီး အုတ်ကိုခိုင်မြဲစေရန် ထုံးကျောက်နေရာတွင် အစားသုံးပုံရသော ရွှံ့စေးသည် အုတ်များနှင့်အတူပျစ်ခဲအောင် ကျက်သွားသည်အထိ အပူရှိန်ပြင်းထန်ခဲ့ဖွယ်ရှိသည်။

'အချုပ်ဆိုရသော် တည်ရှိနေသော ညွှန်ပြမှုအားလုံးသည် တစ်ယောက်ယောက်က ပြုလုပ်ဖန်တီးသည့် ဤအဆောက်အအုံ ပျက်စီးသွားမှုမှာ သာမန်တစ်စုံတစ်ရာ မတော်တဆ မီးလောင်ကျွမ်းသွားမှုကြောင့် (ဖြစ်ရသည်)ဟုဆိုခြင်းထက် ချေမှုန်းလိုသည့် ရန်သူ၏လက်ချက်ကြောင့် ဖြစ်ပေါ်စေသည့် မီး၏သက်ရောက်မှုကြောင့် (ဖြစ်ရသည်) ဟူသော လိုအပ်သည့် ကောက်ချက်ဆီသို့ ဦးတည်နေပေသည်'။

**ဓမ္မေကစေတီ** (The Dharmek Stupa)

ပင်မစေတီတော်ရာများ၏ အရှေ့ဘက်လှမ်းလှမ်းတွင် ဓမ္မေကစေတီတော်ကြီးရှိသည်။ ဤစေတီတော်ကြီးကို မည်သည့် အထိမ်းအမှတ်ပြုအနေဖြင့်တည်ဆောက်ထားခဲ့ကြောင်း အတိအကျမရှင်းလင်းသေးချေ။ မြတ်ဗုဒ္ဓ၏ ဒုတိယဒေသနာတော် အနတ္တလက္ခဏာသုတ္တန်ကို ဟောကြားတော်သည့်နေရာ အထိမ်းအမှတ် ဖြစ်ဖွယ်ရှိသည်။ စေတီတော်သည် အချင်း ၂၈ မီတာ၊ အမြင့် ၃၃ မီတာခန့်ရှိသည်။ စေတီတော်၏ အောက်ခြေအစိတ်အပိုင်းကို သံဘောင်များဖြင့် တွဲစပ်ထားသည့် ရောမကျောက်တုံးကြီးများနှင့် တည်ဆောက်ထားသည်။ စေတီတော်၏ အနောက်ဘက်ခြမ်း၌ အပြင်ဘက် မူလကျောက်တုံးများသည် ပျောက်ဆုံးနေပြီး ဂျဂတ်ဆင်းတို့(လူသိုက်) ခွာယူသွားခြင်းဖြစ်သည်။ ထိုနေရာ၌ ဘုရားဖူးသည် ကျောက်သားအချို့၌ ထွင်းထုထားသည့် ပန်းရန်ဆရာ၏ အမှတ်အသားများကို သတိပြုမိပေလိမ့်မည်။ စေတီတော်ပတ်လည်၌ ချွန်သွားသည်အထိ အဖျားရှူးလျက် (အပြင်သို့) စွန်းထွက်နေသည့် (ညောင်ရွက်ပုံ) မျက်နှာ စာရှစ်ခုရှိပြီး အသီးသီးတွင် မူလကဗုဒ္ဓဆင်းတုတစ်ဆူထားရှိရန် ကလိုင်ပေါက်များပါရှိသည်။ စေတီတော်အလယ်လောက်တွင် အနုစိတ်ထွင်းထုထားသည့် ကျောက်လက်ရာလိုင်းတန်း (ဖောင်းရစ်) တစ်ခုရှိသည်။ ဤဖောင်းရစ်၏ အပေါ်နှင့်အောက်ဘက်စွန်းများတွင် သိမ်မွေ့သည့် ရိုးတံခွေများနှင့် ကြာပန်းများပါရှိသည်။ ဖောင်းရစ်အလယ်၌မူ (အကန့်လိုက်) ခွဲထားသကဲ့သို့ဖြစ်နေသော ထောင့်ချွန်များပါရှိသည့် ရိုးရိုးလိုင်းကြောင်းများရှိသည်။



စေတီတော်၏ အနောက်တောင်ဘက်ခြမ်းတွင် ဘုရားဖူးအနေဖြင့် ကြာပန်းနှစ်ပွင့် ကိုင်ဆောင်ထားသည့် ရုပ်ပုံတစ်ခုနှင့် ကြာရွက်ပေါင်နှစ်ကောင်နှင့် ၎င်း၏အလယ်တွင် ဖားတစ်ကောင်ကို သတိပြုမိလိမ့်မည်။ ဤသည်မှာ သင့်တော်သည့်နေရာ၌ ယင်းဖောင်းရစ်လုံးဝပျောက်နေသောကြောင့် ပန်းပုဆရာသည် ၎င်း၏ပန်းပုထွင်း ဖောင်းရစ်ကိုပြည့်စုံအောင် အပြီးမသတ်ခဲ့ခြင်းဖြစ်ပုံရသည်။ ရှေးခေတ်များ၌ အထူးပွဲတော်များအတွင်း စေတီတော်ပတ်လည်၌ လှပစွာ ဇာပန်းထိုးထားသည့် ပိတ်စများကို မကြာခဏ တင်(ပတ်)ထားလေ့ရှိသည်။ ဤ (ပန်းပု) ကျောက်ထွင်းလက်ရာသည် ယင်းသို့သော ပိတ်စမျိုးကို ကျောက်ဖြင့်ကိုယ်စားပြုခဲ့ခြင်း ဖြစ်ဖွယ်ရှိသည်။ ကန်နင်ဟမ်သည် ဓမ္မေကစေတီအတွင်းပိုင်းကို တူးဖော်ရင်း ၁၈၃၄–ခုနှစ်မှစ၍ သုံးနှစ်ကြာညောင်းခဲ့သည်။ ကန်နင်ဟမ်သည် စေတီတော်ထိပ်မှ အောက်ဘက်သို့ဆင်းရန်တွင်းတစ်ခုစ၍တူးခဲ့ပြီးနောက် ယင်း(တွင်း)ကို ပန်းပုထွင်းကျောက်တုံးထိပ်မှ အတွင်းဘက်သို့ ၎င်းတူးထားသည့် လိုဏ်ခေါင်းနှင့် ဆက်သွယ်လိုက်သည်။ ဤစေတီသည် မြေကြီးမှအထက် ၁၀–မီတာအမြင့်ထိ ကျောက်တုံးခဲကြီး ဖြစ်ကြောင်းနှင့် ကျောက်တုံးတိုင်းကို အနည်းဆုံး သံဘောင်ရှစ်ခုဖြင့် တုပ်ဖွဲ့ထားကြောင်း သိရသည်။ သို့ရာတွင် လပေါင်းများစွာ ကြာမြင့်သည့် အလုပ်သမားနှင့်တူးဖော်ရခြင်းနှင့် (ထိုခေတ်)ရှုပီး

အတတ်ပညာကား အရည်အသွေးအဆင့်အမြင့်ဆုံး ဖြစ်သည်။ လောကအား ဓမ္မကို ပထမဆုံးဟောကြားတော်မူခဲ့သည့် နေရာအတွက် အလွန်သင့်လျော်သည့် အထိမ်းအမှတ်ကို စဉ်းစားနိုင်ခဲ့ပေသည်။ အိန္ဒိယနိုင်ငံသည် အသောကမင်း၏ ခြင်္သေ့ရုပ်ကျောက်စာတိုင်ခေါင်းကို နိုင်ငံတော်တံဆိပ်အဖြစ် သတ်မှတ်ခဲ့သည်။

ခြင်္သေ့ခေါင်း၏ ဘယ်ဘက်တွင် ကုသနခေတ်လက်ရာ မင်းသားသိဒ္ဓတ္ထ၏ ဆင်းတုရှိပြီး မဓုရာတွင် ထွင်းထုသည့် (လက်ရာ)နှင့် အလွန်တူသည်။ ဆင်းတု၏ဝတ်ရုံများသည် သဘာဝမှန်ကိုတင်စားပြီး ထိုခေတ် ထိုအချိန်က ဝတ်စား ဆင်ယင်မှုနှင့်ပတ်သက်သည့် အကောင်းမွန်ဆုံးသော အတွေးအမြင်ကို ပေးသည်။ ဘုရားလောင်း (မင်းသားသိဒ္ဓတ္ထ)၏ လက်များအတွင်း ခြင်္သေ့တစ်ကောင်၊ ဘယ်ဘက်ခြေထောက်ဘေးတွင် သစ်ရွက်ကိုင်းများ၊ သစ်သီးနှင့်ပန်းများရှိသည်။ ဤဆင်းတုဘေးတွင် စာတန်းပါသည့် ထီးရိုးတစ်ခုရှိပြီး (ယင်းစာတန်းက) ဤဆင်းတုတော်ကို အေဒီ ၁၂၃ ခန့် တွင် ထုလုပ်ခဲ့ကြောင်းညွှန်ပြသည်။ စာတန်းပါ အကြောင်းအရာမှာ ဤသို့ဖြစ်သည် 'ကနိသျှကမင်းကြီး နန်းစံသုံးနှစ် မြောက်၊ တတိယလ၊ ၂၂–ရက်မြောက်နေ့၊ ဤနေ့တွင် ပိဋကတ်သုံးပုံ ကျွမ်းကျင်သူ ရဟန်းတော်ဗလနှင့် ၎င်း၏မိတ်ဆွေ ရဟန်းတော် ပုသျှဝုဒ္ဓိသည် ဗာရာဏသီတွင် ဘုရားလောင်း ဆင်းတုအလှူနှင့် ဗုဒ္ဓရှင်တော်မြတ် လမ်းလျှောက်တော်မူလေ့ရှိခဲ့သည့် နေရာတွင် အရိုးပါထီးတစ်ဆူ စိုက်ထူ (လှူဒါန်း)ခဲ့၏။ ၎င်း၏ မိဘများ၊ ဥပဇ္ဈာယ်ဆရာများ၊ ဆရာများနှင့် တပည့်များ၊ ပိဋကတ်ကျွမ်းကျင်သည့် ဘိက္ခုနီ ဗုဒ္ဓမိတြာ၊ ဘုရင်ခံ ဝနသပရ နှင့် ခါရပလ္လန (Vanaspara and Kharapallana)၊ လူတန်းစားလေးမျိုးနှင့်တကွ လူအားလုံးတို့၏ ကောင်းကျိုးချမ်းသာအတွက် (စိုက်ထူ) လှူဒါန်းခဲ့၏'။

ဤဝမ်းမြောက်ဖွယ်အလှူသည် မိတ်ဆွေအပေါင်းအဖော်တစ်စု၏ ပူးပေါင်းကြိုးပမ်းမှုကြောင့် ဖြစ်ရသည်မှာ ထင်ရှားသည်။ ဤရဟန်းတော်ဗလ လှူဒါန်းသည့် ဆင်းတုတော်များကို မဓုရာနှင့် သာဝတ္ထိတို့၌



စူးစိုက်၏။ သူ့ဆန္ဒကား ကုသိုလ်ကောင်းမှု (ပြုရန်)ကိုသာညွှတ်၏။ မိဖုရားသည် ကုသိုလ်ကောင်းမှုကို စုဆောင်းရန် ဆောင်ရွက်၏။ အလှူဒါနရင်းနှီးမြှုပ်နှံခြင်း၌ မြင့်မြတ်သော နှစ်သက်မှုကို ရှာဖွေ၏။ မိဖုရား၏ လျှောက်လှမ်းပုံသည် ဆင်မယာဉ်သာ လျှောက်လှမ်းပုံနှင့် တူလှ၏။ မိဖုရား၏ ရုပ်သွင်မှာ ရှုချင်စဖွယ်ရှိ၏။ မြတ်ဗုဒ္ဓ၏ (ဆင်းတုတော်)ရှေ့တွင် ဦးညွှတ် ရှိခိုး၏။ လူအများသည် မိဖုရားအား ချီးမွမ်းဂုဏ်ပြုသည့် သီချင်းကို သီဆိုကြ၏။ မိဖုရားသည် စာနာထောက်ထားကြောင်း ဖော်ပြသည့် လှုပ်ရှားမှုဖြင့် ရပ်တည်ပြီး ကံကြမ္မာကောင်းခြင်းအတွက် (အများသူငါ၏) ထာဝရနားခိုရာ ဖြစ်၏။ မကောင်းမှုကိုငြိမ်းစေပြီး ကုသိုလ်ကောင်းမှုကို လှိုင်လှိုင်ကြီး ပြုရခြင်း၌ ဂုဏ်ယူ၏'။ ကုမာရဒေဝီသည် အသောကမင်းလက်ထက်ကဟု ယူဆရသည့် ရှေးကျပြီးကြည် ညိုဖွယ် ဓမ္မစက္ကရာဇိနဘွဲ့အမည်ရှိသည့် ဆင်းတုတော်ကို ပူဇော်ရန် ဤကျောင်းဆောင်ကို (ဆောက်လုပ်) လှူဒါန်းခဲ့ပုံရသည်။

ဓမ္မရာဇိနကျောင်းဆောင်ကို အုတ်မြစ်များပေါ်၌ (ထပ်မံ)တည်ဆောက်ထားသောကြောင့် ဤအဆောက်အအုံဟောင်းကြီး၏ ပုံသဏ္ဌာန်သရုပ်ကို ဖော်ဆောင်ရန် မလွယ်ကူတော့ချေ။ ကျောင်းဆောင်သည် အုတ်တံတိုင်းကာရံထားသည့် အဆောက်အအုံအုပ်စု တစ်ခု၌ ပါဝင်သည်။ ၎င်း (အဆောက်အအုံအုပ်စု)၏ တောင်ဘက်ခြမ်းသည် ၂၃၀ မီတာမက ရှည်လျားသည်။ ပင်မဝင်ပေါက်သည် အရှေ့ဘက်တွင်ရှိပြီး ကျောင်းဝင်း၏ အနောက်ခြမ်းထောင့်တွင် ရှည်လျားသည့် မြေအောက်ဥမင်တစ်ခုရှိပြီး ယင်း၏ရည်ရွယ်ချက် အတိအကျကို မသိရချေ။ ကျောင်းတော်(ရာ) ပတ်လည်ကို လျှောက်ကြည့်ပါက ဘုရားဖူးသည် အသေးစိတ်ထွင်းထုလက်ရာများရှိသည့် ကျောက်တိုင်နှစ်ခုနှင့် အချို့ အုတ်နံရံအောက်ခြေ နေရာတစ်လျှောက်တွင် လှပစွာထွင်းထုထားသည့် အုတ်ခွက်လက်ရာများကို သတိပြုမိလိမ့်မည်။

**ဆောခဏ္ဍီ** (Chaukhandi)

ဗာရာဏသီ မိဂဒါဝုန်ကားလမ်းရှိ မူလကျောင်းတော်ရာများမှ တစ်ကီလို

မီတာအကွာခန့်တွင် တောင်ကုန်းကြီးတစ်ခုရှိပြီး ယင်းအပေါ်တွင် အနား
ရှစ်ခုပါ မျှော်စင်တစ်ခုရှိသည်။ ယခုအခါ ဆောခဏ္ဍီဟု လူသိများသည်။
ရှေးဟောင်းသုတေသန တူးဖော်မှုများက ဤတောင်ကုန်းအဆောက်
အအုံ နေရာသည် အောက်ဆုံးအတန်းထက် ပိုမိုသေးငယ်သွား သည့်
တောင်ပေါ်အဆောက်အအုံတန်း သုံးခုပေါ်တွင် တည်ဆောက်ထားသည့်
စေတီကြီးတစ်ခုပါဝင်ကြောင်းဖော်ပြသည်။ ဟူယင်ဆန်က ယင်းစေတီ
ကြီး၏ ပုံသဏ္ဌာန် မည်သို့ရှိသည်၊ မည်သည်ကို အထိမ်းအမှတ်ပြု
တည်ဆောက်ထားသည်ဆိုသည့် အချက်နှင့်ပတ်သက်၍ အတွေးအမြင်
အချို့ပေးထားသည် ‘ဤမိဂဒါဝုန်နေရာတော်မှ ထွက်ခွာပြီးနောက် (မိဂ
ဒါဝုန်)ကျောင်းတိုက်မှ တောင်ဘက်သို့ နှစ်လီသုံးလီသွားလျှင် ပေ
၃၀၀–ခန့် မြင့်သည့်စေတီ တစ်ဆူရှိသည်။ အဆောက်အအုံ အောက်ခြေ
ပိုင်းတွင် ကျယ်ပြန့်ပြီး အဆောက်အအုံ (စေတီ)သည်မြင့်၏။ (စေတီ
တွင်) ကလိုင်များပါသည့် အဆင့်(စင်မြင့်)များ အဆင့်ဆင့်မပါရှိချေ။ (စေ
တီ၏) အမိုးခုံးပေါ်၌ စိုက်ထူထားသည့် မတ် (ထောင်)နေသည့် ဝင်ရိုး
ရှိသော်လည်း (ယင်းဝင်ရိုး၌) ဝန်းရံ(၍ဆွဲ)ထားသည့် ခေါင်းလောင်းများ
မရှိ။ ယင်း စေတီတော်၏ဘေးတွင် စေတီငယ်တစ်ဆူရှိသည်။ ဤစေတီ
ကား အညာသိကောဏ္ဍညနှင့် အခြားရဟန်းငါးပါးတို့ ဗုဒ္ဓရှင်တော်မြတ်
အား အရိုအသေပေးရန် နေရာမှထမည်ကို ငြင်းဆိုကြသည့် နေရာ
အထိမ်းအမှတ်ပြုသည်။

တောင်ကုန်းထိပ်ပေါ်ရှိ ရှစ်မြောင့်မျှော်စင်မှာ ၁၅၈၈–ခုနှစ်က မိုဂူ
လ (မဂို) ဧကရာဇ် ဟူမယွန် (Humayun) လည်ပတ်ရောက်ရှိမှုကို
အမှတ်အသားပြုရန်နှင့် ဒေသပတ်ဝန်းကျင်၏ သာယာသည့်မြင်ကွင်းကို
ရရှိရန် တည်ဆောက်ထားခြင်းဖြစ်သည်။

**ရှေးဟောင်းသုတေသနပြတိုက်**

မိဂဒါဝုန် ရှေးဟောင်းသုတေသနပြတိုက်သည် ခမ်းနားလှသည့် ဗုဒ္ဓ
ဘာသာပန်းပုလက်ရာအစုအပေါင်းကို သိမ်းဆည်းထားသည်။ ပြတိုက်
သို့ ဝင်သွားပါက ဘုရားဖူးပထမဆုံး တွေ့ရမည့် အရာမှာ တစ်ချိန်က



အသောက ကျောက်စာတိုင်ထိပ်ကို ဆောင်းမိုးခဲ့သည့် ခြင်္သေ့ရုပ်ပါ
ကျောက်စာတိုင်ခေါင်းဖြစ်သည်။ အမြိတ်အစွန်း၊ စည်ပုံ (အဝိုင်း)နှင့်
ခြင်္သေ့ လေးကောင်ဟူသော အစိတ်အပိုင်းသုံးခုပါဝင်ပြီး အတိုင်းအတာ
အားဖြင့် ၂ ဒသမ ၃၁ မီတာမြင့်သည်။ အမြိတ်စွန်းကို ကြာပွင့်ပြောင်း
ပြန် (ကြာမှောက်)ပုံအဖြစ် မကြာခဏ မှားယွင်းစွာ ဖော်ပြလေ့ရှိကြ၏။
သို့သော် မြင်ရသည့်အတိုင်း (ဆိုလျှင်) မည့်သည့်အရာမျှ ကြာပန်းနှင့်
မတူချေ။ အာဝင်(Irwin)အမည်ရှိ ပုဂ္ဂိုလ်၏ အဆိုအရ ‘ပန်းလက္ခဏာ
သဘာဝမှန်အတွက် ခံစားမှုကို အလေးမမူဘဲ ပန်းများအား အလွန့်
အလွန်လေးစားမှုကို သရုပ်ဖော်ခဲ့ကြသော ရှေးခေတ်အိန္ဒိယ အနုပညာ
ရှင်များနှင့် ပတ်သက်၍ ကျွန်ုပ်တို့ အမှန်တကယ် (ထည့်သွင်း) စဉ်းစား
နိုင်ပါပြီလော’ ဟူ၍ ဖြစ်သည်။

သဘာဝ သရုပ်မှန်အတိုင်း ထွင်းထုထားသည့် တိရစ္ဆာန်လေးမျိုး
ကို စည်ပုံ(အဝိုင်း) ပတ်လည်၌ ဆက်လက်၍ လက်ယာရစ်တွေ့ရသည်။
မြင့်မြတ်မှုအတွက် ရှေးခေတ်အိန္ဒိယ၌ လေးစားခဲ့သည့် ယင်းတိရစ္ဆာန်
(လေးမျိုး)သည် ဗုဒ္ဓ သို့မဟုတ် ရဟန္တာပုဂ္ဂိုလ်များကို တင်စားသည်။
ဗုဒ္ဓနှင့် ရဟန္တာများအား ယေဘုယျအားဖြင့် နွားလားဥသဘ၊ အာဇာ
နည်မြင်း၊ ခြင်္သေ့၊ ဆင်ပြောင်တို့နှင့် ခိုင်းနှိုင်းကြသည်။ တိရစ္ဆာန်
အသီးသီး၏ အကြားတွင် ဓမ္မစကြာပုံဘီးပါရှိပြီး ဓမ္မစကြာဘီးတိုင်းတွင်
မူလက ဝင်ရိုးနေရာ၌ အညိုရောင်အဖုံးတစ်ခုပါရှိသည်။ စည်ပုံ (အဝိုင်း)
ပေါ်၌ ဟောက်နေသည့် ခြင်္သေ့လေးကောင် ကျောချင်းကပ်၍ ရပ်နေ
သည်။ ၎င်းတို့၏ ခြင်္သေ့လက်သည်းများကို ဓမ္မစကြာဘီးအပေါ်တည့်
တည့်တွင် ထားသည်။ ထို(ထိပ်ပေါ်မှ) ခြင်္သေ့လေးကောင်မှာ မြတ်ဗုဒ္ဓ၏
သီဟနာဒ အရပ်လေးမျက်နှာသို့ ဓမ္မကို ရဲရင့်ယုံကြည်စွာ ဟောမြွက်
တော်မူခြင်းကို တင်စားသည်။ ခြင်္သေ့များအပေါ်တွင် ဓမ္မစကြာဘီးရှိပြီး၊
၎င်း(ဓမ္မစကြာဘီး)၏ အပျက်အစီးများကို ပြတိုက်တွင်တွေ့မြင်နိုင်သေး
သည်။ ကျောက်စာတိုင်ခေါင်း၌ ထွင်းထုထားသောလက်ရာသည် အ
သက်ဝင်ပြီး မျက်နှာပြင်မှာ ချောမွတ် ပြောင်လက်နေသည်။ လက်မှု

ကိုခံယူစဉ် အဖော်ရဟန်းငါးပါး (ပဉ္စဝဂ္ဂီ)တို့ သဘောမကျဟန်ဖြင့် ကြည့်ရှုနေကြပုံ၊

၁၀) မာရ်နတ်နှင့် ၎င်း၏စစ်တပ် တိုက်ခိုက် (နှောင့်ယှက်)ခြင်း၊

၁၁) (ပဉ္စဝဂ္ဂီ) ရဟန်းငါးဦးအား တရားဦးဟောရန် မိဂဒါဝုန်သို့ ရောက်ရှိလာစဉ် ယခင်က ဗုဒ္ဓလောင်းလျာအား စွန့်လွှတ်ခဲ့သည့် (ထို) ပဉ္စဝဂ္ဂီငါးဦး၏ ခရီးဦးကြိုဆိုခြင်းခံရသည့် ဘုရားရှင်၊

၁၂) ဘုရင် ဗိမ္ဗိသာရအား တရားဟောကြားခြင်း၊

၁၃) အနာထပိဏ်သူဌေးက ဇေတဝန်ဥယျာဉ်ကို ဝယ်ယူခြင်း၊

**အရှေ့ဘက်နံရံ**

၁၄) မိတ်ဆွေရဟန်းတော်များ စွန့်လွှတ်ခံရသော လူမမာရဟန်းတော်တစ်ပါးကို မြတ်ဗုဒ္ဓနှင့် အရှင်အာနန္ဒာက ပြုစု လုပ်ကျွေးကြခြင်း၊

၁၅) ရောဟိနီမြစ်ကို အကြောင်းပြု၍ စစ်ဖြစ်ခါနီး သာကီယနှင့် ကောလိယပြည်ထောင်သားတို့အား ဗုဒ္ဓရှင်တော်မြတ်က ဖျန်ဖြေခြင်း၊

၁၆) ဗုဒ္ဓရှင်တော်မြတ် ကပိလဝတ္ထုမြို့သို့ ကြွရောက်တော်မူခြင်း၊

၁၇) ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူစဉ် အရှင်အနုရုဒ္ဓါက ရဟန်းတော်များအား မငိုကြွေးကြရန် အားပေးစကားဆိုခြင်း၊ ယာဘက်တွင် ဗုဒ္ဓ၏နောက်ဆုံးသာဝကဖြစ်လာသူ သုဘဒ္ဒပရိဗိုဇ်၊

၁၈) ဗုဒ္ဓရှင်တော်မြတ် မယ်တော် (နတ်သား)အား တာဝတိံသာနတ်ပြည်၌ အဘိဓမ္မာတရားဟောကြားခြင်း၊

၁၉) အင်္ဂုလိမာလအား ချေချွတ်ခြင်း၊

၂၀) ဒေဝဒတ်နှင့် အဇာတသတ္တုတို့ ဗုဒ္ဓနှင့်ဘုရင်ဗိမ္ဗိသာရကို သတ်ရန် ကြံစည်ကြခြင်း၊

၂၁) အရှင်အာနန္ဒာက အမျိုးသမီးငယ်တစ်ယောက်အား ရေအနည်းငယ်ပေးလှူရန် ပြောကြားခြင်း၊ ထိုအမျိုးသမီးငယ်က မိမိသည် အမျိုးနိမ့်(ဇာတ်နိမ့်)ဖြစ်သည်ဆိုပြီး တွန့်ဆုတ်နေခြင်း၊ ဗုဒ္ဓ၏အဆုံးအမသည် ဇာတ်စနစ်ကို ငြင်းဆိုကြောင်း အထူးပြုရှင်းပြလျက် အရှင်



တွေ့ရခြင်း၊ ကောသမ္ဗီ ကျောက်ဆစ်တစ်ခု၌မူ ဘက္ခုနီ ဗုဒ္ဓမိတြာကို ဖော်ပြထားခြင်းတို့မှာ စိတ်ဝင်စားဖွယ် ဖြစ်သည်။ ဤ (ဖော်ပြခဲ့) ဆင်းတုတော်မှပင် အခြားကျောက်စာများလည်း ပါရှိသေးသည်။ တစ်ခုမှာ ခြေထောက်နှစ်ခုအကြား အောက်ခြေတွင်ရှိပြီး အခြားတစ်ခုမှာ ကျောဘက်တွင် ဖြစ်သည်။ စာတန်းနှစ်ခုလုံးမှာ (ထီး)ရိုးပေါ်ရှိ၊ စာတန်းများထက် ပို၍တိုသည်။ ပြတိုက်ခန်းမဆောင်၏ ဘယ်ဘက်ထောင့် ခပ်လှမ်းလှမ်းတွင် ဘုရားဖူးသည် တစ်ချိန်က ဤဆင်းတုတော်မြတ် အားဆောင်းမိုးထားခဲ့သည့် ထီးတော်ကို တွေ့မြင်နိုင်သည်။ ထီးတော်သည် အချင်း သုံးမီတာကျယ်ပြီး ဇဟိုတစ်ခု တည်းရှိသော စက်ဝိုင်းကွင်းများဖြင့် တန်ဆာဆင်လျက် ကွင်းတိုင်းကို လှပစွာ ထွင်းထုထားသည်။ အတွင်းဆုံး စက်ဝိုင်းတွင် ပွင့်ချပ်နှင့်ကြာတစ်ပွင့် တစ်ဝက်ပွင့်(အငုံ)နှင့် အလုံးစုံပွင့်(ကြာပန်းပုံ)များဖြင့် ပီပြင်စွာ သရုပ်ဖော်ထားသည်။

ဤကြာပွင့်နှင့်ကပ်လျက်တွင် စတုဂံပုံကွက်များအတွင်း တိရစ္ဆာန်အထူးအဆန်းများ ပါသည့် ဖောင်းရစ်တစ်ခုရှိသည်။ စတုရန်းကွက်အတွင်း ထည့်သွင်းထားသော ကြာပွင့်များ (စတုဂံပုံအကွက်၏) တစ်ခြားစီနေရာတွင်ရှိသည်။ တိရစ္ဆာန်အားလုံးမှာ အတောင်ရှိပြီး ခြင်္သေ့၊ ဆင်၊ သိုး(မြည်း)၊ ကုလားအုတ်၊ ငန်းနှင့် မိကျောင်းဦးခေါင်းများရှိသည်။ အခြား ဖောင်းရစ်တစ်ခုတွင် မင်္ဂလာအမှတ်အသား ၁၂–ခုပါရှိသည်။ ထိပ်ပိုင်းမှ လက်ယာရစ်လှည့်သော ယင်းမင်္ဂလာ သင်္ကေတများမှာ ခရုသင်းခွံ (ပျက်စီးနေပြီ)တစ်ခု၊ အုန်းထန်းတစ်ပင်၊ ကြာပန်းပါသည့် အိုးတစ်လုံး၊ နှင်းပန်းပုံတစ်ခုနှင့် အခြားထန်းပင်ငယ်တစ်မျိုးတို့ ဖြစ်သည်။ အခြားဖောင်းရစ်မှာ တစ်ဖန်၎င်းအပေါ်၌ ကြာပန်းပွင့်ချပ်များရှိသည်။ ဘုရားဖူးသည် အပြင်ဘက် ထီးခွေတွင် တစ်ခုနှင့်တစ်ခု မီတာဝက်ခန့်အကွာ၌ အပေါက်ငယ်များပါရှိသည်ကို သတိပြုမိပါလိမ့်မည်။ ယင်းအပေါက်ငယ်များ၌ တစ်ချိန်က ဥပါသကာများ ပန်းကုံးများနှင့် တံခွန်များချိတ်ဆွဲရန် ငုတ်ငယ်များပါရှိခဲ့သည်။

ခန်းမကြီး၏ ညာဘက် ခပ်လှမ်းလှမ်းတွင် အတော်အတန်ကျော်ကြားသည့် တရားဟောတော်မူဟန် ဗုဒ္ဓဆင်းတုတော် ရှိသည်။ ဤ

သပ္ပာယ်လှသည့် ဆင်းတုတော်ကို ၁၉၀၄–ခုနှစ် တူးဖော်စဉ်အတွင်း ဓမ္မရာဇိကစေတီတော်တောင်ဘက် တစ်နေရာတွင်တွေ့ရှိခဲ့ပြီး ယခင်က ဓမ္မရာဇိက စေတီတော်ကြီး၏ ပတ်လည်ရှိ လိုဏ်ခေါင်းငယ်များအတွင်း သီတင်းသုံးတော်မူခဲ့သည့် ဆင်းတုတော် များစွာအနက် တစ်ခုဖြစ်ဖွယ်ရှိသည်။ ဤဆင်းတုတော်သည် အေဒီ၅ါးရာစု၏ နှစ်ဝက်တွင် ထုလုပ်ခဲ့ပုံရပြီး တရားဦးဒေသနာ ဟောကြားတော်မူသော မြတ်ဗုဒ္ဓအား တင်စားသည့်ပုံဖြစ်သည်။ တရားစကြာလည်စေဟန် လက်တော်များက ဤအချက်ကို ညွှန်ပြသည်။ သမင်နှစ်ကောင်နှင့် ရဟန်း၅ါးပါးဝန်းရံနေသော ဓမ္မစကြာဘီးပုံတစ်ခု ဆင်းတုတော်အောက်ခံခုံတွင် ပါရှိသည်။ အခြားရုပ်ပုံနှစ်ခုမှာ အမျိုးသမီးတစ်ယောက်နှင့် ကလေးငယ်တစ်ယောက်ပုံဖြစ်ပြီး ဆင်းတုတော် အလှူရှင်များ၏ ဘေးတိုက်ပုံဖြစ်ဖွယ်ရှိသည်။ ဓမ္မစကြာ (ဘီး)ပုံသည် ရှေးခေတ်အိန္ဒိယတွင် ဘုရင်နှင့်ပတ်သက်သော တန်ခိုးအာဏာနှင့် အောင်မြင်မှု၏သင်္ကေတအဖြစ်ဖြင့် အသုံးပြုခဲ့သည်။ ယင်း (ဘီး)ကို ဗုဒ္ဓဘာသာဝင်များက မိဂဒါဝုန်တွင် (ဗုဒ္ဓရှင်တော်မြတ်) ပထမဆုံးတရားဟောကြားတော်မူသည့် သိမ်မွေ့သော၊ နိုးကြွသော၊ ဓါသကို သတိပြုမိရန် ဖျတ်လတ်သော သမင်နှင့်တူသည့် စိတ်ရှိသော (မိဂဘူတေန စိတ္တေန) ကြည်ညိုကိုင်းရှိုင်းသူ ဗုဒ္ဓဘာသာဝင်တစ်ယောက်ကို တင်စားခြင်းလည်းဖြစ်နိုင်သည်။ ပြတိုက်ကို နံနက် ၁၀–နာရီမှ ည နေ ၅–နာရီထိ ဖွင့်ပြီး သောကြာနေ့များတွင် ပိတ်သည်။

## မူလဂန္ဓကုဋီကျောင်းတော်

ဥယျာဉ်ကိုဖြတ်လျက် အပျက်အစီးများ၏အရှေ့ဘက်လမ်းတွင် အနာဂါရိကဓမ္မပါလကြီး ၁၉၃၁–ခုနှစ်က တည်ဆောက်ခဲ့သော မူလဂန္ဓကုဋီဝိဟာရရှိသည်။ ကျောင်းတော်သည် နည်းမျိုးစုံဖြင့် ဗုဒ္ဓရှင်တော်မြတ်၏ တရားဓမ္မ အဆုံးအမတော်၏ နက်နဲကျယ်ပြောမှုကို တင်စားထားသည်။ ဤကျောင်းတော်အတွက် ရန်ပုံငွေအများကို အနာဂါရိကဓမ္မပါလ ၏ အမေရိကန်လူမျိုး နာယကဖြစ်သူ မစ္စက် မေရီဖော်စတာ (Mrs Mary Foster)က ကျခံ(လှူဒါန်း)ခဲ့သည်။ စေတီတော်နံရံရှိ အင်္ဂတေပန်းချီကားများကို နာမည်ကျော် ဂျပန်လူမျိုးပန်းချီဆရာ ကိုဆေ့ဆုနိုဆု (Kosetsu Nosu)က ရေး ဆွဲခဲ့သည်။ ၎င်း (ပန်းချီကားများ)အတွက် (အဖိုးအခကို) အင်္ဂလိပ်လူမျိုး ဗုဒ္ဓဘာသာ ဘီအယ်လ် ဘရောင်းတန် (B.L. Brownton) က လှူဒါန်းခဲ့သည်။ ဘုရားကျောင်း၏ ဆင်ဝင်အမိုးနှင့် လှပသည့် ရှေ့တံခါးများကို သီရိလင်္ကာဗုဒ္ဓ ဘာသာလူမျိုးများနှင့် ၁၉၃၁–ခုနှစ် နိုဝင်ဘာလ ၁၁–ရက်နေ့တွင် ကျင်းပသည့် မူလဂန္ဓကုဋီဝိဟာရဖွင့်ပွဲသို့ တက် ရောက်ခဲ့ကြသည့် ဗုဒ္ဓဘာသာနိုင်ငံအားလုံးနီပါးမှ ကိုယ်စားလှယ်များ လှူဒါန်းခဲ့သည်။ မူလဂန္ဓကုဋီဝိဟာရ၏ နံရံများရှိ ပန်းချီကားများမှာ အောက်ပါအတိုင်းဖြစ်သည် –



### တောင်ဘက်နံရံ

၁) (လူ့ပြည်၌)ဖွားမြင်ရန် စောင့်ဆိုင်းနေသည့် တာဝတိံသာ နတ်ပြည်ရှိ ဘုရားလောင်း(သေတကေတု)နတ်သား၊
၂) ဘုရားလောင်း ပဋိသန္ဓေယူချိန် မဟာမာယာ၏ မင်္ဂလာအိပ်မက်၊
၃) လုမ္ဗိနီဥယျာဉ်၌ ဘုရားလောင်း မွေးဖွားတော်မူခြင်း၊
၄) ခမည်းတော်မင်းကြီး နှစ်ပတ်လည် လယ်ထွန်မင်္ဂလာပြုနေစဉ် မင်းသားသိဒ္ဓတ္ထ ဈာန်အဘိညာဏ်ဝင်စားခြင်း၊
၅) သစ္စာဓမ္မကို ရှာဖွေခြင်းအတွက် တောထွက်ရန် မင်းသားသိဒ္ဓတ္ထအား တိုက်တွန်းခဲ့သည့် နိမိတ်ကြီးလေးပါး၊
၆) နန်းတော်မှမထွက်ခွာမီ ဇနီးနှင့် မွေးကင်းစသားတော်အား မင်းသားသိဒ္ဓတ္ထကြည့်ရှုဟန်၊

### အနောက်ဘက်နံရံ

၇) ဆန္န (အမတ်)ကို အဖော်ခေါ်ပြီး စီးတော်မြင်း ကဏ္ဍကကိုစီးလျက် ညအချိန် ဘုရားလောင်းတောထွက်ခြင်း၊
၈) ဆရာကြီးများထံမှ လမ်းညွှန်မှု ရယူခြင်း၊
၉)ပင်ပန်းသည့်အကျင့် (ကိုကျင့်ကြံခဲ့သည့်) နှစ်များကြောင့် အားအင်ဆုတ်ယုတ်နေသော မင်းသားသိဒ္ဓတ္ထ(ရဟန်း)သည် သုဇာတာ၏ဆွမ်း

ပြီး (လျှပ်စစ်ဓာတ်မီး) အလုံအလောက် ထွန်းညှိထားသည်။ ဗုဒ္ဓသာသာသာပြခန်းတွင် ဗာရာဏသီ၌တွေ့ရသည့် ဂုတ္တခေတ်မှ ဗုဒ္ဓဆင်းတုတော်များ၊ ပလ္လဝခေတ် ပြောင်လက်ချောမွတ်သည့် လက်ရာ အများအပြားနှင့် ခမ်းနားလှသည့် ၁၄-ရာစု အိန္ဒိယ-တိဗက် ထင်္ကာ (Thanka)[၁၉] များကိုလည်း ပြသထားသည်။ ဤပြတိုက်ကို နံနက် ၁၀-နာရီခွဲမှ ညနေ ၅-နာရီအထိ ဖွင့်သည်။ မေလနှင့် ဇွန်လများအတွင်း နံနက် ၇-နာရီမှ ညနေ ၁၂-နာရီခွဲအထိ ဖွင့်သည်။ တနင်္ဂနွေနေ့နှင့် တက္ကသိုလ် ကျောင်းပိတ်ရက်များအတွင်း ပိတ်သည်။ ဘာရတကာလာ ဘဝန်သည် ဂီတပညာမဟာဌာနနှင့်ကပ်လျက် တက္ကသိုလ်ဝင်းအတွင်း၌ ရှိသည်။

---

[၁၉] ပိုးသားဖြင့်ဘောင်ခတ်ထားသော ပိုက်ဆံလျှော် ပိတ်သားပုရပိုက်ပေါ်၌ ရေးဆွဲထားသည့် ခပ် ကြမ်းကြမ်း ရုပ်ပုံပန်းချီကားများကို ထင်္ကာဟုခေါ်သည်။ တိဗက်ဗုဒ္ဓဘာသာဝင်တို့ အသုံးပြုသည်။ သံသရာစက်ဝန်းပုံ၊ မြတ်ဗုဒ္ဓ၏ အတိတ်ဘဝဇာတ်တော် သရုပ်ဖော်ပုံများ၊ တစ်ခါတစ်ရံ တိဗက်ဘာသာရေးဂိုဏ်းမှ ထင်ရှားသည့် ဘာသာရေးခေါင်းဆောင်တို့၏ ပုံများကိုရေးဆွဲလေ့ရှိသည်။ အထူးသဖြင့် ယင်းပုရပိုက်ပေါ်၌ အဝန်းပုံရေးဆွဲပြီး (သမထ)ကမ္မဋ္ဌာန်းအားထုတ်ရာ၌ ကသိုဏ်းနိမိတ်အဖြစ် အသုံးပြုကြသည်။ (The Seeker's Glossary of Buddhism p. 620) (ဘာသာပြန်သူ)။



အာနန္ဒာက အမျိုးသမီးငယ်အား 'သင့်အမျိုးဇာတ် ဘာဖြစ်သည်ကို ငါတောင်းခံခြင်းမဟုတ်၊ ငါသင့်ထံမှ ရေကိုသာ အလှူခံပါသည်'ဟု ပြောကြားခြင်း၊ ဤဝတ္ထုကြောင်းသည် ဒိဗျာဝဒါနကျမ်းမှ ဖြစ်သည်။

မူလဂန္ဓကုဋီဝိဟာရရှိ ပင်မဘုရားကျောင်းဆောင်တွင် တက္ကသိလာ (တက္ကသိုလ်)မြို့ရှိ စေတီတော်နှင့် နာဂရဇ္ဇုကောဏ္ဍအရပ်ရှိ စေတီတော်များတွင် တွေ့ရှိခဲ့ပြီး အိန္ဒိယဘုရင်ခံ လော့ဒ်အာဝင် (Lord Irwin) က မဟာဗောဓိအသင်းအား လက်ဆောင်ပေးခဲ့သည့် ဗုဒ္ဓ၏ (ဟု ယူဆရသည့်) ဓာတ်တော်များ ကိန်းဝပ်သည်။ ဘုရားခန်းနောက်ဘက်တွင် အနာဂါရိကဓမ္မပါလ၏ ပြာများပါဝင်သည့် စေတီငယ်တစ်ဆူရှိသည်။ ထိုဘုရားကျောင်း၏ နောက်တည့်တည့်၌မူ သားကောင်များအတွက် ပန်းခြံငယ်တစ်ခုရှိသည်။ ယင်း၏နောက်တည့်တည့်တွင် ဓမ္မပါလရုပ်ကလာပ်ကို သင်္ဂြိုဟ်သည့်နေရာ အထိမ်းအမှတ် ဗိမာန်တစ်ခုရှိသည်။ ဘုရားကျောင်းအဝင်လမ်းမ၏ ညာဘက်တွင် အောက်သို့စူးစိုက် ကြည့် နေပြီး လက်ကိုပိုက်ထားဟန် အနာဂါရိကဓမ္မပါလ၏ ရုပ်တုရှိသည်။

## ခေတ်သစ်ကျောင်းတိုက်များ

မူလဂန္ဓကုဋီဝိဟာရအပြင် မိဂဒါဝုန်အတွင်း အပြင်ပတ်လည်၌ အခြားခေတ်သစ် ဘုရားကျောင်းများစွာ ရှိသေးသည်။ ဓမ္မေကစေတီတော်အနောက်ဘက်ကပ်လျက်တွင် မူလက ၁၈၂၄-ခုနှစ်တွင် တည်ဆောက်ခဲ့သည့် သျှုရေယနာထ ဂျိန်းဘုရားကျောင်းရှိသည်။ ဤတိတ်ဆိတ်ပြီးဆွဲဆောင်သည့် ဂျိန်းဘုရားကျောင်း၏ အတွင်းပိုင်းနံရံများကို မြတ်ဗုဒ္ဓနှင့်ခေတ်ပြိုင် (ဗုဒ္ဓထက်) အသက်ကြီးသည့် ဂျိန်းဝါဒတည်ထောင်သူ မဟာဝီရ အသက်ထင်ရှားရှိစဉ် အဖြစ်အပျက်များကို သရုပ်ဖော်ထားသည့် စိတ်ဝင်စားဖွယ်နံရံဆေးရေး ပန်းချီများနှင့် တန်ဆာဆင်ထားသည်။ တရုတ်ဘုရားကျောင်း တစ်ကျောင်းကို ၁၉၃၉-ခုနှစ်က ကျော်ကြားလှသည့် စင်္ကာပူနိုင်ငံသား ဘဏ်သူဌေး လီချွန်းဆင်(Lee Choong Seng)က မတည်လှူဒါန်းသည့် အလှူငွေဖြင့် တည်ဆောက်ခဲ့သည်။






ကျောင်းတော်ရာများ၏ အနောက်မြောက်စွန်း ခပ်ယွန်းယွန်း ကပ်လျက်ရှိ မြန်မာကျောင်းကို ပထမဆုံး ၁၉-ရာစု အစပိုင်းတွင် တည်ဆောက်ခဲ့ပြီး အဖြူရောင် စကျင်ကျောက်သား ဆင်းတုတော်တစ်ဆူရှိသည်။ ဂေလုပ္ပဂိုဏ်းဝင် တိဗက်ဘုရားကျောင်းကို ၁၉၅၅-ခုနှစ်တွင် တည်ဆောက်ခဲ့သည်။ ဘုရားကျောင်းနံရံများမှာ ပန်းချီဆေးရေးများဖြင့် ဖုံးလွှမ်းထားသည်။ ဤဘုရားကျောင်း၏ နောက်ဘက်တွင် ၁၉၅၉-ခုနှစ်က လာဆာ(မြို့)ပုန်ကန်ထကြွမှုတွင် သေဆုံးကုန်ကြသော ပုဂ္ဂိုလ်များအား အထိမ်းအမှတ်ပြုတည်ထားသည့် စေတီငယ်တစ်ဆူရှိသည်။ ယိုးဒယား ဘုရားကျောင်းမှာ ပြတိုက်အလွန်လောက်တွင် ရှိလျက် ၁၉၇၁-ခုနှစ်တွင် တည်ဆောက်ခဲ့ပြီး ယခုအခါ တည်ဆောက်ဆဲဖြစ်သည်။ မိဂဒါဝုန်၏ အပြင်ဘက် ၃-ကီလိုမီတာခန့်တွင် အဆင့်မြင့်တိဗက်ဘာသာလေ့လာရေး ဗဟိုတက္ကသိုလ်ရှိသည်။ ဤတက္ကသိုလ်တွင် ရောမစာကြည့်တိုက်ကြီး တစ်ခုရှိပြီး ငြိမ်းချမ်းသည့် ပညာရှာမှီးရာအသိုက်အမြုံဖြစ်သည်။

**သွားရောက်ရန်**

မိဂဒါဝုန်သည် ဗာရာဏသီမှ ၁၃-ကီလိုမီတာဝေးပြီး မြောက်ဘက်သို့ သွားသော ရထားလမ်းမကြီးပေါ်တွင်ရှိသည်။ ဗာရာဏသီမှ လန်ချားသို့မဟုတ် ဘတ်စ် ကားများဖြင့် လွယ်ကူစွာ သွားရောက်နိုင်သည်။

## မိဂဒါဝုန်ဝန်းကျင်

**ဘာရတကာလာဘဝန် (ပြတိုက်)**

(Bharat Kala Bhavan)

ဗာရာဏသီရှိ ဗာရာဏသီဟိန္ဒူတက္ကသိုလ်အတွင်း (ဤပြတိုက်) တည်ရှိသည်။ ဤပြတိုက်တွင် ထူးခြားဆန်းကြယ်သည့် ဟိန္ဒူဗုဒ္ဓဘာသာနှင့် ဂျိန်း ပန်းပုလက်ရာများရော အခြား အနုပညာလက်ရာများကိုပါ စုဆောင်း ပြသထားသည်။ ပြခန်းဝင် ပစ္စည်းများကို ကောင်းစွာပြသထား



ကုဏ္ဍကုရုပါဒဂိရိ



မိဂဒါဝုန်မှဂုတ္တခေတ်လက်ရာဓမ္မေကစေတီ



မိဂဒါဝုန်၊ မူလဂန္ဓကုဋီမှပန်းချီကား





လုမ္ဗိနီရှိ အသောကကျောက်စာတိုင်



ကပိလဝတ္ထုမှအပျက်အစီးများ



ဗုဒ္ဓဂယာရှိ ဗုဒ္ဓပါဒစေတီတော်



ဗုဒ္ဓဂယာညနေခင်း



ဗြဟ္မယောနိခေါ်ဂယာသီသ

ဗုဒ္ဓဂယာဘူတန်ဘုရားကျောင်းမှဆင်းတု





ဗုဒ္ဓဂယာမှပရဗောဓိနေရာ



သာဝတ္ထိမြို့ရှိ သီရိလင်္ကာကျောင်းမှ ပန်းချီကား



ကုသိနာရုံမှ မဟာပရိနိဗ္ဗာနစေတီနှင့်ဘုရားကျောင်း





ရာဇင်္ဂြိုဟ်မြို့မှဂိဇ္ဈကုဋ်တောင်



ရာဇင်္ဂြိုဟ်မှဂန္ဓကုဋိသာလဂူ



ရာဇင်္ဂြိုဟ်မြို့ရိုးတံတိုင်း



ကောသမ္ဗီမှ
ဃောသိတာရုံကျောင်းတော်ရာ



ဗာရာဗာရတောင်ကုန်းမှ
လောမသရသေ့ဂူ



ပတ္တနားပြတိုက်မှ
အဝလောကိတေသွာရဆင်းတု





နာလန္ဒာရှိ ကျောင်းတော်ရာအမှတ် ၂ မှ
ကျောက်ထွင်းရုပ်တုများ



ဝေသာလီမှ ခြင်္သေ့ခေါင်း
ကျောက်စာတိုင်နှင့် စေတီတော်



နာလန္ဒာပြတိုက်ရှိ
ဗုဒ္ဓဂယာမှဆင်းတု

သက်ဖွယ် တမလွန်ဘဝကို ရရှိနိုင်သည်ဟု ယုံကြည်ကြသည်။ ဂယာမြစ်အတိုင်း ဗုဒ္ဓဂယာသို့ သွားသောလမ်းဟောင်းဖြင့် ဂယာမြို့မှ ထွက်ခွာသော် ဗြဟ္မယောနိသည် နောက်ဆုံးဖြတ်သန်းရသော တောင်ကုန်းဖြစ်ပြီး တောင်ထိပ်ပေါ်ရှိ ရေဒီယို (အသံလွှင့်) မျှော်စင်ဖြင့် လွယ်ကူစွာ မှတ်သားနိုင်သည်။

**သုရာဇိကုဏ္ဍ (**Surjikund**)**

ဂယာမြို့အလယ်တွင် သုရာဇိကုဏ္ဍခေါ် ရေကန်ကြီးတစ်ခုရှိသည်။ ဤ (ရေကန်သို့ ဝတ်မပြုမီ ကိုယ်လက်စင်ကြယ် သန့်ရှင်းရန် ဟိန္ဒူများ လာရောက်ကြသည်။ ရေကန်သည် ကြီးမားသည့် လေးထောင့်ပုံရေထုတည်ရှိပြီး ကောင်းစွာ အလှဆယင်ထားသည့် အဆုံးတွင် (ရေချိုး)ဆိပ် တစ်ခုလည်းရှိသည်။

သူစိလောမသုတ်တော် (သုတ္တနိ၊ စာ–၁၁၉)၌ပါရှိသည့် ဖြစ်ရပ်များ ဖြစ်ပေါ်ခဲ့သည်မှာ ဤရေကန်ဖြစ်သည်။ ရေကန်ဘေးတွင် **ဋင်္ကိတမဉ္စ** ဟုခေါ်သော မျှော်စင်လို အဆောက်အအုံတစ်ခုရှိသည်။ ယင်းရေကန်တွင် သူစိလောမ ချွန်ထက်သည့်အမွေးရှိသူ ယက္ခ(ဘီလူး)တစ်ယောက် နေထိုင်ခဲ့သည်။ မဟာဘာရတ (ကျမ်း)၌ ယင်းမျှော်စင်လို အဆောက်အအုံကိုပင် ဗြဟ္မစရိယဟု ခေါ်ဝေါ်ဖော်ပြထားသည်မှာ စိတ်ဝင်စားဖွယ်ဖြစ်သည်။ သူစိလောမသည် ဗုဒ္ဓအား ခြိမ်းခြောက်ရန် ကြိုးစားသော်လည်း မအောင်မြင်ခဲ့သဖြင့် 'အကယ်၍ မဖြေနိုင်လျှင် မြစ်တစ်ဘက်သို့ (ဗုဒ္ဓရှင်တော်မြတ်အား) ပစ်လွှတ်လိုက်မည်'ဟု ခြိမ်းခြောက်လျက် မေးခွန်းများမေးသည်။ သူစိလောမဘီလူးက 'ရာဂနှင့် ဒေါသမည်သည့်နေရာမှ လာသနည်း၊ နှစ်သက်ခြင်း မနှစ်သက်ခြင်းနှင့် အ ကြောက်တရား အဘယ်မှလာသနည်း။ မကောင်းသော အကြံအစည်များ အဘယ်နေရာမှ ဖြစ်ပေါ်လာသနည်း။ ကလေးငယ်များ ကျီးကန်းကို နှောင့်ယှက်သကဲ့သို့ စိတ်ကို မည်သည့်အရာက နှောင့်ယှက်ပါသနည်း'ဟု အမေးပြုသည်။ မြတ်ဗုဒ္ဓ၏အဖြေ တစ်စိတ်တစ်ဒေသမှာ 'ရာဂနှင့် ဒေါသသည် ငါ ငါ့ဥစ္စာဟု ခံယူခြင်းမှ ဖြစ်ပေါ်လာ၏။ ထိုအတူပင် နှစ်သက်ခြင်း မနှစ်

## ၅။ ဂယာ

မြတ်ဗုဒ္ဓသည် (တပည့်)ရဟန်း တစ်ထောင်နှင့်အတူ ဂယာသီသအရပ်ရှိ ဂယာ (ရွာ) အနီးတွင် သီတင်းသုံးတော်မူခဲ့သည် (ဝိ ၃၊ ၄၃)။

ဂယာသည် ဟိန္ဒူဘာသာအရ မြို့မြတ်ခုနစ်ခုအနက် တစ်ခုဖြစ်သည်။ ဗုဒ္ဓခေတ်ကပင် ဟိန္ဒူဘာသာဝင်များသည် ကွယ်လွန်သူ မိဘဆွေမျိုးများအတွက် ဘာသာရေးကိစ္စ ဆောင်ရွက်ရန်နှင့် ဖလဂူမြစ်တွင် ရေချိုးရန် ဂယာမြို့သို့ လာရောက်ခဲ့ကြသည်။ ဘာသာရေးကိစ္စများကို ဂယာမြို့တွင် (ယနေ့တိုင်)ဆောင်ရွက်ကြဆဲဖြစ်သည်။ ဂယာရှိ ဟိန္ဒူဘာသာဝင်များ၏ အထွတ်မြတ်ဆုံး နေရာများမှာ ဟိန္ဒူပါဒဘုရားကျောင်း၊ ကျော်ကြားလှသည့် မသေသော ညောင်ပင်တည်ရှိရာ အကသျှယဝတ် (Akshayavat) ဘုရားကျောင်းနှင့် ဗြဟ္မကုဏ္ဍရေကန်တို့ ဖြစ်သည်။ ဟိန္ဒူဘာသာ လွှမ်းမိုးပတ်သက်မှု ရှိသော်လည်း ဂယာမြို့သည် ဗုဒ္ဓဘာသာဝင်တို့အတွက်လည်း ခမ်းနားလှသည်။ အကြောင်းမူ ဗုဒ္ဓ သက်တော်ထင်ရှားရှိစဉ်က ဂယာမြို့၌ အမှတ်ရဖွယ် ဖြစ်ရပ်များရှိခဲ့သောကြောင့် ဖြစ်သည်။

မိဂဒါဝုန်၌ ပထမဝါ ကျွတ်ပြီးနောက် မြတ်ဗုဒ္ဓသည် ဗုဒ္ဓဂယာသို့ ပြန်ကြွလာပြီး ယင်းဂယာမြို့ရှိ ဥရုဝေလကဿပ၊ နဒီကဿပနှင့် ဂယာကဿပတို့ကို ၎င်းတို့၏ တစ်ထောင်စီသော တပည့်များနှင့်အတူ ဗုဒ္ဓဘာသာအဖြစ်ခံယူစေခဲ့သည်။ အဆိုပါပြုသစ်စ ရဟန်းတစ်ထောင် ခြံရံလျက် ဗုဒ္ဓသည် ဂယာမြို့သို့ကြွလာပြီး သုတ္တန်ပေါင်း မြောက်မြားစွာကို ဟောကြားတော်မူသည်။ မြတ်ဗုဒ္ဓ ဂယာသို့ အမြဲတမ်း ပြန်ကြွလာသည်ဟူသော အထောက်အထား မရှိချေ။ ဤသည်မှာ ဂယာသည် (ဟိန္ဒူ) ဘာသာရေးဆိုင်ရာ ဝတ်ပြုဆုတောင်းမှု အခမ်းအနားများအတွက် အချက်အချာ နေရာဖြစ်သော်လည်း မြတ်ဗုဒ္ဓအနေဖြင့် ယင်းကို များစွာ ဂရုစိုက်သောကြောင့် ဖြစ်ဖွယ်ရှိသည်။ ဝတ္ထုပမသုတ် (မ ၁၊ ၄၇)တွင် ဗုဒ္ဓက 'အကယ်၍ သင်သည် လိမ်ညာခြင်း၊ သက်ရှိတို့ကို ညှဉ်းဆဲခြင်း

မရှိလျှင်၊ (သူတစ်ပါးဥစ္စာကို) မခိုးဝှက်ဘဲ သဒ္ဓါတရားရှိလျှင် ဂယာသို့ သွား၍ အဘယ်အကျိုးရှိမည်နည်း။ ဂယာ(ရေ) သည် သင့်အိမ်မှာရှိသောရေနှင့် ခြားနားမှုမရှိ’ဟု ဟောတော်မူသည်။ ကျောက်တုံးကြီးများဖြင့် ပြုလုပ်ထားသောနံရံမြင့်ဖြင့် ကာရံထားသည်။

## ကြည့်ရှုဖွယ်

### ဗြဟ္မယောနိ

ဂယာမြို့ပေါ်မှ မိုးနေသော ဤထင်ရှားသည့် တောင်ကုန်းသည် ဗုဒ္ဓ လက်ထက်တော်အခါက ဂယာသီသဟု ထင်ရှားခဲ့သည်။ အရှင်မဟာဗုဒ္ဓဃောသအလိုအရ ဤတောင်တန်း၏မူလအမည်မှာ ဒူးကွေးရပ်လျက်ရှိသော ဆင်နှင့်တူသောကြောင့် ဂဇသီသ (ဆင်ဦးခေါင်း)ဖြစ်ပြီး ဂယာမြို့အမည်မှာ ဤတောင်ကုန်းကို အစွဲပြု၍ ခေါ်ဝေါ်သောအမည် ဂဇမှ ဂယာဟု ပြောင်းလဲလာခြင်းဖြစ်သည်။ ကျော်ကြားလှသည့် မီးလျှံ ဒေသနာ အာဒိတ္တပရိယာယသုတ်ကို ဗုဒ္ဓသည် တစ်ထောင်သော ပြုသစ်စ ရဟန်းတော်များအား ဤဂယာသီသအရပ်၌ ဟောကြားတော်မူခဲ့သည်။

ရှေးအဋ္ဌကထာကျမ်းများ (အံ–၄ ၁၊ ၂၃၂)၌ အာဒိတ္တပရိယာယသုတ်ကို ဟောကြားစဉ် ဗုဒ္ဓနှင့် (တရားနာ) ပရိသတ်သည် ရောမ ကျောက်ဖျာကြီးပေါ်၌ ထိုင်ခဲ့ကြကြောင်းဆိုသည်။ ထိုမျှလောက် ကြီးမားသော ကျောက်ဖျာတစ်ခုတလေကိုမျှ ယခုအခါ မတွေ့မြင်နိုင်တော့ချေ။ သို့ရာတွင် မူလတောင်ထွတ်ဘေးရှိ ပခုံးကဲ့သို့သော နေရာတစ်ခုသည် လူတစ်ထောင်လောက် သက်သောင့်သက်သာ နေနိုင်သည့် ကျောက်ဖျာတစ်ခု ရှိခဲ့မည်ဟုယူဆရသော ပြင်ညီ နေရာကျယ်ကြီးတစ်ခုရှိသည်။ ဤမြေနေရာအတွင်း စေတီတစ်ဆူ ဖြစ်ဖွယ်ရှိသည့် မှုန်ဝါးသည့် အစအနများကို တွေ့မြင်နိုင်သေးသည်။

အခြားစိတ်ဝင်စားဖွယ် ဒေသနာတစ်ခုတွင် ဂယာသီသ (တောင်)မှ ကြည့်ရှုလိုက်ခြင်း၌ ဗုဒ္ဓရှင်သည် မိမိတို့ပြုပြီးသည့် အကုသိုလ်ဒုစရိုက်များ စင်ကြယ်သွားနိုင်သည်ဟု ယုံကြည်ကြလျက် မြစ်အတွင်း



ရေချိုးနေများကို တွေ့မြင်တော်မူကြောင်း ပြဆိုသည်။ ထို့နောက် ဗုဒ္ဓက ဤဂါထာကို ဟောမြွက်တော်မူသည် -

‘လူအများ ဤမြစ်ထဲမှာ ရေချိုးကြသော်လည်း ရေဖြင့်(အကုသိုလ် အညစ် အကြေးကို) စင်ကြယ်အောင်လုပ်၍ မရ။ သစ္စာဓမ္မရှိသော သူသည်သာစင်ကြယ်ပြီး ဗြဟ္မဏ (မကောင်းမှုကို စင်ကြယ်ပြီးသူ) မည်၏’ (ဥဒါန၊ စာ– ၈၃)။

မြတ်ဗုဒ္ဓ၏ ဘဝဆုံးသည်အထိ ဒေဝဒတ်သည် သံဃာ့အဖွဲ့ အစည်းကို သင်းခွဲပြီး နောက်လိုက်ရဟန်း ငါးရာနှင့်အတူ ဂယာသီသ၌ နေထိုင်ရန် ထွက်ခွာခဲ့သည်။ ဂယာသီသ၌ အဇာတသတ်မင်းက ဘုန်းကြီးကျောင်းတစ်ခု ဆောက်လုပ်လှူဒါန်းသည်။ ဗုဒ္ဓက အရှင်မဟာမောဂ္ဂလ္လာန်နှင့် အရှင်သာရိပုတ္တရာတို့ကို ခွဲထွက်ရဟန်းတော်များအား ကျိုးကြောင်းပြ(ဖျောင်းဖျ)ရန် စေလွှတ်တော်မူသဖြင့် နောက်ဆုံး၌ ထိုရဟန်းတော်များ (အမှန်ကိုသိပြီး) ပြန်လာအောင် ဆောင်ရွက်နိုင်ခဲ့သည်။

ဟူယင်ဆန် ဂယာမြို့သို့ ရောက်သွားသောအခါ ဂယာမြို့တွင် မိသားစု တစ်ထောင်ခန့်သာ နေထိုင်ကြသည်။ ထိုအချိန်က ဂယာသီသအား ဘုရင်မင်းအဖြစ် တက်ရောက်မှုနှင့် ပတ်သက်သော အရေးကြီးသည့် နေရာတစ်ခုအဖြစ် သတ်မှတ်ထားသည်။ ဟူယင်ဆန်က ဤသို့ဆိုသည် ‘ရှေးခေတ်များအချိန်က အုပ်ချုပ်သူဘုရင်များ ထီးနန်းရသောအခါ ပတ်ဝန်းကျင်အနီးအနားရှိ ပြည်သူများအား နှစ်သက်စေရန်နှင့် မိမိ၏ကျောစောထင်ရှားမှုကို လွှမ်းခဲ့သော မျိုးဆက်တို့ထက်သာလွန်ကြောင်း ပြသရန်ရည်ရွယ်ချက်ဖြင့် အခမ်းအနားများ အစီအရီကျင်းပလျက် တောင်ပေါ်သို့တက်၍ မိမိ၏အောင်မြင်မှုကို ကြေညာခြင်းမှာ ထုံးစံတစ်ရပ်ဖြစ်ခဲ့၏’။ ရဟန်းတော် ဟူယင်ဆန်သည် အသောကမင်း တည်ထားခဲ့သည့် တောင်ကုန်းပေါ်ရှိ စေတီတစ်ဆူ အကြောင်းကိုလည်း ဖော်ပြခဲ့သည်။ ယနေ့ခေတ်၌မူ ဗြဟ္မယောနိကို ဟိန္ဒူတို့က အရိုအသေပြုစရာအဖြစ်ယူဆနေကြပြီး အကယ်၍ တောင်ထိပ်အနီးရှိ ကျောက်တောင်မှ အပေါက်ကို ဖြတ်၍ တွားသွားနိုင်လျှင် နှစ်

ဆုံး၍ လင်္ဂဝနခေါ် ထန်းပင်တော၌ ရပ်နားတော်မူသည်။ ဤနေရာကို ယခုအခါ ရာဇဂြိုဟ်အနောက်တောင်ဘက် ၁၀–ကီလိုမီတာအကွာ ၌ ရွာငယ်တစ်ခုအဖြစ် တွေ့ရှိရပြီး တကယ် စိတ်ဝင်စားဖွယ်ကောင်းသည်မှာ မူလနာမည် တည်ရှိဆဲဖြစ်ပြီး ယခုအခါ လင်္ဂဝန၏ ဟိန္ဒီဘာသာ အတိုကောက်စကား ဇေဟ္ဈထိနအဖြစ် ထင်ရှားသည်။ ဗိမ္ဗိသာရမင်းကြီးသည် ဗုဒ္ဓကိုကြိုဆိုရန် များစွာသော အခြွေအရံတို့နှင့်အတူ ရောက်လာပြီး ဗုဒ္ဓနောက်မှ မြို့ထဲသို့ လိုက်ပါသွားခဲ့သည်။ အသက်အရွယ်ကြီးပြီး လေးစားခံရသည့် ကဿပညီနောင်တို့နှင့်နိုင်းစာပါက ငယ်လွန်းပြီး ထိုအချိန်က ကိုယ်ကျင့်တရားရေးရာ မကျော်စောသေးသော ဗုဒ္ဓရှင်တော်မြတ်နှင့် တွေ့ဆုံသည့်အခါ လူအချို့က မည်သူသည်ဆရာ မည်သူသည် တပည့်ဟု မသေချာဘဲ ဖြစ်နေကြသည်။ ထိုအခါ ဥရုဝေလ ကဿပက 'နေရာကထပြီး သင်္ကန်းကို ပခုံးပေါ်တွင်ပြင်ဆင် ဝတ်ရုံလိုက်ပြီး မြတ်ဗုဒ္ဓ၏ခြေတော်ရင်း၌ ဦးညွတ်လျက် ''အရှင်၊ အရှင်သည်ကား တပည့်တော်၏ ဆရာဖြစ်ပါ၏။ တပည့်တော်သည် (အရှင်ဘုရား၏) တပည့်ဖြစ်ပါသည်ဘုရား''ဟု လျှောက်ထားသည်' (ဝိ ၃၊ ၄၆)။

ဗုဒ္ဓရှင်တော်မြတ်၏ အဂ္ဂမဟာသာဝကများဖြစ်လာကြသည့် ပုဂ္ဂိုလ်နှစ်ယောက် ရဟန်းပြုလာသည်မှာလည်း ထိုအချိန်ကဖြစ်သည်။ သဉ္စယ (သဉ္စည်း)ဆရာကြီး၏တပည့်များ ဖြစ်နေကြသည့် မောဂ္ဂလ္လာနနှင့် သာရိပုတ္တာတို့သည် ငယ်သူငယ်ချင်းများ ဖြစ်ကြသည်။ သဉ္စယကား ထိုအချိန်က ရာဇဂြိုဟ်တွင် ထင်ရှားသည့် ပရိဗိုဇ်များစွာအနက် တစ်ယောက်အပါအဝင်ဖြစ်ပြီး တပည့်ပေါင်း နှစ်ရာ့ငါးဆယ်ရှိသည်ဟု ဆိုသည်။ တစ်နေ့သ၌ သာရိပုတ္တာသည် ဆွမ်းခံလှည့်လည်နေသည့် ဗုဒ္ဓ၏တပည့်ရဟန်းတော်တစ်ပါး (အရှင်အဿဇိ)နှင့် တွေ့ဆုံပြီး မိမိအားတရားဟောကြားရန် တောင်းပန်သည်။ ကြားနာရသောတရားစကားကို နှစ်သက်သွားခြင်း၌ သာရိပုတ္တာသည် မိတ်ဆွေမောဂ္ဂလ္လာနအား ထို(တရားဓမ္မ)ကို ပြန်လည်ဟောကြားသည်။ ၎င်းတို့ (နှစ်ဦး)သည် ထိုနေရာ ထိုအချိန်၌ပင် ဗုဒ္ဓရှင်တော်မြတ်၏ တပည့်အဖြစ်ခံယူရန် ဆုံးဖြတ်လိုက်ကြ



သက်ခြင်း၊ အကြောက်တရား၊ မကောင်းသော အတွေးအကြံများလည်း ငါ ငါ့ဥစ္စာဟု စွဲလမ်းခြင်းမှ ဖြစ်ပေါ်လာ၏။ (ထိုတရားကပင်) ကလေးငယ်များ ကျီးကန်းငှက်ကို (နှောင့်ယှက် သကဲ့သို့) စိတ်ကို နှောင့်ယှက်၏' ဟူ၍ဖြစ်သည်။

ယနေ့ခေတ်တွင် ဠင်္ကီတမဥ္စ အစအနကိုပင် မတွေ့နိုင်တော့ချေ။ သို့ရာတွင် ရေကန်၏အမည်မှာ သူစိလောမမှ ဆင်းသက်လာသည်မှာ သေချာပြီး ရေချိုးဆိပ် အနီးရှိ (လူအများ) ရှိခိုးပူဇော်ကြသည့် သစ်ပင်ရင်းတွင် ဗုဒ္ဓဘာသာစေတီတော် များအပါအဝင် ရှေးဟောင်းအနုပညာလက်ရာများစွာရှိသည်။

သုရာဇိကုဏ္ဍသို့ သွားရောက်ရန် ဗိသျှနုပါဒ ဘုရားကျောင်းသို့ သွားသည့် လမ်းအတိုင်းသွားပါ။ ဘုရားကျောင်းသို့ မရောက်မီ မီတာ ၁၀၀–ခန့်တွင် ဘယ်ဘက်သို့ ခွဲထွက်သွားသည့် လမ်းကျဉ်းငယ်တစ်ခုရှိသည်။ ယင်းလမ်းကျဉ်းငယ်အတိုင်း ဆင်းသွားပြီး ညာသို့ချိုးပါ။

## ဂယာပြတိုက်

ဂယာပြတိုက်ကို ဟောင်းနွမ်းပြီး ပျက်စီးလုနီးပါး ဖြစ်နေသည့် အဆောက်အအုံ တစ်ခုတွင် ဖွင့်လှစ်ထားပြီး ဂယာနှင့် ဂယာပတ်ဝန်းကျင်၌တွေ့ရသည့် ဗုဒ္ဓ ဘာသာနှင့် ဟိန္ဒူဘာသာဆိုင်ရာ ပန်းပုလက်ရာအနည်းအကျဉ်းကို စုဆောင်းပြ သထားသည်။ ပြတိုက်ကို နံနက် ၁၀–နာရီမှ ညနေ ၅–နာရီအထိ နေ့စဉ်ဖွင့်ပြီး တနင်္လာနေ့များတွင် ပိတ်သည်ဟု ဆိုသည်။ အမှန်စင်စစ် ပြတိုက်မှူးလာသည့် အချိန်အနည်းငယ်အတွင်းသာ ဖွင့်သည်။ ပြတိုက်သည် ဂယာတရားရုံးအနီး ဒက်ဘန်ဂါလို (Dak Bungalow)နှင့် ကပ်လျက်ရှိ အဆောက်အအုံဖြစ်သည်။

## သွားရောက်ရန်

ဂယာသည် ဗာရာဏသီအရှေ့ဘက် ကီလိုမီတာ ၂၀၀–ခန့်တွင်ရှိသည့် မြောက်ပိုင်း ရထားလမ်းမကြီးပေါ်တွင် ရှိသည်။ ပတ္တနားမှလည်း ရထားဖြင့်ရောက်ရှိနိုင်သည်။ ၁၁၈–ကီလိုမီတာခန့် (ဝေးသည့်) ခရီးစဉ်ဖြစ်သည်။

# ၆။ ရာဇဂြိုဟ်

မှန်ပါသည် အရှင်ဘုရား၊ ဤလမ်းကား ရာဇဂြိုဟ်သို့ သွားသော လမ်းဖြစ်ပါ၏။ ဤလမ်းအတိုင်း အနည်းငယ် သွားပြီးနောက် ရွာတစ်ရွာကို တွေ့ပါလိမ့်မည်။ ဆက်သွားပြီးနောက် ဈေးမြို့ကြီး တစ်မြို့ တွေ့ပါလိမ့်မည်။ အနည်းငယ် ဆက်သွားပြီးသည့်အခါ နှစ်သက်ဖွယ်ပန်းခြံများ၊ နှစ်သက်ဖွယ်သစ်တောများ၊ နှစ်သက်ဖွယ် မြက်ခင်းပြင်များနှင့် နှစ်သက်ဖွယ် ရေကန်များရှိသည့် ရာဇဂြိုဟ်မြို့ကို တွေ့ပါလိမ့်မည် (မ ၃၊ ၅၆)။

ယခုအခါ ရာဂျဂိရ်ဟုခေါ်သည့် မြို့ရာဇဂြိုဟ်သည် အိန္ဒိယတွင် လူအများ စဉ်ဆက်မပြတ် အခြေချနေထိုင်ခဲ့သည့် ရှေး အကျဆုံးနေရာများအနက် တစ်ခုဖြစ်သည်။ မြတ်ဗုဒ္ဓ သက်တော်ထင်ရှားရှိစဉ်က မဂဓနိုင်ငံ၏မြို့တော်ဖြစ်ခဲ့ပြီး မဇ္ဈိမဒေသ၌ အကြီးဆုံးမြို့ဖြစ်ခဲ့သည်။ ရာဇဂြိုဟ်မြို့နှင့် ၎င်း၏သဘာဝနယ်မြေ အထိမ်းအမှတ်များကို ရှေးဟောင်း ဗုဒ္ဓ၊ ဂျိန်းနှင့် ဟိန္ဒူစာပေများ၌ မကြာခဏ ဖော်ပြကြသည်။ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင်ပင် မြို့တော်နှင့် ၎င်းပတ်ဝန်းကျင်များအကြောင်း ဤသို့ မြွက်ဟတော်မူဖူးသည် 'ရာဇဂြိုဟ်ကား နှစ်သက်ဖွယ်ကောင်းစွ၊ ဂိဇ္ဈကူဋနှင့် ဂေါတမနိဂြောဓတို့ကား မွေ့လျော်ဖွယ်ကောင်းစွ။ စောရပပါတ (ခိုးသားချောက်နက်)နှင့် ဝေဘာရတောင်ယံမှ သတ္တပဏ္ဏိဂူတို့ကား ပျော်ရွှင်ဖွယ်ကောင်းစွ။ ဣသိဂိလိတောင်ယံမှ ကာဠသိလာနှင့် သီတာဝနအတွင်းမှ သပ္ပသောဏ္ဍိကပဗ္ဘာရတို့ကား တင့်တယ်လှပေစွ။ တပေါဒါရာမနှင့် ဝေဠုဝန်မှ ရှဉ့်နက်တို့ကို အစာကျွေးရာဌာန၊ ဇီဝကမ္ဗဝန (ဇီဝကသရက်ဥယျာဉ်)နှင့် မဒ္ဒကုစ္ဆိအရပ်ရှိ ဘေးမဲ့တောတို့ကား နှစ်လိုဖွယ်ရှိစွ' (ဒီ ၂၊ ၉၇)။

မဟာယနဗုဒ္ဓဘာသာ ကဗျာဆရာကြီး အသဃေဃာသပုဂ္ဂိုလ်က မြို့တော်သည် 'တောင်ငါးလုံးကြောင့် ထင်ရှား၏။ တောင်စွယ်တောင်ထွတ်များဖြင့် ကာရံလျက် တန်ဆာဆင်ထား၏။ ရေပူစမ်းများဖြင့် ပံ့ပိုး



ထားပြီး စင်ကြယ်အောင်ပြုထား၏' ဟုဆိုသည်။ မြို့တော်၏ရှေးဟောင်းအစိတ်အပိုင်းကို ကာရံထားသည့် တောင်ကြီးငါးလုံးကို ဝေဘာရ၊ ဝေပုလ္လ၊ ရတန၊ သောဏနှင့် ဥဒယတောင်ဟု ခေါ်သည်။ (ထေရဝါဒ) တိပိဋကတွင် ဝေဘာရ၊ ဝေပုလ္လ၊ ပဏ္ဍဝ၊ ဂိဇ္ဈကူဋနှင့် ဣသိဂိလိတောင်ဟု ခေါ်သည်။ ထိုတောင်များအကြား တည်ရှိနေသည့် ရာဇဂြိုဟ်မြို့ကို တစ်ခါတစ်ရံ ဂိရိဗ္ဗဇ (တောင်ကုန်းခံတပ်) မြို့ဟုလည်း ခေါ်ဝေါ်သည်။

မင်းသားသိဒ္ဓတ္ထသည် တောထွက်ခဲ့ပြီးနောက် ရာဇဂြိုဟ်မြို့သို့ ရောက်လာသည်။ (ရာဇဂြိုဟ်)မြို့တော် ပတ်ဝန်းကျင်ရှိ ဂူများ သစ်တောများနှင့် ကျောက်ဆောင်များ၌ မကြာခဏတွေ့ရတတ်သည့် ရသေ့များစွာတို့နှင့် ဆက်သွယ်မှုရရှိရန် ဖြစ်ဖွယ်ရှိသည်။ (ရာဇဂြိုဟ်)ဘုရင်ဗိမ္ဗိသာရသည် မင်းသားသိဒ္ဓတ္ထအား (မြို့တော်)လမ်းကြား၌ ဆွမ်းခံလှည့် လည်နေသည်ကို တွေ့မိပြီး မင်းသားသိဒ္ဓတ္ထ၏ အထက်တန်းကျသော ရုပ်လက္ခဏာကြောင့် နက်ရှိုင်းစွာ ကြည်ညိုလေးစားသွားသည်။ ဗုဒ္ဓလောင်းလျာ (မင်းသားသိဒ္ဓတ္ထ)သည် ပဏ္ဍဝ (ယခုခေတ် ရတန) တောင် အရှေ့ဘက်၌ သီတင်းသုံး နေထိုင်ကြောင်း သိရှိသွားခြင်း၌ ဘုရင် (ဗိမ္ဗိသာရ)သည် ဗုဒ္ဓလောင်းလျာထံ သွားရောက်တွေ့ဆုံသည်။ ဗုဒ္ဓလောင်းလျာက ဘုရင်ဗိမ္ဗိသာရအား မိမိအနေဖြင့် မြင့်မြတ်သော အမျိုး(မင်းမျိုး)မှ ဖြစ်ကြောင်း ပြောပြသောအခါ မင်းကြီးသည် မင်းသားသိဒ္ဓတ္ထ (ရဟန်း)အနေဖြင့် လူ့ဘဝသို့ ပြန်လာခဲ့မည်ဆိုလျှင် နန်းတော်၌ အဆင့်မြင့် ရာထူးပေးမည်ဖြစ်ကြောင်း ကမ်းလှမ်းသည်။ မင်းသားသိဒ္ဓတ္ထသည် ယဉ်ကျေးစွာငြင်းဆိုလျက် အကယ်၍ မိမိအနေဖြင့် ဗောဓိဉာဏ်ကို ရရှိခဲ့မည်ဆိုလျှင် ယင်းသို့ရရှိသောအခါ ပြန်လာပြီး မိမိသိရှိထားသည့် အမှန်တရားကို မင်းကြီးအားပြန်လည် ဟောကြားမည်ဖြစ်ကြောင်း ကတိပေးခဲ့သည်။

ဗုဒ္ဓလောင်းလျာ (မင်းသားသိဒ္ဓတ္ထ)သည် ကတိအတိုင်းဆောင်ရွက်ခဲ့သည်။ ဂယာ၌ သီတင်းသုံးပြီးနောက် ဗုဒ္ဓရှင်တော်မြတ်သည် ၎င်း၏ (တပည့်)ရဟန်း တစ်ထောင်နှင့်အတူ ရာဇဂြိုဟ်သို့ ကြွတော်မူပြီးနောက်

အပေါ်တစ်ခု (ဆင့်ကာဆင့်ကာ) တည်ဆောက်ထားသည့် စေတီအများ အပြား တူးဖော်တွေ့ရှိခဲ့ပြီး ရှေးအကျဆုံးစေတီကို မောရိယခေတ်လက်ရာဟု သတ်မှတ်သည်။ ခေတ်သစ်လမ်းတစ်ခုသည် ရာဇဂြိုဟ်မြို့သစ်ကို ဖြတ်သွားပြီး ယင်း(ခေတ်သစ်)လမ်း မြောက်ဘက် အုတ်တံတိုင်းကို ဖြတ်သည့်နေရာ၏ ညာဘက်ကပ်လျက်တွင် ဘုရားဖူးသည် ရာဇဂြိုဟ်မြို့သစ်၏ ပင်မဂိတ်ပေါင်းကို တွေ့နိုင်သည်။

## အဇာတသတ္တုစေတီ

ကားလမ်းအတိုင်း ရာဇဂြိုဟ်မြို့သစ်မှ ထွက်ခွာခဲ့ပြီးနောက် ကီလိုမီတာဝက်လောက်တောင်ဘက်သို့ သွားခဲ့သော် ဘုရားဖူးသည် ဘယ်ဘက်ခြမ်း၌ အပေါ်တွင် ကျောက်တိုင်များနှင့် ကျောက်တုံးကြီးများဖြင့် ဆောက်လုပ်ခဲ့သည့် အဆောက်အအုံ(ပျက်)တစ်ခုကို တွေ့ပါလိမ့်မည်။ ဤအဆောက်အအုံပျက်မှာ အဇာတသတ္တုသည် မိမိရရှိခဲ့သည့် ဗုဒ္ဓဓာတ်တော်ဝေစု ရှစ်ပုံတစ်ပုံဖြင့် တည်ထားကိုးကွယ်ခဲ့သည့် စေတီနေရာဖြစ်သည်။ ဤစေတီတော်သည် ခပ်စောစောကပင် အပျက်အစီးများဖြစ်သွားခဲ့ပြီး (အဆောက်အအုံသစ်) ပြန်လည်တည်ဆောက်လျက် အခြားရည်ရွယ်ချက်များဖြင့် အသုံးပြုနေပြီဖြစ်သည်။ သို့ဖြစ်၍ မူလအရွယ်အစားနှင့် ပုံသဏ္ဌာန်ကို စဉ်စားကြည့်ရန် ယခုအခါ မဖြစ်နိုင်တော့ချေ။

## ဝေဠုဝန်ကျောင်းတော်ရာ

ဗုဒ္ဓရှင်တော်မြတ်သည် ဗောဓိဉာဏ်ကိုရရှိပြီးနောက် ရာဇဂြိုဟ်မြို့သို့ ပြန်သွားသောအခါ ဘုရင်ဗိမ္ဗိသာရသည် ဗုဒ္ဓရှင်တော်မြတ်အနေဖြင့် ရွာနှင့်မနီးလွန်းမဝေးလွန်းဘဲ သွားခြင်းပြန်ခြင်းအတွက် သင့်လျော်ပြီး ဥပါသကာများအနေဖြင့် သွားရောက်လိုသည့်အခါ အလွယ်တကူ သွားရောက်နိုင်သော၊ နေ့အချိန် လူသူမရှုပ်လွန်းသော၊ ညအချိန် အသံမဆူညံဘဲ ဆိတ်ငြိမ်သော၊ တောရိုင်းတိရစ္ဆာန်တို့၏ အော်ဟစ်သံ မရှိသော၊ အများ မျက်ကွယ်နေရာ၊ ဆိတ်ငြိမ်စွာ နေထိုင်ရန် သင့်လျော်သော နေထိုင်စရာလိုအပ်ကြောင်း သိမြင်တော်မူသည် (ဝိ ၃၊ ၄၉)။ ဘုရင် ဗိမ္ဗိသာရတွင် ဝါးရုံများ ထိုးထိုးထောင်ထောင် ပေါက်ရောက်နေသောကြောင့်



သည်။ သဥ္စယသည် မိမိ၏တပည့်အချို့ ဆုံးရှုံးတော့မည်ကို ကြားသိရသောအခါ အကယ်၍ ၎င်း(သာရိပုတ္တာနှင့် မောဂ္ဂလ္လာန)တို့ ဆက်လက်၍ (မိမိအောက်မှာ) နေမည်ဆိုလျှင် မိမိ၏ လက်ထောက်ဆရာအဖြစ် ခန့်အပ်မည်ဖြစ်ကြောင်း ကမ်းလှမ်းသည်။ သို့ရာတွင် မိတ်ဆွေနှစ်ယောက်တို့သည် သဥ္စယ၏ အခြားတပည့်များနှင့်အတူ ဗုဒ္ဓရှင်တော်မြတ်ထံ သွားရောက်ခဲ့ကြသည် (ဝိ ၄၊ ၅၀)။ ဤရုတ်တရက်ဖြစ်ရပ်သည် ရာဇဂြိုဟ် (မြို့သူမြို့သားတို့)၏ ထူးခြားသည့် စိတ်ဝင်စားမှုကို ဖြစ်ပေါ်စေပြီး မြတ်ဗုဒ္ဓ၏ ကျော်စောသတင်း တိုးတက်သွားသည်။

သို့ရာတွင် မြတ်ဗုဒ္ဓ၏တပည့်အချို့ မြတ်ဗုဒ္ဓ၏အသက်ကို လုပ်ကြံသည်အထိ ဆန့်ကျင်ခဲ့သည်မှလည်း ရာဇဂြိုဟ်မြို့မှာပင် ဖြစ်သည်။ ဘဝင်မြင့်ပြီး ရည်ရွယ်ချက်ကြီးမားလျက် မြတ်ဗုဒ္ဓ၏ ညီတစ်ဝမ်းကွဲတော်စပ်သူ ဒေဝဒတ္တက မိမိအနေဖြင့် သံဃာ့ပရိသတ်အား ဦးဆောင်နိုင်ရန် ဗုဒ္ဓအား အနားယူဖို့တောင်းဆိုသည်။ ယင်းတောင်းပန်မှုကို မြတ်ဗုဒ္ဓက အခိုင်အမာငြင်းဆိုတော်မူသည်။ ငြင်းခံရသည်ကို ရှက်သွားသော ဒေဝဒတ္တသည် (ဗုဒ္ဓအား) လုပ်ကြံရန် ကြံစည်သည်။ ဗုဒ္ဓရှင်တော်မြတ်ဂိဇ္ဈကုဋ်တောင်အရိပ်၌ စင်္ကြံလျှောက်နေစဉ် ဗုဒ္ဓထံ ကျောက်တုံးကြီးကို လိမ့်ချသည်။ ဗုဒ္ဓ၏ခြေမတော်၌ ထိခိုက်သွားသည် (ဝိ ၄၊ ၃၅၃)။ ဤကြံစည်မှု မအောင်မြင်သောအခါ ဒေဝဒတ်သည် ဘုရင့်ဆင် အိမ်တော်ထိန်း ဆင်ဦးစီးများအား ကြီးမားပြီး စိတ်ဆတ်သည့် နာဠာဂိရိဆင်ကို မြတ်ဗုဒ္ဓကြွလာသည့်လမ်းသို့ လွှတ်ရန် သွေးဆောင်သည်။ တစ်နံနက်၌ ဗုဒ္ဓရှင်တော်မြတ်သည် ရာဇဂြိုဟ်မြို့ထဲ၌ ဆွမ်းခံလှည့်လည်စဉ် နာဠာဂိရိဆင်ပြောင်ကြီးနှင့် ထိပ်တိုက်တွေ့ရသည်။ မြတ်ဗုဒ္ဓနှင့် အတူရှိနေကြသည့် ရဟန်းတော်များက နောက်သို့ပြန်ဆုတ်ရန် မြတ်ဗုဒ္ဓအား တောင်းပန်ကြသည်။ သို့သော် ဗုဒ္ဓသည် ရှေ့သို့တက်၍ တည်ငြိမ်စွာလျှောက်သွားတော်မူသည်။ လူအများသည် မည်သို့ ဖြစ်လာမည်ကို ကြည့်ရှုရန် အိမ်အမိုးပေါ်သို့ တက်ကြသည်။ ‘သဒ္ဓါတရား နည်းပါးသူ မြတ်ဗုဒ္ဓအား မယုံကြည်သူ အမြင်မှန် နည်းပါးသူတို့က “ဤရဟန်း

သည် နောက်သို့ပြန်ဆုတ်သင့်၏။ နောက်သို့မဆုတ်လျှင် ဤဆင်ထီးကြီး အန္တရာယ်ပြု (ခံရ)တော့မည်''ဟု ဆိုကြသည်။ သဒ္ဓါတရားရှိပြီး (ဗုဒ္ဓရှင်တော်မြတ်အား) ယုံကြည်သူ အသိပညာ နားလည်မှုရှိသူတို့က ''ဤသတ္တဝါ (ဆင်ပြောင်)ကြီးသည် မဟာပုရိသအစစ် (ဗုဒ္ဓရှင်တော်မြတ်)အား တွေ့ရပေတော့မည်''ဟု ဆိုကြသည်' (ဝိ ၄၊ ၃၅၅)။ ဗုဒ္ဓရှင်တော်မြတ်သည် နာဠာဂိရိဆင်ပြောင်ကြီးအား မေတ္တာစာတ်ဖြင့် ဖြန့်ကြက်လိုက်ပြီး (ဆင်ပြောင်ကြီးအား) ငြိမ်သက်သွားစေလိုက်သဖြင့် ဆင်ပြောင်ကြီးသည် မြတ်ဗုဒ္ဓ၏ဘေး၌ လာရပ် (လျက်ဒူးထောက်) သည်။ ဗုဒ္ဓက ဆင်ပြောင်ကြီးဦးခေါင်းကို လက်တော်ဖြင့် ပွတ်သပ်ပေးသည်။

မြတ်ဗုဒ္ဓသည် ဗောဓိဉာဏ်ကို ရပြီးနောက် ဒုတိယ၊ တတိယနှင့် စတုတ္ထမြောက်ဝါတို့ကို ရာဇဂြိုဟ်မြို့၌ ကုန်လွန်တော်မူသည်။ နောက် ၁၃ နှစ်နှင့် ၁၅ နှစ်ကြာပြီးနောက် တစ်ဖန် ကြွရောက်(ဝါဆို)လျက် နောက်တစ်ကြိမ်တွင် နောက်ဆုံး ပရိနိဗ္ဗာန်စံလွန်တော်မမူမီ ကြွရောက်ခဲ့ပြီး ရာဇဂြိုဟ်၌ သာဝတ္ထိကလွဲပြီး အခြားနေရာ အားလုံးထက် ပိုမိုများပြားသည့် တရားဒေသနာတော်များ ဟောကြားတော်မူခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူ၍ မကြာမြင့်မီပင် မဂဓမြို့တော်ကို ပတ္တနား(ပါဋလိပုတ်)မြို့သို့ ရွှေ့ပြောင်းသွားပြီး ရာဇဂြိုဟ်သည် ဆုတ်ယုတ်သွားခဲ့သော်လည်း ရာစုနှစ်ပေါင်းများစွာ ဗုဒ္ဓဝါဒ၏ အချက်အချာနေရာအဖြစ် ဆက်လက်တည်ရှိခဲ့သည်။

အလက်စန္ဒာ ကန်နင်ဟမ်သည် ဗုဒ္ဓစာပေကျမ်းဂန်များနှင့် တရုတ်ဘုရားဖူး ရဟန်းတော်များ၏ မှတ်တမ်းများ၌ ဖော်ပြထားသည့် နေရာများအား ကြိုးစားဖော်ထုတ်ရန် ၁၈၆၁–၆၂ နှင့် ၁၈၇၁–၇၂ နှစ်များ၌ နှစ်ကြိမ် ရာဇဂြိုဟ်သို့ လာရောက်ခဲ့သည်။ ထိုအချိန်မှစ၍ ရှေးဟောင်းသုတေသနပညာရှင်များသည် အချိန်များစွာ ရာဇဂြိုဟ် ပတ်ဝန်းကျင်ကို တူးဖော်ခဲ့ကြသည်။ ဗုဒ္ဓဘာသာဝင်များ စိတ်ဝင်စားဖွယ်နေရာအများစုသည် သာယာကျယ်ပြောလှသည့် ဧရိယာအတွင်း ကျဲပြန့်နေသဖြင့် ထိုနေရာများသို့ သွားရောက်ရာ၌ များစွာလမ်းလျှောက်ရသည်။ ဘုရား



ဖူးများသည် တစ်ခါတစ်ရံ လုယက်ခံရတတ်ပြီး အဖော်မပါဘဲ တောင်ကုန်း သို့မဟုတ် တောတန်းများသို့ မသွားရန် အကြံပြုထားသည်။

## ကြည့်ရှုဖွယ်

### ရာဇဂြိုဟ်မြို့သစ်

မြတ်ဗုဒ္ဓလက်ထက်က မဂဓနိုင်ငံသည် စွမ်းအင်ကြီးမားလာပြီး မြို့တော်ကို ကြာမြင့်စွာကတည်းက အခြေချနေထိုင်သည့် တောင်ကုန်းများအထဲမှ လွင်ပြင်သို့ ပြောင်းရွှေ့နိုင်လောက်အောင်ပင် ယုံကြည်မှုရှိလာသည်။ မည်သည့်အချိန်က ရွှေ့ပြောင်းခဲ့ကြောင်းကို တိပိဋကပါဠိတော်၌ အတိအကျ ဖော်ပြမထားသော်လည်း ဖာဟီယန်က မြို့တော်တည်သစ်ဆောက်မှုကို အဇာတသတ္တု (ဆောင်ရွက်ခဲ့သည်)ဟု ယူဆပြီး ဟူယင်ဆန်ကမူ မြို့တော်သစ်ကို ဘုရင်ဗိမ္ဗိသာရ တည်ဆောက်ခဲ့ကြောင်း ဆိုသည်။ ခမည်းတော်မင်းကြီး စတင်တည်ဆောက်ခဲ့သည်ကို သား (အဇာတ သတ္တု)က ပြီးဆုံးအောင် ဆောင်ရွက်ခဲ့သဖြင့် မြို့တော်ကို နှစ်ယောက်လုံး တည်ဆောက်ခဲ့သည်ဟု ယူဆလျှင် သင့်မြတ်ပါသည်။

ဖာဟီယန်လက်ထက်က အုတ်တံတိုင်း (မြို့ရိုး)အတွင်း ကျောင်းတိုက်ကြီးနှစ်ခု ရှိသည်။ သို့ရာတွင် ထိုအချိန်ကပင် မြို့တော်၏ခမ်းနားကြီးကျယ်မှုမှာ ခပ်စောစောကတည်းက လျော့ကျသွားခဲ့ပြီ ဖြစ်သည်။ နောက်ရာစုနှစ် နှစ်ခုအကြာ ဟူယင်ဆန် ရောက်လာသောအခါ ဟူယင်ဆန်သည် စွန့်ပစ်ထားသည့် အပျက်အစီးများကိုသာ တွေ့ရတော့သည်။ ရာဇဂြိုဟ်မြို့သစ်၏ အုတ်တံတိုင်းများသည် ပုံမှန်မဟုတ်သည့်စတုဂံပုံစံ အရှည် ၎းကီလိုမီတာရှိပြီး အချို့နေရာများတွင် သုံးကီလိုမီတာခွဲခန့် မြင့်သည်။ ဘုရားဖူးသည် အနောက်ဘက် အုတ်တံတိုင်းထိပ်ပေါ်ကို တက်ကြည့်မည်ဆိုလျှင် အနောက်ဘက်၌ ကုန်းကမူကြီးတစ်ခု တွေ့ရှိရမည်ဖြစ်သည်။ ယင်းသည် အသောကမင်းကြီးတည်ခဲ့သည့် ရောမစေတီကြီးတစ်ခု၏ အပျက်အစီးနေရာဖြစ်သည်။ ၁၉၀၅–ခုနှစ်တွင် ဤနေရာ၌ ရှေးဟောင်းသုတေသနတူးဖော်မှုများရှိခဲ့ပြီး ၁၉၀၆–ခုနှစ်တွင် တစ်ခု

'နက်ရှိုင်းသော၊ ကြည်လင်သော၊ အေးမြသော၊ သန့်ရှင်းသော၊ နားနေရန် နေရာကောင်းရှိသော၊ ငါးများလိပ်များ ပွင့်လန်း ကြာပန်းရိုင်းများနှင့် ပြည့်နေသော (ရေကန်အဖြစ်)' ဖော်ပြတော်မူခဲ့သည် (ဝိ ၁၊ ၁၄၈)။

အခါတစ်ပါး၌ အရှင်အာနန္ဒာသည် ဤတပေါဒါ၌ ရေချိုးရန်ကြွလာပြီး ကောကနုဒပရိဗိုဇ်နှင့်တွေ့ဆုံပြီး ဆွေးနွေးစကားဆိုခဲ့ကြောင်းနှင့် မဟာကစ္စာနဘဒ္ဒေကရတ္တသုတ်အရ သမိဒ္ဓိအမည်ရှိ ရဟန်းတော်သည် ရေချိုးပြီးနောက် နေဆာလှုံနေစဉ် နတ်သားတစ်ယောက် ချဉ်းကပ်ခဲ့ကြောင်း သိရသည်။ ဤရေပူစမ်းများသည် အိန္ဒိယ၏ ချမ်းအေးသောရာသီ နံနက်ခင်းအချိန်၌ ရေနွေးချိုးလိုကြသော ရဟန်းတော်များ စည်ကားလျက်ရှိသည်မှာ သေချာသည်။ ဟူယင်ဆန် ရာဇဂြိုဟ်မြို့သို့ရောက်သွားသောအခါ တပေါဒါရုံသည် ပြည်သူအများ ရေချိုးသည့် နေရာအဖြစ်သို့ တိုးတက် (ပြောင်းလဲ)သွားပြီဖြစ်သည်။ ဟူယင်ဆန်က ဤသို့ဆိုသည် 'ရေပူစမ်းများ၏ နှုတ်ခမ်းများ၌ ပန်းပုထွင်းကျောက်များ ရှိကြ၏။ အချို့ ခြသေ့်များ သဏ္ဌာန်ရှိပြီး အချို့မှာ ဆင်ဖြူများ၏ ဦးခေါင်းသဏ္ဌာန်၊ အချို့မူ ရေထွက်ပြွန်များ တည်ဆောက်ထား၏။ ယင်းရေပြွန်မှတစ်ဆင့် အမြင့်မှရေစီးဆင်း၏။ အောက်ဘက်၌ ရေကန်ကဲ့သို့ ရေသိုလှောင်ထားသည့် ကျောက်ရေခွက်များရှိ၏။ ဤနေရာ၌ ဒေသတိုင်းမြို့ရွာတိုင်းမှ လူအများ ရေချိုးရန် လာရောက်ကြ၏။ မည်သည့်ရောဂါမဆို စွဲကပ်နေကြသူများ မကြာခဏ ရောဂါပျောက်ကင်း သွားကြ၏။ ရေပူစမ်း၏ဝဲယာတို့၌ စေတီတော် အများအပြားရှိပြီး ဘုန်းတော်ကြီးကျောင်း အပျက်အစီးများ နီးကပ်စွာတည်ရှိကြ၏။ ထိုနေရာ အားလုံးတွင် ပွင့်တော်မူကြပြီး ဘုရားရှင်အဆူဆူတို့ သီတင်းသုံးနေထိုင်ပြီး စင်္ကြံလျှောက်တော်မူခဲ့ဖူးကြ၏။ မြတ်စွာဘုရားရှင်တို့ ယင်းသို့ပြု(လမ်းလျှောက်တော်မူခြင်းများ)အတွက် ခြေရာတော်များ ယနေ့တိုင် တွေ့မြင်နိုင်သေး၏။ တောင်ကုန်းများဝန်းရံနေပြီး ရေရလွယ်သည့် ထိုနေရာများ၌ ကိုယ်ကျင့်တရားနှင့် အသိပညာ ကြီးမြတ်သူများက အမြင့်တွင်နေရလျက် ရသေ့ရဟန်းများစွာလည်း ငြိမ်းချမ်း ဆိတ်ငြိမ်စွာ နေထိုင်ကြ၏'။



ဝေဠုဝန (ဝါးတော) ဟုခေါ်သည့် နှစ်သက်ဖွယ် ခြံတစ်ခုရှိသည်။ ယင်းဥယျာဉ်ခြံသည် မြို့တော်မြောက်ဘက် ပင်မဂိတ်နှင့် မဝေးသောကြောင့် မင်းကြီးသည် ထိုဥယျာဉ်ကို မြတ်ဗုဒ္ဓအား လှူဒါန်းရန် ဆုံးဖြတ်လိုက်သည်။ ပန်းခြံပိုင်ဆိုင်မှု လွှဲပြောင်းပေးသည့် အခမ်းအနားကို အစဉ်အလာနှင့်အညီ ခံယူသူ၏လက်ထဲသို့ ရေစက်သွန်းချ၍ ပြုလုပ်ခဲ့သည်။ 'မဂဓဘုရင် သေနိယဗိမ္ဗိသာရသည် မင်းခမ်းမင်းနားတွင် အသုံးပြုသည့် ရွှေခွက်ကိုယူလျက် မြတ်ဗုဒ္ဓအား ရည်ညွှန်း၍ (ရေစက်ချ)၏။ မင်းကြီးက မြတ်ဗုဒ္ဓအား ''အရှင်ဘုရား၊ တပည့်တော်သည် ရှင်တော်ဘုရား အမှူးရှိသည့် ရဟန်းသံဃာတော်များအား ဤနှစ်လိုဖွယ် ဝေဠုဝနဥယျာဉ်ကို လှူဒါန်းပါသည်ဘုရား''ဟု လျှောက်ထား၏။ သို့ဖြင့် မြတ်ဗုဒ္ဓသည် ဥယျာဉ်ကို အလှူခံတော်မူသည်။ ထို့နောက် မြတ်ဗုဒ္ဓသည် မင်းကြီးအား ဓမ္မစကားဖြင့် ဝမ်းသာစေ၊ ပျော်ရွှင်စေ၊ စိတ်အားထက် သန်စေ၊ နှစ်သက်စေလျက် နေရာမှထပြီး ထွက်ခွာတော်မူသည်' (ဝိ ၃၊ ၄၉)။

ဝေဠုဝန်ဥယျာဉ်ထဲတွင် ကလန္ဒကနိဝါပ = ရှဉ့်နက်တို့ကို အစာကျွေးသည့်နေရာ၊ မောရနိဝါပ = ဥဒေါင်းတို့ကို အစာကျွေးသည့်နေရာ၊ သုမာဂဓာ = လှပသည့် ကြာပန်းအိုင်ဟူ၍ တည်ရာဌာန များစွာရှိသည်။ သုမာဂဓာနေရာတွင် ဗုဒ္ဓရှင်တော်မြတ်သည် ကမ္ဘာလောက၏ မူလဘူတကို တွေးတောကြံဆခြင်း၏ အချည်းနှီးဖြစ်ရပုံ (လောကစိန္တာသုတ်) ဒေသနာကို ဟောကြားခဲ့သည်[၂၀] (သံ ၃၊ ၃၈၈)။ ယခုအခါ သုမာဂဓာ ရေကန်မျှသာ တည်ရှိတော့သည်။ အရိပ်အာဝါသ ကောင်းမွန်ပြီး ငြိမ်းချမ်းလှသည့် ဝေဠုဝန်သည် မြတ်ဗုဒ္ဓ၏ အရေးပါသော ဒေသနာတော်များ ဟောတော်မူရာဌာန ဖြစ်လာသည်။ အဘယရာဇ ကုမာရသုတ် (မ ၂၊ ၅၄)၊ ရထဝိနီတသုတ် (မ ၁၊ ၁၉၈)၊ မဟာဝစ္ဆဂေါတ္တသုတ်

---

[၂၀] မူရင်း လောကစိန္တာသုတ်ပါဠိတော်၌မူ ဟောကြားသည့်နေရာကို ကလန္ဒကနိဝါပဟု ဆိုပြီး သုမာဂဓာရေကန်၌ ရေးကဖြစ်ဖူးသည်ကိုသာ ရည်ညွှန်းသည်။ ဥဒုမ္ဗရိကသုတ် (ဒီ ၃၊ ၃၂) တွင်မူ မြတ်ဗုဒ္ဓသည် ဂိဇ္ဈကုဋ်တောင်မှ ဆင်းသက်၍ သုမာဂဓာရေကန်၏ ကမ်းအနီး၌ ရှိသော မောရနိဝါပသို့ ကြွတော်မူကြောင်းဆိုသည် (ဘာသာပြန်သူ)။









(မ ၂၊ ၁၅၆)နှင့် အခြားသုတ္တန် ဒါဇင်ပေါင်း များစွာကို (ဝေဠုဝန်ကျောင်းတိုက်၌) ဟောကြားတော်မူခဲ့သည်။

ဘက္ကုနိ ဓမ္မဒိန္နာက ဝိသာခသူဌေးအား စူဠဝေဒလ္လသုတ်ကို ဟောကြားခြင်း (မ ၁၊ ၃၇၂)၊ အစိရဝတ သာမဏေက ဒန္တဘူမိသုတ်ကို ဇယသေနမင်းသားအား ဟောကြားခြင်း (မ ၃၊ ၁၆၉)တို့သည် ဤဝေဠုဝန်၌ ဖြစ်သည်။ တိဗက်အစဉ်အလာ မှတ်တမ်းအရ အသင်္ဂသည် ဝေဠုဝန်ဥယျာဉ်၌ ဘုရားကျောင်းငယ်တစ်ခု တည်ဆောက်ခဲ့ပြီး ထိုကျောင်း၌ အတန်ကြာနေထိုင်ခဲ့သည်။ ဖာဟီယန် ဝေဠုဝန်သို့ ရောက်လာသောအခါ ဘုန်းကြီးကျောင်းတစ်ခု တွေ့ရသည်။ ယင်း (ဖာဟီယန်တွေ့ရသော) ကျောင်းတိုက်၌ နေကြသော ရဟန်းတော်များသည် လမ်းများကို တံမြက်လှည်းခြင်း၊ သစ်ပင်များကို ရေလောင်းပေးခြင်းတို့ဖြင့် ဝေဠုဝန်ဥယျာဉ်ကို ထိန်းသိမ်းနေကြသည်။ ဘုရားဖူးသည် ချောင်းငယ်ကို ဖြတ်လျက် ဝေဠုဝန်ထဲသို့ ဝင်လိုက်မိသောအခါ ဘယ်ဘက်၌ တောင်းကုန်းငယ်များကို တွေ့ရသည်။ ထို(တောင်ကုန်း)အောက် (မြေကြီး ထဲ)၌ စေတီများ၊ ဘုရားကျောင်းများ တည်ရှိနေသည်မှာ မြေကြီးလက်ခတ်မလွဲဖြစ်သည်။ ယင်းနေရာကို ၁၉၀၅–ခုနှစ်နှင့် ၁၉၀၆–ခုနှစ်များ၌ တူးဖော်ခဲ့ပြီး အလွန်အရေးပါသည့် ရှေးဟောင်းပစ္စည်းအနည်းငယ်မျှသာ တွေ့ရှိခဲ့ရသည်။

**တပေါဒါရုံ**

ဝေဠုဝန်ကျောင်းတော်မှနေ၍ ဗိဘာရတောင်ခြေသို့ စီးဆင်းသွားသော ချောင်းငယ်ကိုဖြတ် (ထိုး)ထားသည့် တံတားဆီ သို့ ဈေးကိုဖြတ်လျက် အနည်းငယ် လမ်းလျှောက်ရသည်။ လှေကားထစ်များကိုတက်ပြီး လက္ချမီးနာရီယန် (ဟိန္ဒူ)ဘုရားကျောင်းသို့ ရောက်သွားသည်။ ဗုဒ္ဓလက်ထက်တော်အခါက ဤနေရာတစ်ခုလုံးသည် တပေါဒရုံရေပူစမ်းဥယျာဉ် အဖြစ်ထင်ရှားသည်။ ဗုဒ္ဓရှင်တော်မြတ်နှင့် တပည့်သာဝကများသည် ရေပူများထွက်၍ ဤတပေါဒါရေပူစမ်း၌ ရေချိုးရန် မကြာခဏကြွရောက်ကြသည်။ အရှင်မဟာမောဂ္ဂလ္လာန်က ဤတပေါဒါ ရေကန်ကို






ယနေ့ခေတ်တွင် ဟိန္ဒူမဟုတ်သူများကို ရေချိုးခွင့်ပြုသော်လည်း ရေပူစမ်းများသည် (ဟိန္ဒူ)ဘုရားကျောင်း၏ တစ်စိတ်တစ်ဒေသဖြစ်နေသည်။ မြတ်ဗုဒ္ဓ သိတော်မူခဲ့သည့်အတိုင်းဖြစ်သော တပေါဒါရုံ၏ ပတ်ဝန်းကျင်သစ်တောများ ကားမရှိတော့ပြီ။ သို့ရာတွင် ဘုရားဖူးသည် ယင်း (တပေါဒါရုံ)၏ နှစ်သက်ဖွယ် လန်းဆန်းစေသည့် ရေပူစမ်းများကို တွေ့မြင်နိုင်ဆဲဖြစ်သည်။

## ပိပ္ပလိဂူ

လက္ချမီးနာရိယန် ဟိန္ဒူဘုရားကျောင်းမှ ထွက်ခွာပြီးတောင်ကုန်းပေါ်သို့ တက်သွားလျှင် ဘုရားဖူးသည် မကြာမီ ကျောက်တုံးကြီးများဖြင့် ပြုလုပ်ထားသည့် မျှော်စင်တစ်ခုသို့ရောက်သည်။ ဤမျှော်စင်သည် တစ်ချိန်က (ရာဇဂြိုဟ်) မြို့တော်ဟောင်း မြောက်ဘက် ခံတပ်ကတုတ်၏ တစ်စိတ်တစ်ဒေသဖြစ်ခဲ့သည်။ ဤမျှော်စင်အောက်ခြေရှိ အပေါက် များစွာအနက် အကြီးဆုံး(ဖြစ်ဖွယ်ရှိသည့်)တစ်ခုမှာ မြတ်ဗုဒ္ဓလက်ထက်က ပိပ္ပလိဂူအဖြစ်သိကြပြီး အရှင်မဟာကဿပ ကျောင်းအဖြစ်အသုံးပြုခဲ့သော နေရာဖြစ်သည်။ အခါတစ်ပါး၌ မြတ်ဗုဒ္ဓသည် နာမကျန်းဖြစ်နေသည့် အရှင်မဟာကဿပထံကြွတော်မူပြီး အရှင်မြတ်အား ဗောဇ္ဈင် ခုနစ်ပါးတရားကို ဟောကြားတော်မူသည် (ဥဒါန၊ စာ–၄)။ အခါတစ်ပါး၌မူ အရှင်မဟာကဿပသည် ပိပ္ပလိဂူ၌ ခုနစ်ရက်ပတ်လုံး နိရောဓသမာပတ်ဝင်စားတော်မူကြောင်းလည်း သိရ သည် (ဥဒါန၊ စာ–၄)။

## သတ္တပဏ္ဏိလိုဏ်ဂူ

တောင်ကုန်းပေါ်ရှိ ဘယ်ဘက်သို့ ခွဲထွက်သွားသောလမ်းမှာ ရှေးဟောင်း ဂျိန်းဘုရားကျောင်းနှင့် ဟိန္ဒူဘုရားကျောင်းသို့ ရောက်သွားပြီး ပထမ (တွေ့ရသည့် ဂျိန်းဘုရားကျောင်း)၌ လှပသည့် ရုပ်တုရုပ်ထွင်းများ တစ်ဒါဇင်ခန့်ရှိသည်။ ဘုရားဖူးသည် လာလမ်းအတိုင်း ပြန်ဆင်းခဲ့ပြီး ရှေ့သို့ဆက်သွားပါမူ လမ်းသည် ညာဘက်သို့ကွေ့လျက် တောင်ကုန်း အောက်ဘက်သို့ ဆင်းပြီးနောက် သတ္တပဏ္ဏိလိုဏ်ဂူသို့ ရောက်

သည်။ ကျောက်ဆောင်ထုထပ်ပြီး အောက်ခြေရှိ နှလုံးတုန်ဖွယ် မြင်ကွင်းကျယ်ကို ရှုမြင်ရလျက် လူသူအရောက်အပေါက် နည်းသည့် ဤနေရာကား ဗုဒ္ဓဝါဒသမိုင်း၌ အရေးပါသော ဖြစ်ရပ်တစ်ခု၏ (အထိမ်းအမှတ်) နေရာဖြစ်သည်။ ဗုဒ္ဓသည် ဤနေရာ၌ မကြာခဏ သီတင်းသုံးတော်မူခဲ့ပြီး ဤနေရာကို တစ်ခါတစ်ရံ ပြုသစ်စရဟန်းတော်များ အတွက် နေထိုင်စရာ မတွေ့ရှိသေးမီ နေထိုင်ရန် နေရာအဖြစ် အသုံးပြုခဲ့သည်[၂၁]။ သို့ရာတွင် သတ္တပဏ္ဏိလိုဏ်ဂူ၏ ကြီးကျယ်မှုသည် ဤဂူ၌ ဘီစီ ၄၈၃–ခုနှစ် ပထမသံဂါယနာတင်ပွဲ ကျင်းပခဲ့ခြင်းကြောင့်ဖြစ်သည်။

ဗုဒ္ဓ ပရိနိဗ္ဗာန်စံတော်မူပြီးနောက် သုံးလအကြာ ရဟန္တာငါးရာတို့သည် ဓမ္မဝိနယကို နောင်လာနောင်သားတို့ ဆောင်ယူသွားနိုင်ရန် ဤလိုဏ်ဂူ၌ စုပေါင်းရွတ်ဆို(၍ သံဂါယနာတင်)ခဲ့ကြသည်။ ဝေဟာယ (ဝေဘာရ)တောင် မြောက်ဘက်စောင်းရှိ သစ်ပင်များစွာ ပေါက်ရောက်လျက် အရိပ်အာဝါသကောင်းသော ကျောက်ဆောင် လွင်ပြင် နေရာဖြစ်သည့် ဤသတ္တပဏ္ဏိလိုဏ်ဂူ၌ (ပထမ)သံဂါယနာတင်ရန် နှိုးဆော်တိုက်တွန်းသည်မှာ အရှင်မဟာကဿပမထေရ်ကြီးဖြစ်သည်။ ရာဇဂြိုဟ်ကဲ့သို့သော မြို့သည်သာ ဤမျှများပြားသော ရဟန်းတော်များ ဆွမ်းကွမ်းလုံလောက်စွာ ရနိုင်မည်ဖြစ်သောကြောင့် ပထမသံဂါယနာ တင်ရာဌာနအဖြစ် ရွေးချယ်ခဲ့ခြင်း ဖြစ်နိုင်သည်။ မဟာဝံသ၌ ဘုရင် အဇာတသတ္တုသည် သံဂါယနာအတွက်ပြင်ဆင်ရာ၌ ‘ဝေဘာရကျောက် တောင်ဘေးရှိ သတ္တပဏ္ဏိလိုဏ်ဂူ ဝင်ပေါက်၌ ခမ်းနားသည့် ခန်းမဆောင် တစ်ခုတည်ဆောက်စေပြီး (ယင်းသည်) နတ်တို့စည်းဝေးသည့် ခန်းမဆောင်နှင့်တူသည်။ အဇာတသတ်သည် ထိုခန်းမဆောင်ကို နည်းမျိုးစုံ တန်ဆာဆင်လျက် ရဟန္တာအရေအတွက်နှင့်အညီ အဖိုးတန် ကော်ဇောများ ခင်းထားစေသည်’ဟု ပြဆိုသည်။

---

[၂၁] ပါရာဇိကဏ်ပါဠိတော်လာ ဒုဋ္ဌဒေါသသိက္ခာပုဒ် (ဝိ ၁၊ ၂၄၅)နှင့် စူဠဝဂ္ဂပါဠိတော် သတိဝိနယခန်း (ဝိ ၄၊ ၁၉၁) လာ အရှင်ဒဗ္ဗမထေရ်က ရဟန်းတော်များအား နေရာချထားသည့် အခန်းကို မှီး၍ ဤသို့ယူဆဖွယ်ရှိသည် (ဘာသာပြန်သူ)။



အရှင်မဟာကဿပသည် အရှင်ဥပါလိအား ဝိနည်းကိုမေးမြန်းပြီး သုတ္တန်နှင့်အဘိဓမ္မာကို အရှင်အာနန္ဒာအား မေးမြန်းသည်။ ဤ(မေးမြန်းခြင်း)အမှု ပြီးဆုံးသောအခါ ရဟန္တာငါးရာတို့ ဓမ္မနှင့်ဝိနယကို တစ်ညီတစ်ညွတ်တည်း (စုပေါင်း) ရွတ်ဆိုကြသည်။ နှောင်းခေတ်ရာစုနှစ်များတွင် ရဟန်းတော်များသည် နောက်ဆုံး ပေထက်အက္ခရာတင်သည်အထိ (ပထမသံဂါယနာ၌) ရွေးချယ်သုတ်သင်ထားပြီးသည့် ဓမ္မဝိနယ အစိတ်အပိုင်းများကို ပုံမှန်စုရုံးရွတ်ဆို (အာဂုံဆောင်)ခဲ့ကြသည်။ ယနေ့ ကျွန်ုပ်တို့ဖတ်ရှုရသည့် တိပိဋကပါဠိသည် (ဤ)သတ္တပဏ္ဏိလိုဏ်ဂူ၌ ရဟန္တာငါးရာတို့ ရွတ်ဆိုခဲ့သည့် ဓမ္မဝိနယနှင့် လုံးဝ တစ်ထပ်တည်းတူညီသည့် ပါဠိတော်ဖြစ်သည်။

**သောဏဘဏ္ဍာဂူများ** (Sonbhandar Caves)

ကားလမ်းမကြီးသည် ဈေးမှ ဘယ်ဘက်၌ ဝေပုလ္လတောင်နှင့် ညာဘက်၌ ဝေဘာရတောင် အကြားမှ တစ်ချိန်က ရာဇဂြိုဟ်မြို့၏ ပင်မမြောက်ဘက်ဂိတ် တည်ရှိခဲ့ရာ တောင်ဘက်သို့ သွားသည်။ မြို့တော်အုတ်တံတိုင်း အကြွင်းအကျန်များ တောင်ကုန်းပေါ် တက်သွားသည်ကို ဘယ်ဘက်၌ တွေ့နိုင်သည်။ တစ်ကီလိုမီတာကျော်ကျော်လောက် သွားပါက ညာဘက်သို့ လမ်းငယ်တစ်ခု ခွဲထွက်သွားသည်။ ဤနေရာတွင် ရာစုနှစ်ပေါင်းများစွာ ဘာသာရေးဆိုင်ရာ ဘုရားကျောင်းအဖြစ် အသုံးပြုခဲ့ပုံရသည့် မဏိယာရမထ (Maniyar Math)ကို တွေ့နိုင်သည်။ ယင်းသည် မြတ်ဗုဒ္ဓထံသို့ ယက္ခ(ဘီလူး)တစ်ယောက် လာရောက်တွေ့ဆုံသောနေရာ (သံ ၁၊ ၂၁၀)အဖြစ် ဖော်ပြခံရသည့် မဏိမာလိကာစေတီ ဖြစ်ဖွယ်ရှိသည်။ မဏိယာရမထကို တူးဖော်သောအခါ လှပသည့် အင်္ဂတေကျောက်နု(လက်ရာ) ရုပ်ပုံများတွေ့ရသည်။ (ယင်းရုပ်ပုံများသည်) အိန္ဒိယတွင် (တူးဖော်)တွေ့ရှိပြီး (လက်ရာ)များအနက် ရှေးအကျဆုံး ပုံစံဖြစ်သည်။ ယင်းရုပ်ပုံများသည် ကြာမြင့်စွာကပင် ပျောက်ဆုံးကုန်ပြီး ထိုနေရာမှာလည်း ယခုအခါ စိတ်ဝင်စားမှု နည်းပါးနေပြီဖြစ်သည်။

လောကီရေးရာ ရည်ရွယ်ချက်များအောင်မြင်မှုသည် အချိန်ကာလကြာမြင့်သော် ခါးသီးဖွယ်ဖြစ်ကြောင်း သိမြင်သွားခြင်း၌ အဇာသတ္တုသည် မြတ်ဗုဒ္ဓထံရောက်ရှိလာပြီး စိတ်ပိုင်းဘ၀ ငြိမ်းချမ်းရေးရှာဖွေမှု၏ အကျိုးတရား (ရဟန်းပြုရခြင်း၏ အကျိုးကျေးဇူး)ကို မေးလျှောက်သည်။ မြတ်ဗုဒ္ဓက ရဟန်းတော်တစ်ပါး၏ ပြီးပြည့်စုံသည့် လေ့ကျင့်အားထုတ်မှုအကြောင်းကို ဖော်ပြသည့် သုတ္တန်ရှည်ကြီးတစ်ခုဖြင့် ဖြေကြားတော်မူသည်။ ဗုဒ္ဓရှင်တော်မြတ်သည် အခြားအရေးပါသည့် သုတ္တန်နှစ်ခုကိုလည်း ဤနေရာ၌ ဟောကြားတော်မူသည်။ ယင်းသုတ္တန်များမှာ (ကျောင်းအလှူရှင်) ဇီ၀ကအား (ဟောကြား ခြင်းဖြစ်သည်)။ ပထမသုတ္တန်သည် ဇီ၀ကသုတ်(မ ၂၊ ၃၁)ဖြစ်ပြီး (ဤသုတ္တန်၌) ဗုဒ္ဓရှင် တော်မြတ်က ရဟန်းတော်များ အသားစားနိုင်သည့် အခြေအနေများကို ဟောကြားတော်မူသည်။ ဒုတိယ(ဇီ၀က)သုတ္တန် (အံ ၃၊ ၅၇)ဖြင့် ဥပသကာတစ်ယောက်ဟူသည်ကို သရဏဂုံသုံးပါးတည်ပြီး ငါးပါးသီလဆောက်တည်သူအဖြစ်ဖြင့် ဖွင့်ဆိုဟောကြားတော်မူသည်။

ဇီ၀ကသရက်ဥယျာဉ်ကို ၁၉၅၄–ခုနှစ်တွင် တွေ့ရှိပြီး တူးဖော်ခဲ့သည်။ အုတ်မြစ်များသာကြွင်းကျန်ရစ်တော့သော်လည်း ကျောင်းဝင်းနေရာတွင် ဘဲဥပုံရှည်မျောမျော ခန်းမသုံးခုကို ညွှန်ပြခြင်းက စိတ်ဝင်စားဖွယ်ကောင်းသည်။ ဤဝင်းနေရာသည် ကျောင်းမြေကွက်များ စနစ်တကျမရှိမီ အချိန်ကပင်ဖြစ်ကြောင်း ခေတ်ကာလကို သတ်မှတ်ထားသည်။ ဇီ၀ကတည်ဆောက်ခဲ့သည့် ပုံစံနှင့် အလွန်နီးစပ်မှုရှိလေသည်။

## သျှန်တီစေတီ

ဇီ၀ကသရက်ဥယျာဉ်မှ ထွက်ခွာပြီး အရှေ့ဘက်ကို ဆက်သွားလျှင် ဘုရားဖူးသည် ဓာတ်ကြိုးလှေကား (Chair Lift) နေရာသို့ ရောက်သည်။ ၎င်း(ကြိုးလှေကား)ဖြင့် ဆဟာထတောင်ကုန်းထိပ်သို့ ရောက်သွားသည်။ တောင်ထိပ်ပေါ်၌ ၁၉၆၉–ခုနှစ်က ကျော်ကြားသည့် ဂျပန်ရဟန်းတော် နိချိဖူဂျိတည်ဆောက်ခဲ့ပြီး သပ္ပာယ်လျက် ကောင်းစွာ ထိန်းသိမ်း စောင့်ရှောက်ထားသော သျှန်တီစေတီတော် တည်ရှိသည်။



မဏိယာရမထကို ဖြတ်လျက် လမ်းကျဉ်းအတိုင်း အောက်ဘက်သို့ ဆင်းသွားပါက ဘုရားဖူးသည် လှပသည့် ချောင်းငယ်တစ်ခုကို ဖြတ်ကူးပြီး နောက်ဆုံးတွင် သောဏဘန္ဒဂူများရှိရာသို့ ရောက်သွားသည်။ ဤဂူနှစ်ခုကို ဂျိန်းဘုန်းကြီးများ အသုံးပြုရန်အတွက် အေဒီသုံးရာစုသို့မဟုတ် လေးရာစုတွင် ကျောက်တုံးအရှင်ကို ထွင်းထုထားခြင်းဖြစ်သည်။ ဘယ်ဘက်ဂူတွင် တံခါးနှင့် ပြတင်းပေါက်များရှိသည်။ အပြင်နံရံတွင် အလင်းရောင်ပေးသည့် အပေါက်များနှင့် ဆက်နေသည့် ဝရန်တာတစ်ခုရှိခဲ့ပုံရသည်။ ဘယ်ဘက်ရှိ အပြင်ဘက်ဝင်လမ်းတွင် ကမ္ပည်းကျောက်စာတစ်ခုရှိသည် ‘အလွန်ကျော်ကြားပြီး ဆရာများစွာအလယ်၌ ရတနာတစ်ဆူနှင့်တူသော ဝေရဒေဝပညာရှိကြီးသည် ရသေ့ (ရဟန်း)တို့အား ထိုက်တန်သည့် မင်္ဂလာဂူနှစ်ခုကို ချမ်းသာမှုနှင့် လွတ်မြောက်မှုကိုရရှိရန် ရည်ရွယ်ချက်ဖြင့် ပြုလုပ်စေခဲ့သည်။ ဤ(ဂူ)တွင် မြင့်မြတ်သော ရသေ့များ၏ ရုပ်တုများတည်ထားခဲ့သည်’။ ညာဘက်ရှိ ဂူအမိုးသည် ပြိုကွဲသွားပြီဖြစ်ပြီး နံရံအတွင်းပိုင်း၌ ထွင်းထုထားသည့် ဂျိန်းတိတ္ထက်ရများ၏ ရုပ်ပုံများရှိသည်။

## ဗိမ္ဗိသာရအကျဉ်းထောင်

လမ်းမကြီးဘက်သို့ တစ်ဖန်ပြန်လာပြီး တစ်ကီလိုမီတာခန့် တောင်ဘက်သို့ ဆက်သွားပြီးသောအခါ ဘုရားဖူးသည် ဘယ်ဘက်လမ်းဘေးတွင်ကပ်လျက် ဗိမ္ဗိသာရထောင်ကိုတွေ့ရသည်။ ၆၀–စတုရန်းမီတာခန့်ရှိသည့် ဤအဆောက်အအုံနေရာကြီးကို ၎င်း၏သား အဇာတသတ္တုက ဘုရင်ဗိမ္ဗိသာရအား အကျဉ်းချခဲ့သည့်နေရာဟု သတ်မှတ်ထားသည်။ ဗိမ္ဗိသာရသည် အသက် ၁၅–နှစ်တွင် ထီးနန်းရပြီး ၃၂–နှစ်ခန့်အုပ်ချုပ်ခဲ့သည်။ ၎င်း၏သား အဇာတသတ္တုသည် အာဏာ(ရရှိရေး)အတွက် သည်းမခံနိုင်တော့ဘဲ ၎င်း၏ဖခင်ကို သတ်ဖြတ်ရန်ကြံစည်သည်။ ဤကိစ္စကို ဗိမ္ဗိသာရ သိသွားသောအခါ အလွန် စိတ်မချမ်းသာဖြစ်သွားပြီး ၎င်း၏သားတော်အား ချစ်မြတ်နိုးသဖြင့် ထီးနန်းစွန့်ခဲ့သည်။

ရည်ရွယ်ချက်ကြီးမားသော ဒေဝဒတ္တသည် မြတ်ဗုဒ္ဓနှင့်ညီအစ်ကို

ဝမ်းကွဲတော်စပ်ပြီး အဇာတသတ္တုအား ဖခင်ကို သတ်ဖြတ်ရန် အားပေးအားမြှောက်ပြုသည်။ ဒေဝဒတ်က အဇာတသတ်အား 'မင်းသားဟာ ကြွက်ရှိနေတဲ့စည်ကိုမှ အပြင်က သားရေနှင့် ကြက်ထားတဲ့ လူတစ်ယောက်နှင့်တူနေပေတာကိုး' ဟုဆိုသည် (ဒီ–၄ ၁၊ ၁၂၄)။ သို့ဖြင့် မင်းကြီးကို ထောင်ချပြီး အစားအစာမကျွေးဘဲထားသည်။ မိဖုရားကြီးက အစားအစာကို အတွင်းသို့ တိတ်တဆိတ်သွင်းယူသည်။ ယင်းကို အဇာတသတ်သိသွားသောအခါ မိဖုရားကြီးအား သွားတွေ့ခွင့်မပေးတော့ချေ။ ဗိမ္ဗိသာရမင်းကြီး နတ်ရွာမစံ (မသေ)နိုင်သည်ကို သည်းမခံနိုင်တော့သဖြင့် အဇာတသတ္တုသည် မင်းကြီး၏သွေးကြောကို ဖောက်သည်။ ဤအဆောက်အအုံပျက်နေရာကို ဤဖြစ်ရပ်များဖြစ်ပေါ်ခဲ့သောနေရာအဖြစ် သတ်မှတ်ထားသည်။ နံရံတို့၏ထူထဲခြင်းနှင့် ရှေးဟောင်းသုတေသနတူးဖော်မှုများက ထိပ်တုံးတစ်ခုရှိသည့် အကျဉ်းခန်းတစ်ခုတွေ့ရသောကြောင့်ဖြစ်သည်။ ဗိမ္ဗိသာရသည် ထောင်ချခံနေရစဉ် ဂိဇ္ဈကုဋ်တောင်ပေါ်ရှိ ဗုဒ္ဓရှင်တော်မြတ်အား ဖူးမြော်နိုင်သည်ဟူသော အဋ္ဌကထာကျမ်းများ၌ ဖော်ပြထားချက်မှာလည်း စိတ်ဝင်စားဖွယ် ကောင်းသည်။ ဘုရားဖူးသည် အရှေ့ဘက်မိုးကုတ်စက်ဝိုင်းအောက်၌ ဂိဇ္ဈကုဋ်တောင်ကို အမှန်ပင် ကြည်လင်ပြတ်သားစွာ တွေ့မြင်နိုင်သည်ကို သတိပြုမိပေလိမ့်မည်။

## ဇီဝကသရက်ဥယျာဉ်

လမ်းသည် တောင်ဘက်သို့သွားပြီး နောက်ဆုံး၌ လမ်းဆုံနေရာသို့ ရောက်ရှိသွားသည်။ ညာဘက်လမ်းခွဲသို့ လိုက်သွားပါက ဘုရားဖူးသည် ခင်တန်းအတွင်း ရှင်းလင်းနေသည့် ဇီဝကမ္ဗဝန (ဇီဝကသရက်ဥယျာဉ်)နေရာ အပျက်အစီးများရှိရာသို့ မကြာမီ ရောက်သွားပေလိမ့်မည်။ ဇီဝကသည် ဘုရင်ဗိမ္ဗိသာရ၏ မိသားစုဆရာဝန်ဖြစ်ပြီး နောင်အခါ ဘာသာတရားကိုင်းရှိုင်းသူ မြတ်ဗုဒ္ဓ၏ ဥပါသကာဖြစ်လာသည်။ ဗုဒ္ဓရှင်တော်မြတ် နာမကျန်းဖြစ်သောအခါ ဗုဒ္ဓရှင်တော်မြတ်အားလည်း ပြုစုစောင့်ရှောက်လေ့ရှိသည်။ တစ်နေ့သ၌ ဇီဝကသည် ဤသို့စဉ်းစားမိ၏



'ငါသည် ဗုဒ္ဓရှင်တော်မြတ်အား တစ်နေ့နှစ်ကြိမ် သုံးကြိမ် ဆည်းကပ် ခစားရ၏။ ဂိဇ္ဈကုဋ်တောင်ရော ဝေဠုဝန်ပါ နှစ်နေရာလုံး ဝေးလွန်းလှ၏။ ငါ၏ သရက်ဥယျာဉ်ကား နီးကပ်နေ၏။ ငါ့ဥယျာဉ်မှာ ရှင်တော် ဗုဒ္ဓအတွက် ကျောင်းဆောက်လုပ်ရသော် ကောင်းမြတ်ပေမည်'။ ယင်းသို့စဉ်းစား ကြံစည်မိသည်အတိုင်း 'နေ့နေရာ ညနေရာများ၊ အခန်းများ၊ ကုဋိများ၊ ခန်းမကျယ် (ဆင်ဝင်)များ၊ မြတ်ဗုဒ္ဓအတွက် ဂန္ဓကုဋိတိုက်ခန်းတို့ကို တည်ဆောက်လျက် ၁၈–တောင်မြင့်သည့် ကြေးနီရောင်အုတ်တံတိုင်းကြီးဖြင့် သရက်ဥယျာဉ်ကို ကာရံထား၏' (ဒီ–၄ ၁၊ ၁၂၁)။

ရှေးဟောင်းအထောက်အထားများ အားလုံးက ဇီဝကသရက်ဥယျာဉ်သည် ရာဇဂြိုဟ်မြို့ အရှေ့ဘက်ဂိတ် အပြင်ဘက်၌ တည်ရှိကြောင်း တူညီစွာဆိုကြသည်။ ဘုရားဖူးသည် ဇီဝကသရက်ဥယျာဉ်သို့ မရောက်မီလမ်းသည် ခပ်ရှည်ရှည် ကုန်းကမူတစ်ခုကို ဖြတ်သွားပြီးနောက် တံတားတစ်ခုအား ဖြတ်သန်းရသည်ကို သတိပြုမိပါလိမ့်မည်။ ယင်း (ကုန်းကမူ)သည် အရှေ့ဘက်ဂိတ်ဖြစ်ပြီး ရာဇဂြိုဟ်မြို့၏ ရှေးဟောင်းကျုံးနေရာဖြစ်သည်။

ဇီဝကသရက်ဥယျာဉ်သည် ဗုဒ္ဓရှင်တော်မြတ်၏ အရေးအပါဆုံးသုတ္တန်တစ်ခုဖြစ်သည့် သာမညဖလသုတ္တန် (ကို ဟောကြားသည့်) နေရာဖြစ်သည်။ လရောင်သာသည့် ညတစ်ည၌ အဇာတသတ္တုမင်းသည် ဇီဝကဥယျာဉ်၌ သီတင်းသုံးနေတော်မူသည့် မြတ်ဗုဒ္ဓထံသို့ သွားရောက်(ဖူးမြော်)ရာတွင် သံဃာ့ပရိသတ်ကြီး၏ ဆိတ်ငြိမ်မှု၊ သန့်ရှင်းကြည်လင်မှုတို့ကြောင့် ကြည်ညိုသွားခဲ့သည်။ အဇာတသတ္တုမင်းသားသည် မကြာမီက ခမည်းတော်မင်းကြီးအား သတ်ပြီးခါစ ဖြစ်သဖြင့် ယခုအခါ၌ အမှန်ပင် စိတ်မသက်မသာ ခံစားနေရသည်။ (ဤသည်မှာ မိမိ၏)ရှက်စိတ်ကြောင့်ဖြစ်ရသကဲ့သို့ မိမိ၏သားတော် ဥဒယဘဒ္ဒသည် တစ်နေ့ မိမိအား သတ်ဖြတ်နိုင်ကြောင်း တွေးမိသောကြောင့်လည်းဖြစ်နိုင်သည်။ (သို့ရာတွင်) နောက်ဆုံး၌ (ဤကိစ္စသည် ထင်ထားသည့်အတိုင်း) အမှန်ပင် ဖြစ်လာခဲ့သည်။

အခါတစ်ပါး၌ ဗုဒ္ဓသည် ရာဇဂြိုဟ်နှင့်အလွန်နီး ကပ်ပြီး ဘုရားဖူး ယခုရောက်နေသော နေရာဖြစ်ဖွယ်ရှိသည့် ဒက္ခိဏဂိရိ တောင်ဘက် တောင်ကုန်းဒေသ၌ သီတင်းသုံးတော်မူစဉ် အပိုင်းအစရှည်များ၊ အစဉ် အတန်းများ၊ လေးထောင့်ကွက်များဖြင့် ခင်းကျင်းထားသည့် မဂဓလယ် ကွက်များကို ရှုကြည့်တော်ပြီး အရှင်အာနန္ဒာအား ရဟန်းတို့၏ သင်္ကန်း ကို (ထိုလယ်ကွက်များနှင့်) သဏ္ဍာန်တူညီသည့် အပိုင်းအစများ ဖြတ် တောက်ရန် တိုက်တွန်းတော်မူသည် (ဝိ ၄၊ ၄၀၀)။ ထိုအချိန်က လယ် မြေကွက်များမှာ လေးထောင့်ပုံစံ သို့မဟုတ် စတုဂံပုံရှိပြီး လယ်ကွက် တစ်ခုနှင့် တစ်ခုကို ခွဲခြားသည့် တာရိုးငယ်များဖြင့် ဝန်းရံထားသည်မှာ သေချာသည်။ မဂဓလယ်မြေပုံသဏ္ဍာန် ပြောင်းလဲသွားပြီ ဖြစ်သော် လည်း ထေရဝါဒရဟန်းတော်များ၏ သင်္ကန်းပုံသဏ္ဍာန်ကား ယနေ့တိုင် ရှေးခေတ်ပုံစံအတိုင်း တည်ရှိဆဲဖြစ်ကြောင်း မှတ်ယူသင့်သည်။

## ကာဠသိလာ

ဖြတ်လမ်းမှ တစ်ဆင့်သွားရသည့် လမ်းအောက်ဘက်တွင် ဘုရားဖူး သည် အိုင်နက်များရှိသည့် ချောင်းငယ်နှင့် ရေတံခွန်ကို သတိပြုမိလိမ့် မည်။ ဤနှစ်သက်ဖွယ်နေရာကား ကာဠသိလာ ကျောက်ဆောင်နက် နေရာဖြစ်သည်ဟု ယုံကြည်ကြသည်။ အထောက်အထားများက ကာဠ သိလာသည် ယခုအခါ သောဏတောင်ခေါ် ဣသိဂိလိတောင်ခြေတွင် ရှိကြောင်းဆိုသည်။ နွေရာသီအပူရှိန်၌ပင် ကာဠသိလာသည် အေးမြပြီး အရိပ်အာဝါသကောင်းသဖြင့် ရဟန်းတော်များအဖို့ နေထိုင်ရန်ကောင်း မွန်သည့် နေရာတစ်ခု ဖြစ်ပေလိမ့်မည်။ မြတ်ဗုဒ္ဓသည် တစ်ရံတစ်ခါ ဤနေရာ၌ သီတင်းသုံးတော်မူခဲ့သည်။ ကံမကောင်းသဖြင့် ကာဠသိလာ သည် အတော်အတန် စိတ်မချမ်းမမြေ့စရာ ပတ်သက်မှုများရှိခဲ့သည်။ ဝက္ကလိရဟန်းတော်သည် မိမိကြာရှည်စွာ နာမကျန်းဖြစ်နေမှုအတွက် စိတ်ပျက်ငြီးငွေ့ပြီး မိမိကိုယ်ကို အဆုံးစီရင်သွားသည်မှာ ဤ(ကာဠ သိလာကျောက်တောင်)၌ ဖြစ်သည် (သံ ၂၊ ၁၀၀)။ ခပ်နိမ့်နိမ့် အုတ် ကျိုးပုံတစ်ပုံသည် မူလက ဤဖြစ်ရပ် အထိမ်းမှတ်နေရာ ဖြစ်နိုင်သည်။



ထိုနေရာတွင် တောင်ကုန်းသည် အလွန်မြင့်ပြီး မြောက်ဘက်သို့ ကြည့် သော် ဘုရားဖူးသည် ဒေသတစ်ခွင်ကို ဖြတ်ကျော်လျက် ကျယ်ဝန်းခမ်း နားလှသည့် မြင်ကွင်းကို ရှုမြင်ရ မည်ဖြစ်သည်။

## ဂိဇ္ဈကုဋ်တောင်

လမ်းတစ်ခုသည် သျှန်တီစေတီတော်မှ ဆဟာထတောင်ကုန်း ဘေး အတိုင်း တောင်ဘက်သို့ဆင်းသွားပြီး နောက်ဆုံး၌ ဘုရားဖူးသည် အပေါ်မှာ (ကျောင်းတော်ရာ) အပျက်အစီးများရှိလျက် ပိုမိုသေးငယ် ကျဉ်းမြောင်းသည့် တောင်ထွတ်တစ်ခုကို တွေ့မြင်နိုင်သည်။ ယင်းသည် ဗုဒ္ဓရှင်တော်မြတ် ရာဇဂြိုဟ်မှာရှိစဉ် နှစ်သက်စွာ သီတင်းသုံးတော်မူခဲ့ သည့် လင်းတနှုတ်သီးခေါ် ဂိဇ္ဈကုဋ်တောင်ထွတ်ဖြစ်သည်။ ယင်းသည် ဗုဒ္ဓရှင်တော်မြတ် ဒေသနာတော်ပေါင်းများစွာ ဟောတော်မူခဲ့သော နေ ရာဖြစ်သည်။ ဂိဇ္ဈကုဋ်တောင်ထွတ် ပတ်ဝန်းကျင်ရှိ ပေါကြွယ်လှသော လိုဏ်ဂူများ၊ မြစ်ဝှမ်းကို ကျော်ဖြတ်(မြင်ရသည့်) သာယာသည့် မြင် ကွင်းများနှင့် ငြိမ်းချမ်းသည့်ပတ်ဝန်းကျင်တို့သည် ကမ္မဋ္ဌာန်းရှုမှတ်ရန် အကောင်းမြတ်ဆုံး နေရာဖြစ်သည်။ (တောင်)ထိပ်သို့သွားသည့် လှေ ကားထစ်များအတိုင်း တက်သွားခြင်း၌ ဘုရားဖူးသည် ဂူကြီးတစ်ခုကို ဖြတ်ရသည်။ ဤဂူသည် ဗုဒ္ဓရှင်တော်မြတ် ဒီဃနခ (မ ၁၊ ၄၉၇)နှင့် သူကရခတ (သံ ၅၊ ၂၃၃) သုတ္တန်နှစ်ခုကို ဟောကြားတော်မူခဲ့သည့် နေရာ သူကရခတ (ဝက်ဝံဂူ) ဖြစ်ဖွယ်ရှိသည်။ ဆက်လက်၍ တက် သွားသော် ဘုရားဖူးသည် စေတီတော်အပျက်အစီးများနှင့် တောင် ထွတ်နေရာတွင် ရှေးခေတ်အချိန်က တည်ဆောက်ခဲ့သည့် ဘုရား ကျောင်းငယ်တစ်ခု၏ အုတ်မြစ်နေရာများကို တွေ့မြင်နိုင်သည်။ ရိုးသား ပြီး ဘာသာတရားကိုင်းရှိုင်းသူ ရဟန်းတော် ဖာဟီယာန် ဤနေရာသို့ ရောက်သွားသောအခါ ဂိဇ္ဈကုဋ်တောင်ပေါ်ပတ်ဝန်းကျင်ကို နက်ရှိုင်းစွာ ဘဝင်ခိုက်သွားသည်။

'ရာဇဂြိုဟ်မြို့သစ်တွင် ဖာဟီယန်သည် အမွှေးနံ့သာများ၊ ပန်းများ၊ ဆီနှင့် မီးတိုင်များ ဝယ်ယူပြီး ဤနေရာတွင် ကြာမြင့်စွာ သီတင်းသုံးနေ

ထိုင်ကြပြီးဖြစ်သည့် ရဟန်းတော် နှစ်ပါးအား ထိုပန်း(စသည်)များကို ကိုင်ဆောင်၍ တောင်ထွတ်ပေါ်သို့ ခေါ်ယူခဲ့၏။ ဖာဟီယန်ကိုယ်တိုင် (ထိုနေရာသို့) ရောက်သွားသောအခါ ပန်းများ၊ အမွှေးနံ့သာများနှင့် လှူဒါန်းမှုပြုပြီး မှောင်လာသောအခါ မီးတိုင်များကို ထွန်းညှိ၏။ ဖာဟီယန်သည် ဝမ်းနည်းမိသော်လည်း မျက်ရည်ကို ပြန်လည် ထိန်းသိမ်းလျက် ဤနေရာ၌ ဗုဒ္ဓရှင်တော်မြတ်သည် သူရင်္ဂမ(မဟာယာန) သုတ္တန်ကို ဟောကြားတော်မူခဲ့ပေ၏။ ကျွန်ုပ်ဖာဟီယန်သည် ဗုဒ္ဓဘုရားရှင် မရှိသောအချိန်ကျမှ မွေးဖွားခဲ့ပေ၏။ ယခုအခါ၌မူ ရှင်တော်ဗုဒ္ဓ ထားရစ်ခဲ့သောခြေရာတော်များနှင့် သီတင်းသုံးခဲ့သော နေရာကိုသာလျှင် ဖူးတွေ့ရပြီး အခြားဘာမှမတွေ့ရတော့ပါတကားဟု ဆိုမိ၏။ ဤသို့ နှုတ်မြွက်ဆိုပြီး ကျောက်ဂူရှေ့၌ သူရင်္ဂမသုတ္တန်ကို ရွတ်ဆိုလျက် ညဉ့်နက်သည်အထိ နေထိုင်ပြီးနောက် ရာဇဂြိုဟ်မြို့သစ်ဘက်သို့ ပြန်ခဲ့၏'။

ဓမ္မသာမိရောက်သွားသောအချိန်တွင် ဂိဇ္ဈကုဋ်တောင်သည် ကျား၊ ဝက်ဝံနက်၊ ဝက်ဝံပြာကဲ့သို့သော သားစား သတ္တဝါအပေါင်း၏ ခိုလှုံရာဌာနဖြစ်သည်။ ထိုသားရဲတိရစ္ဆာန်များကို ချောက်လှန့် ထွက်ပြေးစေရန် ဂိဇ္ဈကုဋ်တောင်သို့ လာရောက်ကြသည့် ဘုရားဖူးများသည် စည်များကို တီးခတ်ပြီးခရုသင်းများကို မှုတ်ကြရသည်။ ရေပန်းများ ထုတ်နိုင်ရန် ဝါးစိမ်းကျည်တောက်များဆောင်ယူကြရသည်။ ဂိဇ္ဈကုဋ်တောင်၌ တွေ့ရသည့် အေဒီ ၆–ရာစု ရက်စွဲတပ်ထားသော ဗုဒ္ဓဆင်းတုတော်ကို နာလန္ဒာ ရှေးဟောင်းသုတေသနပြတိုက်၌ ပြသထားရှိသည်။ ဂိဇ္ဈကုဋ်တောင်ကိုကြည့်ပြီးနောက် ဘုရားဖူးသည် ကြိုးဓာတ်လှေကားရှိရာနောက်ဘက်သို့ ပြန်သွားသည့်လမ်းအတိုင်း အောက်ဘက်သို့ ဆက်လက် ဆင်းသွားနိုင်သည်။ ဤလမ်းသည် ဘုရင်ဗိမ္ဗိသာရ ဆောက်လုပ်ခဲ့သော မူလလမ်း၏ အစိတ်အပိုင်း ဖြစ်သည်။ သို့ရာတွင် ယခုအခါများစွာ ပြုပြင်ထားပြီဖြစ်သည်။ လမ်းတစ်လျှောက်၌ စေတီတော် နှစ်ဆူ၏ အုတ်မြစ်ရာများကို တွေ့မြင်နိုင်သည်။ ဟူယင်ဆန် (မှတ်တမ်း)အရ ယင်းစေတီ နှစ်ဆူအနက် တစ်ဆူကို 'ရထားမှဆင်းခြင်း'ဟု ခေါ်သည်။



ဘုရင်ဗိမ္ဗိသာရ မြတ်ဗုဒ္ဓထံ ပထမဆုံးအကြိမ် မင်းခမ်းမင်းနားဖြင့် ကြွလာစဉ် ရထားပေါ်မှဆင်းသည့်နေရာ အထိမ်းအမှတ်ပြု ထားသည့် စေတီဖြစ်သည်။ ဒုတိယစေတီမှာ 'ပရိသတ်ပြန်သွားခြင်း'ဟုခေါ်သည်။ ဘုရင် (ဗိမ္ဗိသာရ)သည် မိမိတစ်ယောက်တည်း ဆက်သွားလိုသဖြင့် လူအုပ်ကို ပြန်ခိုင်းသောနေရာ အထိမ်းအမှတ်ပြု စေတီဖြစ်သည်။

## လှည်းဘီးရာများ

ဘုရားဖူးသည် တောင်ဘက်သို့ ဦးတည်သွားသော လမ်းမကြီးအတိုင်း ဇီဝကသရက်ဥယျာဉ်ကို ဖြတ်လျက် နောက်သို့ ပြန်ဆုတ်လာခဲ့ပြီး ယင်းအတိုင်း ဆက်လျှောက်သွားရမည်။ လမ်းမအောက်ဘက် ဘယ်လမ်းချိုး တစ်ကီလိုမီတာခန့်တွင် ကျောက်ဖျာသဏ္ဌာန် ဧရိယာကို ဝန်းရံထားသည့် ကျောက်(ကာ) ခြံဝင်းတစ်ခုရှိသည်။ ရာစုနှစ်ပေါင်းများစွာ ရာဇဂြိုဟ်မြို့သို့အဝင်အထွက် မြင်းရထားများ လှည်းများသည် ဤလမ်းမှ ဖြတ်သန်း သွားလာကြသောကြောင့် ကျောက်ပေါ်၌ နက်သည့် လှည်းပန်းတောင်းရာများ ပေါ်နေသည်။ ဤနေရာသို့ဝင်ရောက်ခါနီး ကျောက်တောင်ပေါ်တွင် ဘုရားဖူးသည် အဓိပ္ပာယ်ဖော်ရဦးမည့် 'ခရုခွံစာ' (အရေးအသားဖြင့်) ရေးထွင်းထားသည့် စာများကို တွေ့မြင်နိုင်သည်။

## ရာဇဂြိုဟ်မြို့ဟောင်း၏မြို့ရိုး

နောက်ထပ်တစ်ကီလိုမီတာခန့် လမ်းမအတိုင်းဆက်သွားသော် ဘုရားဖူးသည် သောဏနှင့် ဥဒယတောင်ကုန်းများအကြား ကျဉ်းမြောင်းသည့် ဖြတ်လမ်းသို့ ရောက်သွားသည်။ ယင်းသည် ရာဇဂြိုဟ်မြို့တော်ဟောင်း၏ တောင်ဘက်ဂိတ်ဖြစ်ပြီး ဗုဒ္ဓရှင်တော်မြတ်သည် ယင်းဂိတ်ကို ဖြတ်၍ အကြိမ်ပေါင်းများစွာ ဖြတ်ကြွတော်မူခဲ့ပြီး ဖြစ်သည်။ မြို့ရိုးကြီးများသည် တောင်ကုန်းများပေါ်သို့တက်သွားပြီး ကီလိုမီတာ လေးဆယ်ခန့် ရှည်လျားသည်။ နေရာ တော်တော်များများမှ (နေ၍) ယင်းမြို့ရိုးများကို ခပ်ရေးရေး တွေ့မြင်နိုင်သည်။ ယင်းမြို့ရိုးအတိုင်း တက်သွားခြင်း၌ မဂဓတိုင်း လယ်ကွက်များ၏ လှပသည့် မြင်ကွင်းကို ရှုနိုင်သည်။

၏ ပင်မဆောင်ရှေ့၌ ပျက်စီးနေသော်လည်း ဆွဲဆောင်ဆဲဖြစ်သည့် ပဒုမပါဏိဘုရားလောင်း ဆင်းတုရှိသည်။ ယင်းဆင်းတုအပေါ်၌ ဂုတ္တခေတ်နှောင်းပိုင်းလက်ရာ ဗုဒ္ဓဆင်းတုတစ်ဆူရှိသည်။

ယင်းရွာ၏ အရှေ့မြောက် သုံးကီလိုမီတာခန့်အကွာ ချန်ဒု (Chandu) တောင်ကုန်း၏ မြောက်ဘက်မျက်နှာချင်းဆိုင်တွင် ရာဇပိဏ္ဍ (Rajpind)ခေါ် ဂူတစ်ခုရှိသည်။ ဗုဒ္ဓသည် တစ်ခါတစ်ရံ ဤဂူ၌ သီတင်းသုံးတော်မူခဲ့ပြီး အခါတစ်ပါး၌ ဤနေရာတွင် ထောင်ပေါင်းများစွာသော တပည့်သာဝကများအား တရားဒေသနာ ဟောကြားတော်မူခဲ့ကြောင်း ဟူယင်ဆန်အား (ဒေသခံများက) ပြောပြကြသည်။ ဤအချက်က ဤဂူသည် ထိုမျှလောက်များပြားသည့် ပုဂ္ဂိုလ်များအား နေထိုင်နိုင်လောက်အောင် ကြီးမားခဲ့ကြောင်း ဖော်ပြသည်။ ဘုရားဖူးသည် တောင်ဘေး၌ ကျောက်ကြမ်းများဖြင့် ပြုလုပ်ထားသော ကွေ့ကောက်သည့် လမ်းအပျက်အစီးများကို သတိပြုမိပေလိမ့်မည်။ ဟူယင်ဆန်အား ဒေသခံတို့ ပြောပြပုံအရ ယင်းလမ်းကို ဤဂူသို့သွားရောက်နိုင်ရန် ဘုရင်ဗိမ္ဗိသာရ တည်ဆောက်ခဲ့ကြောင်း သိရသည်။ ရဇပိဏ္ဍသည် ရာဇဂြိုဟ်ဝန်းကျင်၌ တည်ရှိခဲ့သော်လည်း မည်သည့်အရာဖြစ်ကြောင်း အတိအကျမဆုံးဖြတ်နိုင်တော့သော ပိဋကတ်တော်၌ ဖော်ပြသည့် ဂူများစွာအနက် တစ်ခုဖြစ်ဖွယ်ရှိသည်။ ဂူ၏နက်မှောင်သည့် အတွင်းပိုင်း၌ ခိုငှက်သိုက်များရှိခြင်းကြောင့် ယင်းဂူသည် တစ်ခါတစ်ရံ အရှင်သာရိပုတ္တရာ သီတင်းသုံးနေထိုင်လေ့ရှိခဲ့သည့် ကပေါတကန္ဒရာဂူ (ခိုငှက်များ၏လိုဏ်ဂူ – ယခင်က ခိုငှက်များရှိခဲ့၍ ကပေါတကန္ဒရာ မည်တွင်ပြီး နောင်အခါ ယင်းဂူအနီး ဆောက်လုပ်သော ကျောင်းကိုလည်း ကပေါတကန္ဒရာရကျောင်းဟု ခေါ်တွင်သည်။ ဥဒါန–ဋ္ဌ၊ ၂၂၁) ဖြစ်ဖွယ်ရှိသည်။ မြင့်မားကြမ်းတမ်းသည့် တောင်ကုန်းများနှင့် ထူထပ်သစ်တောများ ဝန်းရံနေသည့်ပြင် ဂျေထိနသည် ဗုဒ္ဓနှင့်ပတ်သက်နေသောကြောင့် ယင်းနေရာသို့ ရောက်ရှိရန် အခက်အခဲများ ရှိလင့်ကစား သွားရောက်ထိုက်သော ဗိဟာပြည်နယ်ရှိ ဆွဲဆောင်မှုအကောင်းဆုံး ကျေးရွာများ၌ ပါဝင်သည်။



**သွားရောက်ရန်**

ရာဇဂြိုဟ်သည် ပတ္တနားမှ အရှေ့တောင်ဘက်သို့ လာလမ်းအတိုင်း ကီလိုမီတာ ၁၀၀–အကွာ၊ ဂယာမှဆိုလျှင် ကားလမ်းအတိုင်း ၆၅–ကီလိုမီတာ အကွာ၌ရှိပြီး ထိုနှစ်နေရာလုံးမှ ဘတ်စ်ကားဖြင့် လွယ်ကူစွာ သွားရောက်နိုင်သည်။

## ရာဇဂြိုဟ်ဝန်းကျင်

**ဣန္ဒသာလဂူ**

ရာဇဂြိုဟ်မြို့ရှိ လူအစည်ကားဆုံးနေရာများအနက် တစ်ခုပါဝင်ပြီး ရာစုနှစ်ပေါင်း များစွာကပင် ဘုရားဖူးများ လာရောက်ခဲ့ကြသော်လည်း ယနေ့ခေတ်၌ အရောက်အပေါက် နည်းသွားသည့်နေရာကား ဣန္ဒသာလလိုဏ်ဂူဖြစ်သည်။ နတ်တို့သနင်းသိကြားမင်းသည် ဗုဒ္ဓရှင်တော်မြတ်ထံ လာရောက်တွေ့ဆုံပြီး ကျော်ကြားလှသည့် မေးခွန်း ၇–ခုနစ်ခု မေးလျှောက်သော နေရာဖြစ်သည်။ သိကြားမင်းအမေးနှင့် မြတ်ဗုဒ္ဓ၏ အဖြေများကို သက္ကပဉှသုတ္တန် (ဒီ ၂၊ ၂၁၀)၌ မှတ်တမ်းတင်ထားသည်။ ရှေးဟောင်း အဋ္ဌကထာကျမ်းများ၌ ဗုဒ္ဓရှင်တော်မြတ် အနီးအနားရှိရွာသို့ နေ့စဉ်ဆွမ်းခံကြွတော်မူစဉ် ဇီးကွက်ငှက်ကြီး တစ်ကောင်သည် လမ်းခရီးတစ်ဝက်ခန့်ထိ ဗုဒ္ဓရှင်တော်မြတ်နောက်မှ လိုက်လေ့ရှိကြောင်း ဖော်ပြထားသည် (မ–ဋ္ဌ ၁၊ ၃၂၂)။ ၎င်းဂူကို ယခုအခါ ဒေသခံတို့က ဂုဟာဗန္ဒရ (ဂူဘုရားကျောင်း) သို့မဟုတ် ဂုဟာ(ဂူ) ဟူ၍ခေါ်ဝေါ်ကြပြီး တောင်နံရံပေါ် ထက်ဝက်လောက်ရှိ မတ်စောက်သော ချောက်နက်တစ်ခု၏အောက်ခြေ၌ရှိသည်။ ဝိုင်းဝန်းကျယ်ပြောသည့် ဝင်ပေါက်ရှိပြီး နှိုင်းယှဉ်ချက်အရ ညီညာသည့် မြေပြင်အခင်းရှိပြီး နှစ်ဆယ် သို့မဟုတ် သုံးဆယ်မီတာခန့် နက်သည်။

ဖာဟီယန်ရော ဟူယင်ဆန်ပါနှစ်ပါးလုံး ဂူအနီးရှိကျောက်တောင်တွင် ရေးထွင်းထားသော သိကြားမင်း၏မေးခွန်းများကို သတိပြုမိခဲ့ကြသည်။ သို့ရာတွင် ထို(ရေးထွင်းစာ)များကို ယနေ့ခေတ်တွင် မတွေ့နိုင်

ချေ။ တောင်လှေကား အကြွင်းအကျန်များနှင့် ဂူနှုတ်ခမ်းအနီး ထွင်းထုမထားသော ကျောက်သားဖြင့်ပြုလုပ်ထားသည့် လှေကားဆင်းတစ်ခုရှိသည်။ ဣန္ဒသာလလိုဏ်ဂူမှနေ၍ မြစ်ဝှမ်းလွင်ပြင်ကို ဖြတ်လျက် အခြားတစ်ဖက်ရှိ တောင်တန်းများဆီသို့ လှမ်းမျှော် ရှုမြင်ရသော မြင်ကွင်းကား လွမ်းမောဖွယ်ကောင်းလှ၏။ လူထုပရိသတ်နှင့် ခပ်ဝေးဝေးနေလိုသောအခါ ဗုဒ္ဓရှင်တော်မြတ်သည် ဤဂူနေရာအားအလိုရှိခဲ့ပုံကို နားလည်ရန် ခက်ခဲလိမ့်မည်မဟုတ်ပါချေ။

## သွားရောက်ရန်

ဣန္ဒသာလလိုဏ်ဂူသည် ဂိရိယေကတောင်၏ မြောက်ဘက်မျက်နှာစာတွင်ရှိပြီး ၎င်းတောင်၏အရှေ့ဘက် အဆုံးမှနေ၍ ၁ ဒသမ ၅ ကီလိုမီတာခန့်ဝေးသည်။ ရာဇဂြိုဟ်–ဂိရိယေက လမ်းအတိုင်း ဂိရိယေကတောင်ဘက်သို့ ၇ ကီလိုမီတာ ခန့်သွားပါ။ ယင်းလမ်းသည် ဂိရိယေကတောင်အဆုံးလောက်တွင်ပင် ဆုံးသည်။ မော်တော်ယာဉ်များ ထိုနေရာမှ ရှေ့ ဆက်သွားရန် မဖြစ်နိုင်ချေ။ တောင်၏ တောင်ဘက်နံရံအတိုင်း တစ်ကီလိုမီတာခွဲခန့် ခြေလျင်ဆက်သွားပါ။ ထိုနေရာသည် လူသူကင်းဆိတ်ပြီး သူခိုးလုယက်မှုများ အန္တရာယ်အတွက် ကျော်ကြားသည်။ ဘုရားဖူးအား အစောင့်ရဲတစ်ယောက်ခေါ်ဆောင်သွားရန် အကြံပြုလိုပါသည်။ ဒေသခံရဲများသည် ကူညီရန်အဆင်သင့်ရှိကြသည်။ သဘောတူထားသည့် ဈေးနှုန်းဖြင့် ရဲဂျစ်ကားများပင် ရနိုင်သည်။

## ဂျေထိန

ဗုဒ္ဓရှင်တော်မြတ် ဗောဓိဉာဏ်ကိုရပြီးနောက် ဗိမ္ဗိသာရမင်းကြီးထွက်ကြွတော်မူပြီး ဗုဒ္ဓရှင်တော်မြတ်အား တွေ့ဆုံခဲ့သည့်နေရာ လဋ္ဌိဝနသည်ယခုအခါ ဂျေထိနဟုခေါ်သည့် ရွာငယ်ပင်ဖြစ်သည်။ လဋ္ဌိဝနဝန်းကျင်ရှိတောအုပ်များအတွင်း တွေ့မြင်နိုင်ဆဲဖြစ်သည့် အပျက်အစီးများက ပီပြင်စွာဖော်ပြနေသည့်အတိုင်း ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်ပြီး ရာစုနှစ်များတွင် အရေးပါသည့် ကျောင်းတိုက်ပေါင်းများစွာ အနက်ပါဝင်ခဲ့သော နေရာဖြစ်သည်။ အေဒီခုနစ်ရာစုတွင် လဋ္ဌိဝနသည် ဇယသေန



အမည်ရှိ ထိုခေတ်က အလွန်ကျော်ကြားခဲ့သော သူတော်စင်ကမ္မဋ္ဌာန်းဆရာ ဥပါသကာကြီး၏ နေရာဖြစ်သောကြောင့် ထင်ရှားလာခဲ့သည်။ ရဟန်းတော်ဟူယင်ဆန်သည် ကမ္မဋ္ဌာန်းသင်ယူလေ့လာရင်း ဇယသေနဆရာကြီးနှင့်အတူ နှစ်နှစ်ကြာနေထိုင်ခဲ့ပြီး သူ့ဆရာအကြောင်း ဤသို့မှတ်တမ်းတင်ခဲ့သည် –

'အယူဝါဒဆိုင်ရာ ဂိုဏ်းဂဏအမျိုးမျိုးမှ ရဟန်းပုဏ္ဏားများ၊ ဘုရင်မင်းများ၊ ဝန်ကြီးမှူးမတ်ကြီးများ၊ ဥပါသကာများနှင့် အရာရှိအရာခံများသည် ဆရာ့ထံလာရောက်ကြပြီး ဆရာ့အား ကိုယ်တိုင်ကိုယ်ကျမေးခွန်းပြဿနာများ မေးမြန်းကြ၏။ ဆရာ၏တပည့်များသည် နေရာတိုက်ခန်း ၁၆–ခု ပိုင်ဆိုင်ကြ၏။ အသက် ၇၀–နီးပါးမျှရှိပြီဖြစ်သော်လည်း ဆရာသည် ၎င်းတို့(တပည့်များ)နှင့်အတူ မရပ်မနားဘဲ စိတ်အား ထက်သန်စွာ စာပေဖတ်ရှုလေ့လာပြီး (ဆရာနှင့် တပည့်များသည်) အခြားလောကီ ဆောင်ရွက်ဖွယ်ကိစ္စ အားလုံးကို လျစ်လျူရှုလျက် ဗုဒ္ဓသုတ္တန်များကို လေ့လာသင်ကြားရန်သာလျှင် ၎င်းတို့၏စိတ်ကို စူးစိုက်ထား၏။ ဤသို့ဖြင့်ဆရာသည် ၎င်း၏စိတ်ကိုရော ခန္ဓာကိုယ်ကိုပါ ဤ ဗဟုသုတရှာဖွေမှုအတွက်သာ နေ့ရောညဥ့်ပါ စွန့်လွှတ်ထား၏'။

ဂျေထိနတည်ရှိရာ တောင်ဝှမ်းသို့ အနည်းငယ်ဝင်လိုက်ပြီးနောက် လမ်းခွဲများရှိသည်။ ညာဘက်လမ်းချိုးအတိုင်း လိုက်သွားပါက ဘုရားဖူးသည် လမ်း၏ဘယ်ဘက်ဘေးတွင် ရေကန်တစ်ခုနှင့် တောင်ကုန်းကြီးတစ်ခုသို့ မကြာမီ ရောက်သွားလိမ့်မည်။ ယင်းသည် လဋ္ဌဝန၌ ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးတော်မူခဲ့သည့်နေရာ သုပတိဋ္ဌစေတီ (သုပ္ပတိဋ္ဌအမည်ရှိ သဖန်းပင် - ဝိ–ဋ္ဌ ၃၊ ၂၅၃) နေရာ၌ နှောင်းခေတ်တွင် တည်ဆောက်ခဲ့သည့် စေတီအကြွင်းအကျန် များဖြစ်သည။ တောင်ကုန်းပေါ်၌ ဥရောပဟန်ဟုဆိုသော ဗုဒ္ဓဆင်းတုတော်ကြီး တစ်ဆူနှင့် ပန်းပုလက်ရာ အပိုင်းအစ များရှိသည်။ ကီလိုမီတာဝက်ခန့် ဆက်သွားလျှင် လမ်းသည် သာရဝေါဒယဝိဇ္ဇာလယ (Saravoday Vidyalaya) အမည်ရှိ ကျေးလက်ကျောင်း တစ်ခုသို့ ရောက်သည်။ ယင်းကျောင်း

(တည်ထား)လှူဒါန်းရန် ဤနေရာသို့ရောက်ရှိခဲ့ပြီး ကျောင်းတိုက်တစ်ခု ဆောက်လုပ်ခဲ့ကြောင်း ရေးသားထားသည်။ အေဒီ ငါးရာစုအစပိုင်း၌ ရဟန်းတော်ဖာဟီယန် ဤလမ်းကိုဖြတ်သွားစဉ် ဤစေတီတော်ကို ဖူးမြင်ရကြောင်း ဖော်ပြသော်လည်း ထိုကျောင်းတိုက်ကိုမူ ဖော်ပြခြင်း မပြု။ (ဤသည်မှာ) နောက်မှ ဆောက်လုပ်သည့် ကြီးမားသော ဘုန်းကြီးကျောင်းတိုက်အစုအဝေးတစ်ခု မတည်ရှိသေးကြောင်း ညွှန်ပြခြင်း ဖြစ်သည်။ သို့ရာတွင် ရာစုနှစ် နှစ်ခုလွန်ပြီးမှ အိန္ဒိယ သို့ရောက်လာသူ ဟူယင်ဆန်ခေတ်၌မူ နာလန္ဒာသည် နိုင်ငံတကာ၌ကျော်ကြားမှုနှင့်အတူ တက္ကသိုလ်ကျောင်းတိုက်ကြီးတစ်ခုအဖြစ်သို့ တိုးတက်ခဲ့ပြီး ဖြစ်သည်။ သို့ဖြစ်၍ ဂုတ္တခေတ်အတွင်း နာလန္ဒာမဟာဝိဟာရကျောင်းတိုက်ကြီးကို တည်ထောင်ခဲ့ခြင်းဖြစ်ဖွယ်ရှိပြီး ဤအချက်ကို ဤ(နာလန္ဒာ) ကောလိပ်ကျောင်းများ တည်ဆောက်ခဲ့သော ဂုတ္တမင်း အများအပြား၏ နာမည်များကိုဖော်ပြခဲ့သော ဟူယင်ဆန်ကြောင့်သာမကဘဲ ရှေးဟောင်းသုတေသန အထောက်အထားများအရပါ အတည်ပြုနိုင်သည်။

နာလန္ဒာတက္ကသိုလ်အကြောင်း သိရသည့် အချက်အလက် အများစုကို ကျောင်းတော်ရာအတွင်းတွေ့ရှိရသည့် အလှူကောင်းမှုစာတန်းများနှင့် နာလန္ဒာတက္ကသိုလ်၌ ပညာဆည်းပူးခဲ့ကြသည့် နိုင်ငံခြားကျောင်းသားများ၏ မှတ်တမ်းများမှ ရရှိခြင်းဖြစ်သည်။ ယင်း(နိုင်ငံခြား) ကျောင်းသားများအနက် အကျော်ကြားဆုံးမှာ နာလန္ဒာ၌ အေဒီ ၆၃၅ မှ ၆၄၀ အထိ (ငါးနှစ်)ပညာသင်ယူခဲ့သူ ဟူယင်ဆန်နှင့် အေဒီ ၆၇၅ မှစ၍ ၁၀–နှစ်ခန့် ပညာသင်ကြားခဲ့သူ ရဟန်းတော် ယိကျင် (I Tsing) ဖြစ်သည်။ အိန္ဒိယတစ်ခွင်လုံး၊ တိဗက်၊ တရုတ်၊ ဂျာဗားနှင့် သီရိလင်္ကာတို့မှ ကျောင်းသားများ နာလန္ဒာသို့ လာရောက်ခဲ့ကြသည်။ ယိကျင်ကသူသည် တစ်နေ့တွင် နာလန္ဒာတက္ကသိုလ်စာကြည့်တိုက်များရှိ ကျမ်းစာများကို ရှာဖွေနေစဉ် စာအုပ်တစ်အုပ်တွေ့ပြီး စာအုပ်အမှတ်အသား၌ 'ဤကျမ်းကို ကိုရီးယားရဟန်းတော် ဗွီယွီ (Hwui Ywui) ရေးသားသည်'ဟု ဖော်ပြသောစာသားကို တွေ့ရကြောင်း ဆိုသည်။

**သွားရောက်ရန်**

ဂယာ–ရာဇဂြိုဟ်လမ်းမကြီး ရာဇဂြိုဟ်(မြို့သစ်)သို့သွားသည့် လမ်းကျဉ်းသို့မဝင်ရောက်မီ နောက်ထပ် လမ်းဆွယ်တစ်ခု ဘယ်ဘက်သို့ ခွဲထွကပြီး တောင်နံဘေးအတိုင်း တောင်ဘက်သို့သွားသည်။ ယင်းလမ်းခွဲအတိုင်း ၁၄–ကီလိုမီတာခန့် သွားပြီးနောက် ဆင်ခြေလျှော(ကုန်းစောင်း)တစ်ခုသို့ တက်ရပြီး ဂျေထိနသို့သွားသော ဖြတ်လမ်းပေါ်ရောက်သည်။ လမ်းအလွန်ဆိုးပြီး ဂျစ်ကားများဖြင့်သာ သွားရောက်နိုင်သည်။ ဂျေထိနရွာဝန်းကျင်နေရာသည် သူခိုးဓားပြများကြောင့် ထင်ရှားပြီး ဘုရားဖူးသည် အထူးသဖြင့် ရာဇပိဏ္ဍဂူဝန်းကျင်၌ သတိထား၍ ဆက်သွားရမည်ဖြစ်သည်။

## ၇။ နာလန္ဒာ

အရှင်ဘုရား၊ ဤနာလန္ဒာသည် ချမ်းသာကြွယ်ဝပါ၏။ လူတွေနှင့်ပြည့်နှက်နေပြီး ရှင်တော်မြတ်အား ကြည်ညိုသူတွေ ပေါများပါ၏ (ဒီ ၁၊ ၂၀၅)။

ဗုဒ္ဓရှင်တော်မြတ်သည် ရာဇဂြိုဟ်မြို့မြောက်ဘက်သို့ သွားသော လမ်းမကြီးပေါ်ရှိ နာလန္ဒာရွာတွင် မကြာခဏ သီတင်းသုံးတော်မူခဲ့ပြီး ဤရွာကိုဖြတ်၍လည်း ကြွတော်မူခဲ့သည်။ နာလန္ဒာသို့ ရောက်သောအခါ ဗုဒ္ဓရှင်တော်မြတ်သည် ပါဝါရိကသူဌေး၏ သရက်ဥယျာဉ်၌ သီတင်းသုံးတော်မူလေ့ရှိသည်။ ပါဝါရိကသရက်ဥယျာဉ်တွင် ဥပါလိသုတ် (မ ၂၊ ၃၆)၊ ကေဝဋ္ဋသုတ် (ဒီ ၁၊ ၂၀၄)တို့ကို ဟောတော်မူခဲ့သည်။ သို့သော် (အဋ္ဌကထာဆရာကြီး) အရှင်မဟာဗုဒ္ဓဃောသ၏ အဆိုအရ အတွင်းဘက်၌ နံရံဆေးရေးပန်းချီတို့ဖြင့် တန်ဆာဆင်ထားသည့် အုတ်တံတိုင်းဖြင့်ကာရံလျက် လှပပြီးအရိပ်အာဝါသကောင်းသော ပန်းခြံထဲရှိ ဘုရင့်နားနေတောင် (ဒီ–ဋ္ဌ ၁၊ ၄၂) အမ္ဗလဋ္ဌိကာ၌လည်း ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးတော်မူလေ့ရှိသည်။ ပိဋကတ်သုံးပုံတွင် ဒီဃနိကာယ်၌ ပထမဆုံးဖြဟ္မဇာလသုတ္တန်(ဒီ ၁၊ ၁)နှင့် မဇ္ဈိမနိကာယ်၌ အမ္ဗလဋ္ဌိကရာဟုလောဝါဒသုတ္တန် (မ ၂၊ ၇၆)တို့ကို ဤအမ္ဗလဋ္ဌိကာ ဘုရင့်နားနေဆောင်၌ ဟောတော်မူသည်။

ရှေးဟောင်းမှတ်တမ်းများအရ နာလန္ဒာသည် ဗုဒ္ဓ၏အဂ္ဂသာဝကနှစ်ပါးအနက် တစ်ပါးဖြစ်သည့် အရှင်သာရိပုတ္တရာမထေရ်၏ မွေးရပ်မြေဖြစ်ကြောင်း ညွှန်ပြသည်[၂၂]။ အေဒီ ၁၆–ရာစု၌ စာပေရေးသားခဲ့သော (စာရေးဆရာ) တာရာနာထ(အမည်ရှိသူ)က ဘုရင်အသောကသည် အရှင်သာရိပုတ္တရာအား ပူဇော်သည့်အနေဖြင့် စေတီတစ်ဆူ

---

[၂၂] အမှန်သော် ဒုတိယအဂ္ဂသာဝက အရှင်မဟာမောဂ္ဂလ္လာန်၏ မွေးရပ်မြေလည်း ဖြစ်သည် (ဘာ သာပြန်သူ)။

ရာတော်များသို့ သွားရောက်ဖူးမြော်ခွင့်ရကြသည် 'ခရီးသွားရဟန်းတော်သည် ရေအိုး၊ သပိတ်နှင့် လိုအပ်သည့် သင်္ကန်းအဝတ်အစားများကို သင်္ကန်းအပြင်ဘက်ပခုံးပေါ်မှ လွယ်ပြီး သယ်ယူသွားကြသည်။ လက်တွင် ထီးတစ်လက်ကိုင်ဆောင်သည်။ ဘုရားဖူးရာသီတွင် ရာဇဂြိုဟ်ရှိ ဘုရားကျောင်းများ၊ ဗောဓိပင်၊ ဂိဇ္ဈကုဋ်တောင်၊ မိဂဒါဝုန်၊ ကြိုးကြာငှက်တောင်ပမာ အဖြူရောင်အင်ကြင်းပန်းများ ပွင့်လန်းရာနေရာမြတ် (ကုသိနာရုံ)နှင့် ရှည့်နက်တောလွင်ပြင် (ဝေဠုဝန်ရှိ ကလန္ဒကနိဝါပ)များနှင့် ထိုထိုနေရာတော်တိုင်း၌ ခရီးသွားရဟန်းတော်များ တစ်နေ့ပြီးတစ်နေ့ ထောင်ပေါင်းများစွာစုဝေးရောက်ရှိကြသည်။ ရဟန်းတော်များအားလုံးသည် အထက်ဖော်ပြပြီး (ပုံစံ)နည်းအတိုင်း ခရီးသွားကြသည်။ နာလန္ဒာမှ ရိုသေလေးစားခြင်းခံကြရသည့် ပညာရှိရဟန်းတော်များသည် ထမ်းစင်(ဝေါ)များ စီးကြသော်လည်း မြင်းကို လုံးဝမစီးကြချေ။ မဟာရာဂကျောင်းမှ ရဟန်းတော်များလည်း ထိုနည်းအတိုင်း (မြင်းမစီးကြချေ)။ တစ်ခါတစ်ရံတွင် လိုအပ်သည့် အထုပ်အပိုးများကို အခြားပုဂ္ဂိုလ်၊ သို့မဟုတ် ကျောင်းသားလူငယ်များက ထမ်းပိုး ဆောင်ယူပေးကြသည်'။

နှစ်ပေါင်းခုနစ်ရာသက်တမ်းအတွင်း နာလန္ဒာသည် ထူးချွန်သည့် ပညာရှင်များ၊ တက္ကသိုလ်ဆရာများနှင့် ဒဿန ဆရာအမြောက်အမြား မွေးထုတ်ပေးခဲ့သည်။ တိဗက်အစဉ်အလာသည် နာလန္ဒာမှ နာဂရဇ္ဇုန၊ အရိယဒေဝနှင့် အခြားများစွာသော ရှေးဦးမဟာယာနတွေးခေါ်ရှင်များနှင့် ဆက်နွယ်နေသည်။ သို့ရာတွင် တွေ့ရှိပြီး အထောက်အထားများ အားလုံးက ထိုပညာရှင်များ ပွင့်လန်းသည့်အချိန်၌ အခြားကျောင်းတိုက်များ မတည်ရှိသေးကြောင်းညွှန်ပြသည်။ သို့ရာတွင် တက္ကဗေဒကျမ်း တစ်ရာနီးပါးရေးသားခဲ့သူ ဒိန္နာဂ၊ အိန္ဒိယ၏တွေးခေါ်ရှင်ကန့်ဟုခေါ်ဝေါ်ခြင်းခံရသူ ဓမ္မကိတ္တိနှင့် ပြဇာတ်ရေးဆရာ ကဗျာဆရာ တက္ကိကဗေဒင်ဆရာ စန္ဒြဂေါမိန်တို့အားလုံးသည် နာလန္ဒာတက္ကသိုလ်၌ ပညာဆည်းပူးခဲ့ကြသည်။ အခြားပညာရှင်များမှာ ဆုမတြားမှ ဖိတ်ကြားချက်



အမှန်စင်စစ် နာလန္ဒာကို တက္ကသိုလ်ဟုခေါ်ဆိုခြင်းထက် ဘွဲ့လွန်သင်တန်းကျောင်းဟု ခေါ်ဝေါ်ပါက ပိုမိုသင့်မြတ်ဖွယ်ရှိသည်။ ကျောင်းသားတစ်ယောက်သည် (တက္ကသိုလ်)ဝင်ခွင့်ရရန် မစဉ်းစားမီကတည်းက ဗုဒ္ဓဝါဒဆိုင်ရာ အတွေးအမြင်တွင် အတော်အတန် ကျွမ်းကျင် တတ်မြောက်ထားပြီး ဖြစ်ရသည်။ ဝင်ခွင့်ရလိုသူ ကျောင်းသား အားလုံးကို ဂိတ်စောင့်ပုဂ္ဂိုလ်က အလွန့်အလွန်ခက်ခဲသော မေးခွန်းပေါင်းများစွာ မေးမြန်းပြီး လျင်မြန်စွာ ဖြေဆိုနိုင်သူများသာလျှင် အမှန်တကယ်ဝင်ခွင့်ရကြောင်း ဟူယင်ဆန်က ဆိုသည် 'ကျောင်းသား တစ်ယောက်သည် (တက္ကသိုလ်သို့) ဝင်ခွင့်မရမီ ကျမ်းဟောင်းများကိုရော ကျမ်းသစ်များကိုပါ နက်ရှိုင်းစွာ လေ့လာပြီးဖြစ်ရ၏။ သို့ဖြစ်၍ လူသစ်များအဖြစ် ဤ (တက္ကသိုလ်)သို့ ရောက်လာကြသော ကျောင်းသားများသည် အပြင်းအထန် ဆွေးနွေးလျက် ၎င်းတို့၏ စွမ်းရည်ကို ဖော်ပြရ၏။ ဆယ်ယောက် အနက် ခုနစ်ယောက် ရှစ်ယောက်အထိ ကျရှုံး၏'။

ယင်းသို့ စည်းမျဉ်းဥပဒေ တင်းကျပ်သော အဆင့်အတန်းရှိသော်လည်း ဟူယင်ဆန်တို့ခေတ်တွင် ကျောင်းသားပေါင်း ၈၅၀၀ (ရှစ်ထောင့်ငါးရာ)နှင့် ဆရာပေါင်း ၁၅၁၀–ရှိသည်။ 'ဝင်ခွင့်ရပြီးသော ကျောင်းသားသည် တက္ကသိုလ်၏ စည်းမျဉ်းစည်းကမ်းနှင့် အသိပညာသင်ယူမှုကို ချစ်မြတ်နိုးခြင်းအတွက် လေးစားခြင်းခံရသော နီးစပ်သည့် အုပ်စု အဖွဲ့ဝင်တစ်ယောက် ဖြစ်လာ၏။ ထောင်ပေါင်းများစွာ အရေအတွက် ရှိသော ရဟန်းတော်များသည် အဆင့်မြင့် စွမ်းရည်နှင့် အရည်အသွေး ရှိသူများဖြစ်ကြ၏။ ထိုခေတ်ထိုအချိန်က ၎င်းတို့၏ ထူးခြားပြောင်မြောက်မှုသည် ကြီးမားပြီး ဝေးကွာသော အရပ်ဒေသများသို့တိုင် ကျော်စောသတင်း တစ်ရှိန်ထိုး ပျံ့နှံ့သွားသောပုဂ္ဂိုလ် ရာပေါင်းများစွာရှိ၏။ ၎င်းတို့၏ ကိုယ်ကျင့်တရားသည် စင်ကြယ်ပြီး အပြစ်မရှိ။ ထိုရဟန်းတော်များသည် ဝိနည်းသိက္ခာပုဒ်များကို ရိုးသားစွာလိုက်နာကျင့်သုံးကြ၏။ ဤကျောင်းတိုက်၏ စည်းကမ်းဥပဒေသည် ပြင်းထန်ပြီး ရဟန်းတော်များ အားလုံး ယင်းစည်းမျဉ်းဥပဒေများကို လိုက်နာ

ထိန်းရန် သတ်မှတ်ထား၏။ အိန္ဒိယနိုင်ငံများသည် ထိုစည်း မျဉ်းများကို လေးစားပြီး လိုက်နာကျင့်သုံးကြ၏။ နက်နဲသောမေးခွန်းများ မေးခြင်း ဖြေခြင်းဖြင့် တစ်နေ့တာ အချိန်ကာလ မလုံလောက်နိုင်ဘဲရှိ၏။ အသက် ကြီးသူနှင့် ငယ်ရွယ်သူအချင်းချင်း အပြန်အလှန် ကူညီကြ၏။ ပိဋကတ် သုံးပုံမှ မေးခွန်းများကို မဆွေးနွေးနိုင်သူများသည် ရှက်သဖြင့် မလွှဲ မရှောင်သာ ပုံးအောင်းနေရ၏’။

တရားရိုးရှေ့နေများ၊ ကဗျာဆရာများ၊ သမိုင်းပညာရှင်များ၊ (တက္ကသိုလ်)ဆရာများ၊ ဒဿနဆရာများအဖြစ် နာလန္ဒာတက္ကသိုလ်မှ ဘွဲ့ဒီဂရီရပြီးသူများကား ဘွဲ့ဒီဂရီသွန်းလုပ်မှုကို မသိနိုင်လောက်အောင် များပြားသည်။ နာလန္ဒာတွင် ရဟန်းတော်များသာမကဘဲ ဥပါသကာ များလည်း သင်ယူကြသည်။ လူဥပါသကာများမှာ ရဟန်းဘောင်သို့ ဝင် ရောက်ရန်ရန် ပြင်ဆင်ရင်း စာပေသင်ကြားနေကြသည့် မာဏဝ (လုလင်)ဟုခေါ်သူများနှင့် စာပေသက်သက်ကို လေ့လာလိုပြီး ဘာသာ ရေးနှင့်မဆိုင်သော ဗြဟ္မစာရီ (ကျောင်းသား)ဟု ခေါ်ဆိုသူများဟူ၍ နှစ်မျိုးရှိသည်။ နှစ်မျိုးလုံး အဖိုးအခများပေးရသည်။

နာလန္ဒာတက္ကသိုလ် သင်ရိုးညွှန်းတမ်းကို ထေရဝါဒနှင့်မဟာယာန၊ ဗုဒ္ဓဝါဒနှင့် ဗြဟ္မဏဝါဒ၊ လောကီလောကုတ္တရာ၊ ဒဿန (အတွေးအမြင်) နှင့် လက်တွေ့ကျင့်သုံးမှုဟူသော အသိပညာနယ်ပယ် အားလုံးမှ (ယူ ၍) ရေးဆွဲထားသည်။ ဗုဒ္ဓဝါဒလေ့လာမှုကို ရှေ့တန်းတင်ထားသော် လည်း ယုတ္တိဗေဒ၊ သဒ္ဒါ၊ နက္ခတ္တဗေဒနှင့် ဆေးပညာတို့ကိုလည်း သင် ကြားသည်။ နာလန္ဒာတက္ကသိုလ်၌ ကြေးသွန်းဆင်းတုတော် အများ အပြားနှင့် သတ္တုအရည်ကျိုနည်းကိုလည်း သင်ပေးဖွယ်ရှိကြောင်း ဖော် ပြလျက်ရှိသည်။ နိုင်ငံခြားကျောင်းသား များစွာရှိပြီး အချို့ ဆရာများမှာ အိန္ဒိယ မဟုတ်သော ဘာသာစကားကို ပြောဆိုနိုင်ကြသော်လည်း သက္ကတဘာသာသည် သင်ကြားမှုအတွက် ကြားခံဘာသာစကား ဖြစ် သည်။ ဓမ္မသာမိ၏ နာလန္ဒာတက္ကသိုလ်ဆရာသည် ကျမ်းဂန်များကို တိဗက်ဘာသာပြန်နိုင်သည်အထိ တိဗက်ဘာသာကို ကျွမ်းကျင်သည်။



ဤကဲ့သို့သော အသိပညာသင်ယူရာ ဗဟိုဌာနကြီးတစ်ခုအနေဖြင့် ကြီးမားကျယ်ပြောသည့် စာကြည့်တိုက်ကြီးတစ်ခု လိုအပ်ခဲ့မည်ဖြစ် သဖြင့် နာလန္ဒာ၌ ရတနသာဂရ၊ ရတနဒဓိနှင့် ရတနရဉ္ဇကဟု စာ ကြည့်တိုက်သုံးခုရှိပြီး ပထမ (ရတနသာဂရ)အဆောင်သည် ကိုးထပ် မြင့်သည်။ ယင်းအဆောက်အအုံသုံးခုသည် ဓမ္မဂဉ္ဇ (တရားဈေး)ဟု ခေါ်သည့် အထူးမြေဧရိယာအတွင်း တည်ရှိသည်။ အဆိုပါစာကြည့် တိုက်ကြီးများသည် နိုင်ငံပေါင်းစုံမှ ဘာသာစကားအမျိုးမျိုးနှင့် စာအုပ်များကို စုဆောင်းထားခဲ့ကြောင်း အထောက်အထားများရှိသည်။ ဘုရားဖူးသူ တာအိုချီသည် တရုတ်ဘာသာဖြင့် အုပ်ရေလေးရာထက် မနည်းသော စာအုပ်များကို နာလန္ဒာ၏စာကြည့်တိုက်တစ်ခုသို့ လှူဒါန်း ခဲ့ကြောင်းဆိုထားသည်။ ရှေးခေတ်အိန္ဒိယမှ မပျက်မစီး ကြွင်းကျန်နေ သေးသော ရုပ်ပုံများဖြင့်တန်ဆာဆင်ထားသည့် ပေစာထုပ် စာအုပ် ပေါင်းများစွာကို နာလန္ဒာတက္ကသိုလ်မှ ကူးယူခဲ့ကြောင်းသိရသည်။ (ဤ သည်မှာ) အဆိုပါ နာလန္ဒာတက္ကသိုလ် စာကြည့်တိုက်များ၌ စာမူရေး ကူးသူများအတွက်လည်း အထူးသီးခြားနေရာ ပေးထားဖွယ်ရှိကြောင်း ညွှန်ပြခြင်းဖြစ်သည်။ နေ့စဉ် သင်တန်းအမျိုးအစား တစ်ရာခန့်ရှိပြီး ယင်းသင်တန်းများ၌ ပို့ချမှုများ သို့မဟုတ် လှပစွာတန်ဆာဆင်ထား သည့် သီဟာသနပလ္လင်တွင် ထိုင်နေသည့် စာပေပို့ချပေးသူဆရာနှင့် အချေအတင် ဆွေးနွေးမှုများပါဝင်နိုင်သည်။

မွန်းလွဲချိန် သို့မဟုတ် ညနေပိုင်းများတွင် ကောလိပ်ကျောင်း ဆောင်တိုင်း၌ ဘုရားဝတ်ပြုမှုများရှိသည်။ တစ်နေရာတည်းတွင် အတူ စုဝေးရန် သံဃာအရေအတွက် များလွန်းသောကြောင့် (အဆောင် အသီးသီး၌ ဝတ်ပြုကြခြင်း ဖြစ်သည်)။

နာလန္ဒာတက္ကသိုလ်၌ နှစ်ပတ်လည်ကျောင်းပိတ်ရက်များရှိသည်။ ထိုအချိန်ကာလများအတွင်း အထူးသဖြင့် ဝေးကွာသည့် အိန္ဒိယဒေသ သို့မဟုတ် နိုင်ငံခြားတိုင်းပြည်များမှ လာရောက်ခဲ့ကြသော ရဟန်း တော်များသည် နာလန္ဒာနှင့် လက်လှမ်းမီရာ နယ်မြေအတွင်း ဗုဒ္ဓဝင်နေ

ဒေဝပါလေဒေဝ (၈၁၅–၈၅၄ အေဒီ) မင်းကြီးသည် ၎င်းအုပ်ချုပ်မှု ၃၉–နှစ်မြောက်တွင် ထုတ်ပြန်ခဲ့သော စာတမ်းတစ်ခုအရ သုဝဏ္ဏဒီပ(ဂျာဗားနှင့်ဆုမတြား)မင်းကြီး ဗလပုတြဒေဝသည် နာလန္ဒာတက္ကသိုလ်တွင် ကောလိပ်ဆောင်တစ်ခု တည်ဆောက်ပြီးနောက် ၎င်း၏သံတမန်မှ တစ်ဆင့် ဒေဝပါလဒေဝမင်းကြီးအား (ယင်း) ကောလိပ်အသုံး အဆောင်အတွက် ကျေးရွာအများ၏ အခွန်တော်ငွေကိုပေးအပ်ပါရန် တောင်းပန်ထားကြောင်းပါရှိသည်။ ထိုရရှိသည့် ငွေများကို 'အလှူပစ္စည်းများ၊ ပူဇော်ထောက်ပံ့မှုများ၊ နေရာ၊ ဆွမ်းကွမ်း၊ အိပ်ရာနေရာနှင့် ဆေးကဲ့သို့သော နာမကျန်း သူများအတွက်လိုအပ်သည့် အသုံးအဆောင်များ … ဓမ္မကျမ်းစာရေးသားခြင်းများနှင့် ကျောင်းဆောင်ကို ထိန်းသိမ်းရန်နှင့် ပျက်စီးသည့်အခါ ပြန်လည်ပြုပြင်ရာ၌ အသုံးပြုရမည်ဖြစ်သည်'။ ဒေဝပါလဒေဝမင်းကြီးသည် တောင်းပန်မှုကို သဘောတူခဲ့ပြီး ဘက်စုံ ထူချွန်ပြီး အရည်အချင်းပြည့်မီသော ရဟန်းတော်များအတွက် နာလန္ဒာ၌ ကျောင်းဆောင် ဆောက်လုပ်ပြီး ၎င်း(ကျောင်းဆောင်)ကို ထောက်ပံ့ရန် ကျေးရွာငါးရွာ(၏အခွန်တော်များ)ကို ပေးလှူခဲ့သည်။

ကျောင်းဆောင်အမှတ် ၁ ကို ထိုတစ်နေရာတည်းတွင် အနည်းဆုံး ၉ ကြိမ်မြောက် ဆောက်လုပ်ခဲ့ပြီးဖြစ်သည်။ ယခုအခါ ဘုရားဖူးတွေ့မြင်ရသည်မှာ တစ်ဆောင်ပေါ်တစ်ဆောင် ထပ်ဆင့်တည်ဆောက်ထားသည့် အဆောက်အအုံ အနည်းဆုံး သုံးခုသို့မဟုတ် လေးခုတို့၏ အစိတ်အပိုင်းများဖြစ်သည်။ စွဲမက်လောက်သည့် ဆင်ဝင်အမိုးကိုဖြတ်၍ ကျောင်းဆောင်ကြီးထဲသို့ဝင်ရသည်။ ၎င်းဆင်ဝင်၏အမိုးကို ကျောက်တိုင်များ ခံထောက်ထားပြီး ၎င်း(ကျောက်တိုင်များ)၏ ကျောက်ဖိနပ်များကို တွေ့မြင်နိုင်သေးသည်။ ကျောင်းတိုက်ကြီးတွင် ရဟန်းတော်များနေထိုင်ရန် အခန်းငယ်များပါရှိပြီး ၎င်းအနက်အချို့မှာ အိပ်ရာ(အိပ်ခန်း)များပါရှိသည်။ ထို(အခန်းငယ်များ)ကို ကျယ်ဝန်းလှသည့် ကျောင်းဝင်းပတ်လည်၌ ဖွဲ့စည်းထားသည်။ အနောက်တောင်ထောင့်ရှိ လှေကားများက ဤအဆောက်အအုံသည် မူလက အနည်းဆုံး နှစ်ထပ်မြင့်



ကိုလက်မခံမီ (နာလန္ဒာ၌) ခုနစ်နှစ်ကြာ ပညာဆည်းပူးခဲ့သူ ဒဿနဆရာကြီး ဓမ္မပါလ၊ တိဗက်စာပေကို တိုးတက်အောင်ပြုရာ၌ ထိပ်ဆုံးကပါဝင်ခဲ့သူ ထေဝနမိ သမ္ဘောတတို့ဖြစ်ကြသည်။ တိဗက်၌ ဗုဒ္ဓဘာသာပြန့်ပွားအောင်ဆောင်ရွက်ရာတွင် အရေးကြီးသည့်ကဏ္ဍမှ ပါဝင်ခဲ့ကြသည့် သန္တရက္ခိတ၊ ပဒုမသမ္ဘဝနှင့် ကမလသီလတို့လည်း အလားတူနာလန္ဒာ၌ ပညာဆည်းပူးခဲ့ကြသည်။ (နာလန္ဒာ) တက္ကသိုလ်၏ ထင်ရှားသည့် ကျောင်းသားတစ်ယောက်ဖြစ်သူ သန္တိဒေဝမူကား တကယ် စိတ်ဝင်စားဖွယ် ကောင်းလောက်အောင် (စာသင်ရန်)ပျင်းရိရာ၌ ကျော်ကြားလှသည်။ သို့တိုင်အောင် ၎င်း၏ကျော်ကြားသည့် စာပေလက်ရာ 'ဗောဓိစရိယာဝတာရ'ကျမ်း၌ သန္တိဒေဝသည် ၎င်း၏ ကျောင်းတော်ဟောင်း (နာလန္ဒာ)လည်း ကေန်ပါဝင်သည့် အိန္ဒိယရှိ ဘုန်းတော်ကြီးကျောင်းတိုက်များ ထာဝစဉ် ရှင်နေစေပါကြောင်း ဆုမွန်တောင်းခဲ့သည် 'ဘုန်းတော်ကြီးကျောင်းတိုက်များ သင်ကြားပို့ချသံ သင်ခန်းစာများ ရွတ်ဆိုသံများဖြင့်ဆူညံ (အသံမစဲဖြစ်)လျက် ကောင်းစွာတည်တံ့ပါစေ။ သံဃာတော်များ၏ စည်လုံးညီညွတ်မှု အဓွန့်ရှည်ကြာပြီး သာသနာ့ရေးရာလုပ်ငန်းများကို အောင်မြင်စွာဆောင်ရွက်နိုင်ကြပါစေ'။

ကံမကောင်းစွာပင် သန္တိဒေဝဆုတောင်းခဲ့သည့် အတိုင်းဖြစ်မလာခဲ့ပါချေ။ နာလန္ဒာကဲ့သို့သော ဗုဒ္ဓဘာသာဆိုင်ရာ တက္ကသိုလ်ကြီးများသည် ဗုဒ္ဓဝါဒ၏တောက်ပြောင်မှုကို ပံ့ပိုးပေးကြသည်မှန်၏။ တစ်ချိန်တည်းတွင် ယင်းတို့ (တက္ကသိုလ်ကြီးများ)သည် ဗုဒ္ဓဝါဒ၏ဆုတ်ယုတ်မှုကိုလည်း အမှတ်မထင် တွန်းပို့ပေးခဲ့ကြသည်။ နာလန္ဒာသည် အံ့သြလောက်အောင် ချမ်းသာကြွယ်ဝခဲ့ပြီး ရဟန်းတော်များသည် ဗုဒ္ဓတရားတော်များကို နားလည်ရန်နှင့် လိုက်နာကျင့်သုံး ရန်ထက် (ဘုရင့်)နန်းတော်များ၌ အကျိုးအမြတ်များသည့် ရာထူးများရရှိရန် (ရည်ရွယ်ချက်ဖြင့်) ပိုမိုသင်ယူလာကြသည်။ ကျောင်းတိုက်ကြီးများ၌ တစ်စုတစ်ဝေးတည်း နေထိုင်ကြလျက် ဘုရင့်အားပေး ချီးမြှောက်မှုကို ခံယူနေကြသော ရဟန်းတော်များသည် တဖြည်းဖြည်း ပြည်သူလူထုနှင့် ထိတွေ့မှု ပြတ်တောက်

သွားသည်။ အဆိုးဆုံးမှာ တက္ကသိုလ်ကြီးများရှိ လစ်ဘရယ်ကျ (သဘောထားကြီး)သော သင်ရိုးညွှန်းတမ်းများ၌ ဗြဟ္မဏဝါဒဆိုင်ရာ ဂါထာမန္တရားတို့ကို ပိုမို ထည့်သွင်းပြဋ္ဌာန်းလာကြခြင်းဖြစ်သည်။ ယင်း(သို့ထည့်သွင်းပြဋ္ဌာန်းခြင်း)သည် ဟိန္ဒူဝါဒနှင့် ပိုမိုခွဲခြားမရနိုင်လောက်သော ဗုဒ္ဓဝါဒပုံစံသစ်တစ်မျိုးဆီသို့ ဦးတည်သွားခဲ့သည်။

အေဒီ ၁၁၉၂–ခုနှစ် ဒုတိယ တာရေအင် (Tarain) စစ်ပွဲပြီးနောက် အိန္ဒိယတစ်နိုင်ငံလုံး ရုပ်တုကိုးကွယ်မှုကို ဖျက်ဆီးသည့် မူဆလင်ကျူးကျော်သူများ၏ လက်တွင်းသို့ ကျရောက်သွားခြင်း၊ ဗြဟ္မဏဝါဒ ပြန်လည် ဆန်းသစ်လာခြင်းနှင့် (ဗုဒ္ဓသာသနာ၏) အတွင်းပိုင်းကိုယ်ကျင့်တရား ပျက်ပြားမှုတို့ကြောင့် အားနည်းနေပြီဖြစ်သည့် ဗုဒ္ဓဝါဒသည် တုန်လှုပ်ဖွယ် လက်စသိမ်းတော့မည့်ဆဲဆဲ ဖြစ်သည်။ အေဒီ ၁၁၉၃–ခုနှစ်တွင် မိုဟာမက် ဗက်ခ်တျာ (Muhammad Bakhtyar)[၂၇] အမည်ရှိ မူဆလင်စစ်ဗိုလ်သည် မဇ္ဈိမဒေသကို ကျူးကျော်တိုက်ခိုက်ခဲ့သည်။ တွေ့ရာ (ဟိန္ဒူ ဗုဒ္ဓဘာသာ) ဘုရားကျောင်းအားလုံးကို မီးရှို့ပြီး ရဟန်းတော်များအားလုံးကို သတ်ပစ်သည်။ မူဆလင်သမိုင်းရေးဆရာ မင်ဟာဂျူစ်ဆိရ်ဂျ် (Minhaju-s Sirj)က ၎င်း၏ တာဘာကာအိနဆိရ် (Tabaka't-i Nsir) စာအုပ်၌ ဗက်ခ်တျာအနေဖြင့် တံတိုင်းကာရံထားသည့် မြို့အဖြစ် ထင်မှားခဲ့သော ဗုဒ္ဓဘာသာကျောင်းတိုက်ကြီးတစ်ခုကို ဖျက်ဆီးလိုက်ပုံအကြောင်း ဖော်ပြထားသည်။ ဤဖော်ပြချက်သည် နာလန္ဒာ၏နောက်ဆုံးအခြေအနေ မည်သို့ဖြစ်ခဲ့သည်ကို ဖော်ပြချက်တစ်ရပ် (လည်း) ဖြစ်

[၂၇] အေဒီ ၁၁၉၉–ခုနှစ်တွင် ဘင်္ဂလားနယ်ကို အောင်မြင်ပြီးနောက် မိုဟာမက်ဗက်ခ်တျာသည် တိဗက်ကို ကျူးကျော်တိုက်ခိုက်ရန် ဆုံးဖြတ်ခဲ့သည်။ နောက်ဆုံး၌ ရာသီဥတုက ၎င်းအားနောက်ဆုတ်ရန် တွန်းအားပေးလိုက်သည်။ ၎င်း၏စစ်တပ်ကြီး ရေလျှံနေသည့် မြစ်တစ်ခုကို ကျော်ဖြတ်ရန်ကြိုးစားစဉ် (ရာသီဥတုဒဏ်ကို) ပြင်းစွာခံကြရပြီး ဗက်ခ်တျာ ကိုယ်တိုင်ပင် မကြာမီထိုရာသီဥတုဒဏ်ကြောင့် သို့မဟုတ် အခြားမှတ်တမ်းတစ်ခုအရ လုပ်ကြံသတ်ဖြတ်သူများ၏လက်တွင်း၌ သေဆုံးသွားခဲ့သည်။



သည်။ 'ဗက်ခ်တျာသည် ကြီးစွာသောလုံ့လ စွန့်စားမှုတို့နှင့်အတူ ခံတပ်ဂိတ်ဝသို့ တစ်ရှိန်ထိုးဝင်ရောက်သွားပြီး ထိုနေရာကို သိမ်းဆည်းရယူလိုက်သည်။ အကြီးအကျယ် အဖမ်းလုယက်ခြင်းတို့သည် အောင်မြင်သူများ၏ လက်တွင်းသို့ကျရောက်သွားသည်။ ထိုနေရာ၌ နေထိုင်သူအများစုသည် ကတုံးတုံးထားသည့် ပုဏ္ဏား (ရဟန်းတော်)များ ဖြစ်ကြသည်။ ၎င်းတို့အားလုံးကို သတ်ပစ်လိုက်သည်။ စာအုပ်ပေါင်းမြောက်မြားစွာကို တွေ့ရှိရသည်။ မူဆလင်စစ်သားတို့ ယင်းစာအုပ်များကို တွေ့ရသောအခါ ထိုစာအုပ်များ၌ပါသည့် အကြောင်းအရာများကို ရှင်းပြရန် လူအချို့ကိုရှာဖွေသည်။ သို့သော် ၎င်းတို့အားလုံး သေဆုံးကုန်ပြီဖြစ်သည်။ ခံတပ်နှင့် မြို့တော်တစ်ခုလုံးမှာ စာပေလေ့လာသည့်ဌာန တစ်ခုဖြစ်နေကြောင်း တွေ့ရှိရသည်'။

ဓမ္မသာမိ၏မှတ်တမ်းအရ နာလန္ဒာသည် ပထမတစ်ကြိမ် တိုက်ခိုက်ခံရသည်။ ၎င်းနောက် ရဟန်းတော်အချို့ပြန်လာပြီး အနည်းဆုံး ၎င်းတို့၏ ပုံမှန်စာပေလေ့လာမှု ကမ္မဋ္ဌာန်းအားထုတ်မှုနှင့် ဘုရားဝတ်ပြုခြင်းတို့ကို အနည်းအကျဉ်း ဆက်လက်ပြီး ကြိုးစား၍အားထုတ်ရန် ပြန်လာခဲ့ကြသည်။ နောက်တစ်ကြိမ် ဝင်ရောက်စီးနင်းခံရပြီးနောက် ရဟန်း တော်များသည် နောက်ဆုံး၌ မြန်မာ၊ နီပေါနှင့် တိဗက်တို့၌ ခိုလှုံရန်တိတ်တဆိတ်ထွက်ပြေးကုန်ကြသည်။ ဤသို့ဖြင့် နာလန္ဒာခန်းမဆောင်များသည် တိတ်ဆိတ်ငြိမ်သက်သွားလေသည်။

## ကြည့်ရှုဖွယ်

### ကျောင်းဆောင်အမှတ် ၁

နာလန္ဒာကျောင်းတော်ရာ အပျက်အစီးများအတွင်းသို့ ကျောင်းဆောင်အမှတ် ၁ နှင့် ၄ အကြားရှိ လူသွားလမ်းမှ ဝင်ရောက်နိုင်သည်။ ကျောင်းတော်ရာအမှတ် ၁ ဝရန်တာမှတွေ့ရှိခဲ့သည့် ကြေးပြားပေါ်ရှိ အရေးအသားအရ ယင်းအဆောင်သည် ဂျာဗားနှင့်ဆုမတြားဒေသမှ လာရောက်ကြသည့် ကျောင်းသားများအတွက် ကောလိပ်ဆောင် ဖြစ်သည်။

အပြင်နံရံအားလုံး၏ ပတ်လည်တွင် ရုပ်ပုံထွင်းထုထားသည့် ကျောက်ချပ်ပေါင်း နှစ်ရာ့ခုနစ်ဆယ်ချပ် ရှိသည်။ ဤစေတီတော် ပတ်လည်ကို တဖြည်းဖြည်း ခြေလျှင်လျှောက်ပြီး ထို(ရုပ်ပုံပါ)ကျောက်ချပ်များကို ကောင်းစွာ ကြည့်ရှုလေ့လာသင့်သည်။ ဘုရားဖူးသည် တူရိယာပစ္စည်းများ သီဆိုတီးမှုတ်နေကြသည့် ရုပ်ပုံများ၊ ချစ်တင်းနှောနေကြသည့် စုံတွဲပုံများ၊ ဟိန္ဒူနတ်များ၊ စောင်း၊ ငန်း၊ ပုံမှဲ့အရေးအကြောင်းများနှင့် နေ့စဉ်ဘဝမြင်ကွင်းဆိုင်ရာ ရုပ်ပုံများကို တွေ့မြင်နိုင်သည်။ ဤစေတီတော်ရှိ အခြားစိတ်ဝင်စားဖွယ် ရုပ်ပုံတစ်ခုကို လှေကားဆင်းမှ စေတီတော်ထဲ ဝင်ရောက်ခြင်းဖြင့် တွေ့မြင်နိုင်သည်။ ဤဘုရားကျောင်းအတွင်းရှိ ဖော်ပြပါကျောက်(ပြား)များကို သံညှပ်များနှင့် ချိတ်ဆက်ထားသည်ကိုလည်း သတိပြုမိပါလိမ့်မည်။

## ရှေးဟောင်းသုတေသနပြတိုက်

ဤပြတိုက်၌ နာလန္ဒာပတ်ဝန်းကျင်တွင် တွေ့ရှိရသည့် ကျောက်နှင့် သတ္တု ဆင်းတုများကို သပ်ရပ်စွာ ပြသထားသည်။ အသပ္ပာယ်ဆုံး လက်ရာတစ်ခုမှာ ကျောက်နက်ဖြင့် ထွင်းထုထားသည့် အဝလောကိတေသွာရ သို့မဟုတ် သမန္တဘဒြဟုယူဆရသည့် လုံးဝနီးပါးရုပ်တော်မူဆင်းတုတော်ကြီး တစ်ဆူဖြစ်သည်။ ဘယ်ဘက်လက်ဖြင့် လှပသည့် ကြာပန်းကို ကိုင်ထားပြီး ညာလက်ဖြင့် လက်ဝါးအောက် ချထားပြီး ဆုတော်ပေးနေဟန်ဖြစ်သည်။ ဘုရားလောင်း ဦးခေါင်းနောက်ဘက်၌ ရှည်လျားသည့် ရောင်လျှံစက်ဝိုင်းပေါ်တွင် ဗုဒ္ဓဆင်းတုသုံးဆူနှင့် လေးခုမြောက် အခြား(ဗုဒ္ဓဆင်းတုတော်)မှာ ဘုရားလောင်း၏ဦးခေါင်းပေါ်၌ ထိုင်နေသည်။ ဆင်းတု၏ခြေရင်းတွင် အမျိုးသမီး ဥပါသိကာ နှစ်ယောက် ရပ်နေသည်။ ဤဆင်းတု၏ သက်သောင့်သက်သာ အနေအထားနှင့် အလုံးစုံရိုးရှင်းမှုများက ယင်းဆင်းတုသည် ဂုတ္တခေတ်နှောင်းပိုင်းလက်ရာဖြစ်ကြောင်း ညွှန်ပြသည်။

ဝမ်းနည်းဖွယ်ကောင်းသည်မှာ နှာခေါင်းကို ပြန်လည်ပြုပြင်ရန် ယခင်ကြိုးပမ်းမှုများသည် ဗောဓိသတ္တမျက်နှာပေါ်ရှိ သပ္ပာယ် တင့်တယ်



ကြောင်းညွှန်ပြသည်။ အုတ်နံရံများထူထဲမှုက ယင်းထက်ပို၍ပင် မြင့်နိုင်သည်ကို ဖော်ညွှန်းသည်။ ကျောင်းဆောင် အမှတ် ၁ ၏ အရှေ့ဘက်အဆုံးတွင် မူလက ဗုဒ္ဓဆင်းတုတော်ကြီးတစ်ခုကိန်းဝပ်ခဲ့သည့် ဘုရားကျောင်းတစ်ခုရှိသည်။ ဤဆင်းတုတော်၏ တင်ပလ္လင်ခွေ တစ်စိတ်တစ်ပိုင်းမှာ (ပြန်လည်)ဆက်စပ်တပ်ဆင်ထားသည့် အစိတ်အပိုင်းသာ ကြွင်းကျန်တော့သည်။ ဘုရားကျောင်းရှေ့ရှိ ကျောက်တိုင်များနှင့် ပလက်ဖောင်း(ကြမ်းပြင်)မှာ ဝင်းအတွင်းစည်းဝေးနေကြသည့် ကျောင်းသားများအား မိမိတို့၏ဟောပြောပို့ချချက်ကို ဟောပြော(ဖတ်ပြ)စဉ်ဆရာများထိုင်သော နေရာဖြစ်ဖွယ်ရှိသည်။

## စေတီတော် အမှတ် ၃

ဤစေတီ (ဘုရားကျောင်း)ကို ရာစုနှစ်များအတွင်း အနည်းဆုံး ခုနစ်ကြိမ် ပြန်လည်ပြုပြင်မွမ်းမံတည်ဆောက်ခဲ့ပြီး ဖြစ်သည်။ အစုအပြုံလိုက်ဝန်းပတ်နေသည့် အဓိဋ္ဌာန်စေတီငယ်များစွာနှင့် အတူဤ (စေတီမှတ် ၃)သည် နာလန္ဒာတွင် အရှိအသေအပြုခံရဆုံးသော စေတီတစ်ဆူဖြစ်သည်။ ဤနေရာရှိ မူလအဆောက်အအုံကို အရှင်သာရိပုတ္တရာဖွား တော်မူသည့်နေရာတွင် (စေတီ)တည်ဆောက်ခဲ့ခြင်းဖြစ်ကြောင်း သံသယဖြစ်ဖွယ်မလိုချေ။ ဤစေတီ၏ ပထမသုံးဆင့်ကို နှောင်းခေတ်ထပ်ပေါင်း ဖြည့်စွက် တည်ဆောက်မှုများဖြင့် ဖုံးလွှမ်းထားပြီး ယခုအခါ မတွေ့ရတော့ချေ။ စေတီတော်သည် နှောင်းခေတ် ရာစုနှစ်များတွင် ဖြစ်ပေါ်လာခြင်းကြောင့် ထောင့်လေးခုတွင် စေတီရံငယ်လေးခုနှင့် အလယ်ဗဟို စေတီမကြီးတစ်ခု ပါရှိသည်။ ထောင့်ရှိ အရံစေတီငယ် လေးခုအနက် သုံးခုမျှသာကျန်ရှိပြီး ဗုဒ္ဓဂယာရှိ မဟာဗောဓိစေတီတော် (၏အရံစေတီငယ်ပုံစံ)နှင့် မတူချေ။

အရံစေတီငယ်များတွင် ဂုတ္တခေတ်လက်ရာ အင်္ဂတေသရွတ်ကိုင် (၍ပြုလုပ်)ထားသော ဗုဒ္ဓနှင့်ဗောဓိသတ္တ (ဆင်းတုတော်)များပါရှိသည့် အမိုးခုံးကလိုင်ငယ်များရှိသည်။ ဝမ်းနည်းဖွယ်ကောင်းသည်မှာ မကြာမီနှစ်များအတွင်းက ဤဆင်းတုတော်များ၏ ဦးခေါင်း သို့မဟုတ် မျက်နှာ

များသည် မှောင်ခိုဈေးကွက်တွင် ရောင်းချရန် ဖျက်ဆီးခြင်းခံခဲ့ရသည်။ ဆင်းတုတော်တစ်ဆူ ရှိခဲ့မည်ဖြစ်သည့် ဘုရားခန်းရှိရာ စေတီတော်ထိပ်သို့ တက်ရောက်သော လှေကားကြီး တစ်ခုရှိသည်။ စေတီတော်အရှေ့ဘက်ခြမ်းရှိ စေတီငယ်များမှာ ထူးထူးခြားခြားစိတ်ဝင်စားဖွယ်ကောင်းသည်။ ထိုစေတီတော် အများစုတွင် ဆက်သွယ်ထားသည့် အခန်းငယ်များရှိသည်။ ၎င်း(အခန်းငယ်)များအတွင်း ကမ္မဋ္ဌာန်းဘာဝနာ ရှုမှတ်နိုင်ရန် ယင်းသို့ ဆက်သွယ်ထားခြင်းဖြစ်သည်။ အခြားစေတီတော်အချို့မှာ ပါဠိတော်စာသားများ ရေးထွင်းဖော်ပြထားသော အုတ်များဖြင့် တည်ဆောက်ထားသည်ကို တွေ့ရပြီး ရာစုနှစ်ပေါင်းများစွာအတွင်း နာလန္ဒာတွင် သီတင်းသုံးခဲ့ကြသည့် လေးစားအပ်သော ပညာရှင် ဆရာကြီးများကို ဂုဏ်ပြုတည်ဆောက်ထားခြင်းဖြစ်ဖွယ်ရှိသည်။ စေတီတော်အမှတ် ၃ ၏ ထိပ်မှ ဘုရားဖူးသည် နာလန္ဒာတက္ကသိုလ်ဝင်း တစ်ခုလုံး၏ လှပသည့် မြင်ကွင်းကို ရရှိနိုင်သည်။

## စေတီတော်အမှတ် ၁၂

ဤစေတီသည် နာလန္ဒာတွင် အကြီးဆုံးဖြစ်သည်။ ခန့်မှန်းခြေ ၅၀×၅၂ မီတာခန့်ရှိသည်။ စေတီအမှတ် ၃ ကဲ့သို့ ဤစေတီ၌ ထောင့်တိုင်း တွင် စေတီရံလေးခုနှင့် အလယ်တွင် ပင်မ စေတီကြီးရှိသည်။ ထောင့်ရှိ စေတီရံ ငယ်တိုင်း၌ မူလကဗုဒ္ဓဆင်းတုတော် တစ်ဆူစီ ကိန်းဝပ်ခဲ့သော ဘုရားခန်းများပါရှိသည်။ လှေကားများထိပ် ဘယ်ဘက်၌ ပန်းပုထွင်း ကျောက်တိုင်နှစ်ခုရှိသည်။ ဟူယင်ဆန်သည် အောက်ပါအတိုင်း ရေးသားဖော်ပြရာ၌ ဤစေတီတော်ကို ရည်ညွှန်းခဲ့ဖွယ်ရှိသည် -

'လှပစွာတန်ဆာဆင်ထားသည့် အရံစေတီများနှင့် နတ်ဘုံပြသာဒ်များပမာ ချွန်ထက် တောင်ထိပ်များအလား ပြအိုးမျှော်စင်များသည် တစ်ခုနှင့်တစ်ခု စုစည်းနေကြသည်။ အထွတ်များသည် နံနက်ခင်းမြူမှုန်များအကြား ပျောက်ကွယ်သွားသလားထင်ရပြီး အပေါ်ခန်းအထွတ်များမှာ မြူတိမ်များအထက်၌ ရှိကြသည်။ ပြတင်းပေါက်များမှ တစ်ဆင့်လေနှင့် မြူတိမ်များကို မြင်နိုင်ပြီး မြင့်မားသည့် တံစက်မြိတ်များပေါ်တွင်



လနေတို့ယှဉ်တွဲနေကြသည်ကို ရှုစားနိုင်သည်'။ စေတီတော်အမှတ် ၁၂ ၏ တောင်နှင့် မြောက်နှစ်ဘက်လုံးတွင် ဘုရားခန်းငယ်နှစ်ခုရှိသည်။ ဘုရားခန်းတိုင်းတွင် ဘူမိဖဿမုဒြာ (မြေကိုလက်နှင့်ထိထားဟန်)ဖြင့် ဆင်းတုတော်အကြွင်းအကျန်များရှိသည်။

## ကျောင်းဆောင်အမှတ် ၄ မှ ၁၁

ကျောင်းဆောင်အမှတ် ၁ နှင့် ၄ မှ ၁၁ အထိမှာ နာလန္ဒာ တက္ကသိုလ်ကျောင်းသားများ နေထိုင်စာပေလေ့လာသည့် ကောလိပ်ဆောင်များဖြစ်ကြသည်။ ထိုအဆောင်များမှာ တစ်ခုနှင့်တစ်ခု အနည်းငယ်သာခြားနားသည်။ ထိုအဆောင် အများစုတွင် ဝင်းအတွင်း ရေတွင်းများနှင့် အရှေ့မြောက်ထောင့်များတွင် အိမ်သာများအဖြစ် အသုံးပြုခဲ့ဖွယ်ရှိသည့် ရေနုတ်မြောင်းများရှိသည်။ ကျောင်းဆောင် အမှတ် ၉ ၏ စိတ်ဝင်စားဖွယ်သွင်ပြင်တစ်ခုမှာ ဝင်းအတွင်း မီးဖို ၆ ခုရှိခြင်းဖြစ်သည်။

ယင်းကျောင်းဆောင်များကို ယခုအခါ ပုံဖော်ရန် မဖြစ်နိုင်တော့သော်လည်း ကျောင်းဆောင်အသီးသီးမှာ မူလက လှပစွာ ဆေးသုတ်တန်ဆာဆင်ထားလျက် အနည်းဆုံးလေးထပ်မြင့်သည်။ ဟူယင်ဆန်သည် ထိုအချိန်က ရဟန်းတော်များ တည်ရှိခဲ့သည့်အတိုင်း ရဟန်းတော်များ၏ နေရာဌာနများကို ဤသို့ဖော်ပြခဲ့သည် 'ရဟန်းတော်များ၏ အခန်းငယ်များရှိသည့် အပြင်ဆောင် အားလုံးသည် လေးထပ်ရှိ၏။ အထပ်များ၌ နဂါးရုပ်ပုံအစွန်းများနှင့် ရောင်စုံတံစက်မြိတ်များ၊ ပုလဲနီရောင် ကျောက်တိုင်များ၊ ကျောက်ထွင်းရုပ်ပုံများနှင့် တန်ဆာဆင်ယင်ထားသည့် အဆင့်မြင့်သပ်ရပ်စွာ ပြုလုပ်ထားသော ပွတ်လုံးလက်ရန်းများ၊ နေရောင်ကာများစွာဖြင့် အလင်းရောင်ပြန်ဟပ်စေသည့် အုတ်ကြွပ်များဖြင့် လွှမ်းမိုးထားသည့် အမိုးများရှိသည်။ ထိုအရာများသည် မြင်ကွင်းအလှကို ထပ်လောင်းဖြည့်ပေးသည်'။

## ဗုဒ္ဓဆင်းတုတော်

ကျောင်းဆောင်အမှတ် ၇ နှင့် ၈ နောက်တည့်တည့်တွင် ငယ်သော်လည်း စိတ်ဝင်စားဖွယ် စေတီတော်နေရာတစ်ခုရှိသည်။ ဤစေတီတော်

## ၈။ ပတ္တနား

> အာနန္ဒာ၊ အရိယ(လူမျိုး)တို့၏ နယ်မြေကျယ်ပြောသမျှ၊ ကုန်သွယ်မှုတိုးချဲ့သမျှ သို့မဟုတ် အမျိုးအနွယ် (သားစဉ်မြေးဆက်) ကျဲပြန့်နေသမျှ ပါဋလိပုတ္တသည် အဓိကမြို့တော် ဖြစ်နေပေလိမ့်မည်။ သို့ရာတွင် ပါဋလိပုတ္တသည် မီးအန္တရာယ်၊ ရေလွှမ်းမိုးမှုအန္တရာယ်၊ အချင်းချင်း သဘောထားကွဲလွဲမှုဟူသော အန္တရာယ်သုံးမျိုးကို ရင်ဆိုင်ရပေလိမ့်မည် (ဒီ ၂၊ ၇၄)။

ပါဋလိဂါမသည် မဂဓနှင့် ဝဇ္ဇီနိုင်ငံတို့အကြား နယ်စပ်ရှိ ဂင်္ဂါမြစ်ကမ်းတွင်တည်ရှိသည့် မြို့ငယ်တစ်မြို့ဖြစ်ပြီး နှစ်နိုင်ငံဖြတ်ကျော်သည့် အဓိကနေရာဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်သည် ဘဝသက်တမ်း၏ နောက်ဆုံးနှစ်တွင် ပါဋလိပုတ္တမြို့၌ ခေတ္တမျှ သီတင်းသုံးတော်မူခဲ့သည်။ မြို့သူမြို့သားများက ဆောက်သစ်စ စည်းဝေးခန်းမဆောင်ကို မြတ်စွာ ဘုရားအား ပထမဆုံးသီတင်းသုံးနေထိုင်ရန် လှူဒါန်းကြသည်။ ပါဋလိဂါမတွင် မြတ်ဗုဒ္ဓ၏ တပည့်ဒကာ ဒကာမ အများအပြားရှိကြမည်မှာ ထင်ရှားသည်။ အကြောင်းမူ ဃောဋမုခသုတ် (မ ၂၊ ၃၇၆)တော်အရ ဃောဋမုခပုဏ္ဏားက နိစ္စဘတ် ဆွမ်းအတွက်နှင့် နောက်ပိုင်း လိုအပ်သည်တို့အတွက် (လှူဒါန်းသောဝတ္ထုငွေ)မှ ပါဋလိရွာတွင် သံဃာတော်များအတွက် ခန်းမဆောင်တစ်ခု ဆောက်လုပ်စေကြောင်းသိရသည်။ မျက်မှောက်ခေတ်တွင် ယင်းအဆောက်အအုံကို ဃောဋမုခီဟုခေါ်သည်။ ပါဋလိဂါမ၌ ကြွရောက် သီတင်းသုံးတော်မူကြသော ဗုဒ္ဓဘာသာရဟန်းတော် များအတွက် အထင်ရှားဆုံး သီတင်းသုံးသည့်နေရာမှာ ကုက္ကုဋာရုံ(ကြက်မင်းပန်းခြံ)ဖြစ်သည်။ အရှင်အာနန္ဒာသည် ကုက္ကုဋာရုံ ကျောင်းတိုက်၌ အရှင်ဘဒ္ဒမထေရ်အား ဒေသနာတော်ခြောက်ခု ဟောကြားတော်မူခဲ့သည်။ ပါဋလိဂါမမှ မထွက်ခွာမီကလေးတွင် ဗုဒ္ဓရှင်တော်မြတ်က ပါဋလိဂါမသည် မြို့ကြီးတစ်မြို့အဖြစ်သို့ ကြီးပွားလာလိမ့်မည်ဟု ကြိုတင် မိန့်မြွက်တော်မူခဲ့သည်။ ဤဟောကြားတော်မူချက်နှင့် အညီ ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် နှစ်တစ်ရာအတွင်း မဂဓတိုင်း၏မြို့တော်ဖြစ်လာပြီး ပါဋလိဂါမ(ပါဋလိရွာ)မှသည် ပါဋလိပုတ္တ(ပါဋ



သည့်သွင်ပြင်ကို နိမ့်ကျယုတ်လျော့စေသည်။ ဤပြတိုက်ရှိ အခြားစိတ်ဝင်စားဖွယ် ပစ္စည်းတစ်ခုမှာ ဆင်စွယ်ဖြင့် ပြုလုပ်ထားသည့် ညှပ်ဖိနပ်ဖြစ်သည်။ ဤပြတိုက်ကို ကျောင်းတော်ရာအပျက်အစီးများ (ရှိသည့်နေရာ)နှင့် ယှဉ်တွဲထားပြီး နေ့စဉ် နံနက် ၉–နာရီမှ ညနေ ၅ နာရီထိဖွင့်သည်။

### သွားရောက်ရန်

နာလန္ဒာသည် ပတ္တနား အရှေ့တောင်ဘက် ကီလိုမီတာ ၉၀ နှင့် ရာဇဂြိုဟ်၏မြောက်ဘက် ၁၁ ကီလိုမီတာအကွာတွင် တည်ရှိပြီး လမ်းမကြီးနှင့် ၂ ကီလိုမီတာ ကွာဝေးသည်။

## နာလန္ဒာဝန်းကျင်

### ဂျာဂဒီသပူရမှ ဗုဒ္ဓဆင်းတုတော်

ကြီးမားပြီး အလွန်စိတ်ဝင်စားဖွယ်ကောင်းသည့် ဗုဒ္ဓဆင်းတုတော်တစ်ဆူကို နာလန္ဒာအပျက်အစီးများ၏ အနောက် တောင်ဘက် ၃ ကီလိုမီတာအဝေးရှိ ဂျာဂဒီသပူရရွာတွင် ဖူးတွေ့နိုင်သည်။ ပင်မဆင်းတုတော်မှာ ယခုအခါ၌ ဟိန္ဒူဘုရားကျောင်းငယ်တစ်ခု၌ရှိနေပြီး ဤဆင်းတုတော်သည် ကျောက်ခဲများဖြင့်ပစ်ခတ်၊ လက်များဖြင့်ခြိမ်းခြောက်ပြီး (ဗုဒ္ဓလောင်းလျာ၏ဘုရားဖြစ်ရန်) အဓိဋ္ဌာန်ချက် ပျက်ပြားသွားအောင် ကြိုးစားနေသည့် မာရ်နတ်နှင့် စစ်သည်ဗိုလ်ပါများ ဝန်းရံခံနေရပုံကို သရုပ်ဖော်ထားသည်။ ဗုဒ္ဓဆင်းတုတော်၏ မျက်နှာတွင် ကြည်လင်ရွှင်ပျနေသည့် အရိပ်အရောင်မျိုးရှိပြီး ညာဘက်လက်သည် ဘူမိဖဿမုဒြာ (မြေကြီးလက်ထိ)ဟန်ဖြစ်သည်။ ဗုဒ္ဓဆင်းတုတော်၏ လည်ပင်း၌ ဗုဒ္ဓလက်ထက်တော်က အရေးကြီးဖြစ်ရပ်ခုနစ်ခုတို့ဖြင့် သရုပ်ဖော်ထားသည်။ ၎င်း (သရုပ်ဖော်ပုံများ)မှာ ပျားရည်လှူဒါန်း နေကြသည့် ရဟန်းတော်များ၊ တရားဦးဒေသနာ ဟောကြားတော်မူနေပုံ၊ တုသိတာနတ်ပြည်မြင်ကွင်း၊ ပရိနိဗ္ဗာန်စံ တော်မူပုံ၊ နာဠာဂိရိဆင်ပြောင်ကို ဆုံးမတော်မူခန်း၊ သာဝတ္ထိ၌ တန်ခိုးပြာဋိဟာပြတော်မူနေပုံနှင့် ဖွား






မြင်တော်မူပုံတို့ ဖြစ်သည်။ ဝမ်းနည်းဖွယ်ကောင်းသည်မှာ ဤသပ္ပာယ်လှသည့် ဆင်းတုတော်၏ အသေးစိတ် (လက်ရာများ)သည် အညစ်အကြေးအထပ်ထပ်နှင့် အပြင်မျက်နှာပြင်၌ (လိမ်းကျံနေသော) မြူမှုန်များကြောင့် မကြည်လင်ဖြစ်နေသည်။

## သွားရောက်ရန်

ဂျာဂဒီသပူရရွာသို့ ရောက်ရှိရန် နာလန္ဒာတက္ကသိုလ်သစ်ကို ဖြတ်သွားသည့်လမ်းသို့သွားရသည်။ ၎င်းမှတစ်ဆင့် ခြေလျင်ခရီး တစ်ကီလိုမီတာခန့်ဆက်သွားပါ။ ထိုဆင်းတုတော် ကိန်းဝပ်ရာ ဘုရားကျောင်းကို ရုက မဏိအဆတန် (Ruk mani Astan)ဟုခေါ်သည်။

သင့်ပြာ တည်ရှိသည်။ ဤမီးသင့်ပြာ အောက် ၂ ဒသမ ၄ နှင့် ၂ ဒသမ ၇ မီတာအကြား ထူထဲသည့် နုန်းမြေလွှာရှိသည်။ ဤသည်မှာ ဗုဒ္ဓရှင်တော်မြတ်၏ ပါဋလိပုတ်သည် မြို့ကြီးတစ်မြို့အဖြစ်သို့ တိုးတက်ပြီးနောက် မီးရေတို့၏ ဖျက်ဆီးခြင်းခံရလိမ့်မည်ဟူသော ကြိုတင်မိန့် မြွက်တော်မူချက်၏ ထူးခြားစွာ မှန်ကန်တိကျမှု ဖြစ်သည်။ နုန်းမြေလွှာအောက်ခြေနှင့် ထောင့်မှန်ကျ မီးသင့်ပြာ အတောင့်များ အောက်ခြေတည့်တည့်တွင် မောရိယခေတ်ပုံသဏ္ဌာန် ချောမွတ်သည့် ကျောက်တိုင်အပိုင်းအစများ တွေ့ရှိရသည်။ တစ်ခုနှင့်တစ်ခု ၄ ဒသမ ၃ မီတာ ကွာသည့် ကျောက်တိုင်များသည် ရှစ်မြောင့်ဖြစ်ပြီး စုစုပေါင်း ၇၂ တိုင် ရှိသည်။ နောက်ဆုံး၌ အတော်အတန်ရှည်သည့် ကျောက်တိုင်နှစ်ခုကို သာတွေ့ရသည်။ တူးဖော်မှုကို ဆောင်ရွက်သူ စပွန်နာ (Spooner)သည် မူလက ၁၂ မီတာ မြင့်ဖွယ်ရှိသည့် ကျောက်တိုင်များသည် သစ်သားအမိုးကို ခံဆောင်(ထောက်ခံ) ထားခဲ့ပြီး တစ်ချိန်၌ အကြီးအကျယ်ရေလွှမ်းမိုးမှုကြောင့် (ဖြစ်ပေါ်လာသည့်) နုန်းမြေသည် ကျောက်တိုင်အမြင့်၏ ထက်ဝက်မျှကိုသာတွေ့နိုင်သည်အထိ ဖန်တီးခဲ့ကြောင်း ထင်ကြေးပေးခဲ့သည်။ နောင်တွင် အကြီးအကျယ် မီးလောင်ခြင်းဖြင့် အမိုးကို ဖျက်ဆီးခဲ့ပြီး ကျောက်တိုင်အပေါ်ပိုင်းအစွန်းများကို အက်ကွဲစေလျက် ကျောက်တိုင်များသည် နောက်ဆုံး၌ ပြာနှင့်ကျောက်အပိုင်းအစများကို စုံးဝင်သလောက် ဆွဲယူသွားပြီး မြေနုထဲမြုပ်ဝင်သွားတော့သည်။

ယနေ့ခေတ်တွင် ကျောက်တိုင်များရှိသည့် ခန်းမအကြွင်းအကျန်များသည် အရိပ်အာဝါသကောင်းပြီး ကောင်းစွာ ထိန်းသိမ်းထားသည့် ပန်းခြံဖြင့်ဝန်းရံထားသော လေးထောင့်ပုံချိုင့်ဝှမ်းကြီး၏ အောက်ခြေတွင် တည်ရှိသည်။ ဝမ်းနည်းဖွယ်ကောင်းသည်မှာ ထိန်းသိမ်းစောင့်ရှောက်မှု ညံ့ဖျင်းခြင်းကြောင့် ချိုင့်ဝှမ်းနေရာသည် တစ်နှစ်ပတ်လုံး ရေပြည့်နေပြီး မျက်နှာပြင်ပေါ်တွင် ကျောက်တိုင်တစ်ခုကိုသာတွေ့နိုင်သည်။ သို့ရာတွင် ထိုနေရာ၏အစွန်းတစ်နေရာ၌ တစ်ခုတည်းသော ကျောက်တိုင်ကို တွေ့ရဆဲဖြစ်သည်။ ယင်းကျောက်တိုင်သည် ခန်းမဆောင်ကို ရေမလွှမ်းမိုးမီ



လိပုတ်)မြို့တော် အဖြစ်သို့ ပြောင်းလဲသွားသည်။ ခေတ်သစ် ပတ္တနားမြို့တော်သည် ယခုအခါ အဆိုပါနေရာတွင် တည်ရှိဆဲဖြစ်သည်။

မြို့တော်၏ ကံကြမ္မာ ပြောင်းလဲသွားသည့်အတိုင်း ဗုဒ္ဓသာသနာတော်၏ ကံကြမ္မာသည်လည်း ပြောင်းလဲသွားခဲ့သည်။ ကုက္ကုဋာရုံသည် ပန်းခြံအဖြစ်မှ ကျောင်းတိုက်ကြီးတစ်ခု တည်ဆောက်ခြင်းဆီသို့ တိုးတက်သွားပြီး ဘီစီ ၂၅၃ တွင် အသောကမင်းကြီး ကျင်းပခဲ့သော တတိယသံဂါယနာတင်သည့် နေရာဌာနဖြစ်လာသည်။

စိတ်ဝင်စားဖွယ် တကယ်ကောင်းသည်မှာ အိန္ဒိယမဟုတ်ဘဲ ဂရိအထောက်အထားများအရပင် ဤခေတ်ဤအချိန် ဝန်းကျင်လောက်က ရှေးခေတ် ပတ္တနားမြို့တော်အကြောင်း ဖော်ပြထားချက်များ ရှိသည်။ အသောကမင်း၏ဘိုးတော် စန္ဒဂုတ္တမင်းသည် အလက်စန္ဒာ သဂရိတ်ကို ဆက်ခံခဲ့သူများအနက် တစ်ယောက်ဖြစ်သူ ဆေလျူကိုစ် နိကာတာ (Seleukos Nikator, 313-281 B.C.)ကို တိုက်ခိုက် အောင်မြင်လိုက်သည်။ ၎င်းနောက် နိကာတာသည် ပတ္တနားရှိ မောရိယနန်းတော်သို့ သံတမန်တစ်ယောက် စေလွှတ်လိုက်သည်။ သံတမန် မေဂါစသင်းနက်စ် (Megasthanes)သည် နောင်အခါ၌ ကျမ်းစာတစ်အုပ်ရေးခဲ့သည်။ ယင်းကျမ်း၌ ထိုပုဂ္ဂိုလ်က အနောက်တိုင်းသားများအား အိန္ဒိယအကြောင်း ပထမဦးဆုံးသော မျက်မြင်လက်တွေ့ မှတ်တမ်းကို ပေးခဲ့သည်။

မေဂါစသင်းနက်စ်အဆိုအရ ပါဋလိပုတ္တသည် ဂင်္ဂါမြစ်၏ တောင်ဘက် ကမ်းခြေတစ်လျှောက် ကျယ်ပြန့်စွာတည်ရှိပြီး သစ်သား(မြို့ရိုး) တံတိုင်းသည် အရှည် ၁၅ ကီလိုမီတာ၊ အကျယ် ၂ ဒသမ ၅ ကီလိုမီတာရှိလျက် မီတာ ၂၀၀ အကျယ် ၁၅ မီတာအနက်ရှိ ကျုံးကြီးဖြင့် ကာရံထားသည်။ သစ်သားဖြင့်ပြုလုပ်ထားသော အုတ်မြို့ရိုးတံတိုင်းများသည် ဝင်ပေါက် ၆၄–ခုနှင့် မျှော်စင်ပေါင်း ၅၇၀ ရှိသည်။

၁၉၁၅–၁၆ ခုနှစ်များတွင် ပတ္တနားမြို့ရထားဘူတာရုံမြောက်ဘက် ဗုလန္ဒိဘယ (အရပ်)၌ တူးဖော်ခြင်းများအရ အလွန့်အလွန် အံ့သြဖွယ်ပြုပြင် ထိန်းသိမ်းမှုအခြေအနေဖြင့် အဆိုပါသစ်သားမြို့ရိုးကြီး၏ အစိတ်

အပိုင်းများကို တူးဖော်တွေ့ရှိခဲ့သည်။ ၄ ဒသမ ၅ မီတာထုထဲသော နံရံတံတိုင်းများကို လေးလံကြီးမားသည့် ထောင်လိုက်သစ်တုံး များဖြင့် တည်ဆောက်ထားသည်။ မူလမြေညီအဆင့်၏အောက်တွင် ၁ ဒသမ ၅ မီတာခန့်မြုပ်ဝင်နေသည်။ ကြီးမားသည့် သံမှိုမယ်နတ်ိုဖြင့် ရိုက်နှက်တွဲစပ်ထားသည်။ တူးဖော်ခြင်းမရပ်နားမီနောက်ဆုံး၌ ၂၀၅ မီတာတူးဖော်တွေ့ရှိခဲ့သည်။ ရှေးဟောင်းသုတေသနပညာရှင်များက မြို့ရိုးသည် ကီလိုမီတာပေါင်းများစွာ ရှည်လျားမည်ဟုခန့်မှန်းကြသည်။

ရဟန်းတော် ဖာဟီယန် ပဋ္ဋာနားမြို့သို့ ရောက်သွားသောအခါ အသောကမင်းကြီး၏ နန်းတော်အပျက်အစီးများကို တွေ့ရသည်။ ပျက်စီးနေသည့် အခြေအနေမှာပင် (ယင်းနန်းတော်သည်) လူသားလွန် တန်ခိုးစွမ်းရည်ဖြင့် တည်ဆောက်ခဲ့သည်ဟု ဒဏ္ဍာရီပုံပြင်များ ပေါ်ထွက်နေသည့်အထိပင် ကြီးမားလှသည် 'ယခုအခါ ရှေးဟောင်း (နန်းတော်ဆောင်) အဖြစ်တည်ရှိဆဲဖြစ်သည့် မြို့တော်အလယ်ရှိ ဘုရင့်နန်းတော်နှင့် နံရံအားလုံးကို ၎င်း(အသောမင်းကြီး) ခန့်အပ်ထားသည့် နတ်ဒေဝါတို့က ဆောက်လုပ်ခဲ့သည်။ ယင်း(နတ်ဒေဝါ)တို့သည် ကျောက်တုံးများကို စုပုံကြသည်။ အုတ်တံတိုင်းများ ဝင်ပေါက်ဂိတ်များကို ထောင်မတ်ကြသည်။ သပ်ရပ်လှပသည့် ရုပ်တွင်းများနှင့် စီခြယ်ထားသည့် ပန်းပုလက်ရာများကို ဤကမ္ဘာလောကရှိ လူသားတို့၏လက်ဖြင့် ပြီးမြောက်အောင် မဆောင်ရွက်နိုင်သော နည်းလမ်းဖြင့် ဆောင်ရွက်ကြသည်'။

ရဟန်းတော် ဖာဟီယန်သည် အသောကမင်းကြီး တည်ဆောက်ခဲ့သည့် စေတီတစ်ဆူနှင့် ရဟန်းတော် ၇၀၀–ခန့် သီတင်းသုံးနေသည့် ကျောင်းတိုက်ကြီးနှစ်ခုကိုလည်း တွေ့ခဲ့သည်။ ရဟန်းတော်များ အားလုံးမှာ ဝိနည်းလေးစားခြင်း အသိပညာ ကြွယ်ဝခြင်းတို့ကြောင့် ကျော်ကြားသည်။ ဖာဟီယန်သည် သက္ကတဘာသာကို ပြီးပြည့်စုံအောင် သင်ယူခြင်း၊ ပိဋကတ်တော်များကို ကူးယူခြင်းတို့ဖြင့် ပဋ္ဋာနားတွင် သုံးနှစ်ကြာ သီတင်းသုံးခဲ့သည်။



ပဋ္ဋာနားသို့ မြောက်ဘက်မှ သွားရောက်ရန် ဖြစ်စေ၊ မြို့တော်မှ တောင်ဘက်သို့ ဦးတည်ထွက်ရန် ဖြစ်စေ ဂင်္ဂါမြစ်ကို မလွဲမသွေ ကျော်ဖြတ်ရသည်။ ဂင်္ဂါမြစ်သည် ထို(ကျော်ဖြတ်သည့်)နေရာ၌ အလွန်ကျယ်ဝန်းသည်။ ဗုဒ္ဓသည် နောက်ဆုံးခရီးအဖြစ် ပဋ္ဋာနားမြို့မှ ထွက်ခွာသောအခါ ရှင်တော်မြတ်အား ပို့ဆောင်နှုတ်ဆက်ရန် လူထုပရိသတ်ကြီး လိုက်ပါကြသည်။ ဗုဒ္ဓအား ပူဇော်ဂုဏ်ပြုသည့်အနေဖြင့် ဗုဒ္ဓရှင်တော်မြတ် ကူးဖြတ်သောနေရာကို ဂေါတမတိတ္ထ (ဂေါတမဆိပ်ကမ်း)ဟု အမည်ပေးရန် ဆုံးဖြတ်ကြသည်။ ထိုနေရာသည် ထိုအမည်ကို ရာစုနှစ်ပေါင်းများစွာ ထိန်းသိမ်းထားခဲ့သည်။ သို့ရာတွင် ယနေ့ခေတ်၌မူ (ထိုနေရာကို) ရှာဖွေမတွေ့ရှိသေးပေ။ နှောင်းခေတ် သက္ကတစာပေအရ ပဋ္ဋာနားမြို့၌ လှေဖောင်တစ်ခုသည် မြစ်ကို ပေါင်းကူးထားကြောင်း သိရသည်။

ယနေ့ခေတ်တွင် ဘုရားဖူးသည် မဟတ္တမဂန္ဒီတံတားသစ်ဖြင့် (ဂင်္ဂါ)မြစ်ကို ဖြတ်ကူးနိုင်သည်။

## ကြည့်ရှုဖွယ်

### ကုမာရဟာရ

ရှေးဟောင်း ပါဋလိပုတ်၏ အရာအားလုံးနီးပါးမျှကို ယနေ့အအချိန်၌ မတွေ့နိုင်တော့ပေ။ အချို့သည် ဂင်္ဂါမြစ်ထဲသို့ ပါသွားခြင်းဖြစ်ပြီး ရေမျောပါ မသွားသေးသည့် အရာများမှာလည်း ခေတ်သစ်မြို့တော်၏ အောက်တွင် မြုပ်နေဆဲဖြစ်နိုင်သည်။ သို့သော် ကုမာရဟာရ (အရပ်) တွင် အသောကနန်းတော် အစိတ်အပိုင်းများ အလွန်နီးကပ်စွာဖြစ်နိုင်သည့် ရောမကျောက်တိုင်ကြီးများပါရှိသော ခန်းမဆောင်တစ်ခု၏ အပျက်အစီး အကြွင်းအကျန်များကို တူးဖော်တွေ့ရှိထားပြီ ဖြစ်သည်။ ဤနေရာတွင် ၁၉၁၂–၁၃ ခုနှစ်က တူးဖော်မှုများအရ ဂုတ္တခေတ်လက်ရာများအဖြစ် သတ်မှတ်ထားသည့် အုတ်အဆောက်အအုံများကို ထုတ်ဖော်တွေ့ရှိခဲ့သည်။ ယင်း၏အောက်တည့်တည့်၌ နေရာအနှံ့တွင် ထောင့်မှန် ရေပြင်ညီ (မတ်ထောင်နေသည့်) ပိုက်လုံးသဏ္ဌာန် ထုထဲသည့် မီး

တိုက်၌ နာလန္ဒာ၊ ဂန္ဓာရ၊ သြရိသနှင့် အိန္ဒိယတောင်ပိုင်း နာဂပဋ္ဋနံ အရပ်တို့မှ ဗုဒ္ဓဘာသာ ပန်းပုလက်ရာများကိုလည်း ပြသထားသည်။ ပတ္တနားပြတိုက်သည် မြို့လယ်အနီး ဗုဒ္ဓမာရဂတွင်ရှိပြီး နံနက် ၁၀း၃၀ မှ ညနေ ၄း၄၀ အထိဖွင့်ပြီး တနင်္လာနေ့နှင့် အများပြည်သူ ရုံးပိတ်ရက်များတွင် ပိတ်သည်။

## သွားရောက်ရန်

ပတ္တနားသည် ဂယာ၊ ရာဇဂြိုဟ်မြို့များသို့ ရထားလမ်းဖြင့် ဆက်သွယ်ထားပြီး ရာဇဂြိုဟ်မှ ဘတ်စ်ကားဖြင့်လည်း သွား ရောက်နိုင်သည်။

## ပတ္တနားဝန်းကျင်

### ဟာဂျီပူရမြို့

ရှေးခေတ်က ပါဋလိဂါမမှ ဂင်္ဂါမြစ်ကိုဖြတ်သွားပြီးနောက် မြစ်တစ်ဘက်၌ ခရီးသွားပုဂ္ဂိုလ် ပထမဆုံး ရောက်ရှိသည့်မြို့မှာ ယခုအခါ ဟာဂျီပူရ (Hajipur) ဟုခေါ်သည့် ဥက္ကစေလမြို့ဖြစ်သည်။ ခေတ်သစ် ဟာဂျီပူရမြို့သည် မြစ်ကြောင်းများ အစဉ်မပြတ်ပြောင်းလဲမှုကြောင့် ရှေးခေတ်ကထက်ပို၍ ဂင်္ဂါမြစ်မှ ဝေးကွာသည်။ ဤမြို့၏ ဥက္ကစေလ အမည်ရှိပုံကို (အဋ္ဌကထာဆရာကြီး) အရှင်မဟာဗုဒ္ဓဃောသ မထေရ်က အတန်ငယ်ယုံရခက်သည့် ဖြစ်ရပ်တစ်ခုဖြင့် ဖော်ပြထားသည်။ အရှင်မြတ်အလိုအရ မြို့တည်ဆောက်နေစဉ်အတွင်း တစ်ညဉ့်၌ ငါးထောင်ပေါင်းများစွာတို့ မြစ်ဆိပ်သို့ မျောပါလာကြသည်။ ရွာသားများသည် အဝတ်စုတ်(စေလ)အပိုင်းအစများဖြင့် မီးတုတ် (ဥက္ကာ)များပြုလုပ်ပြီး ယင်းတို့ကို ဆီတွင်နှစ်လျက် ယင်းမီးတုတ်၏အလင်းရောင်ဖြင့် ငါးအားလုံးကို ဖမ်းယူကြသည်ဟု ဆိုသည် (မ–ဋ္ဌ ၂၊ ၁၆၆)။ ဗုဒ္ဓရှင်တော်မြတ်သည် ဥက္ကစေလမြို့၌ အကြိမ်ပေါင်းများစွာ သီတင်းသုံး သို့မဟုတ် (ယင်းမြို့မှ) ဖြတ်သန်း ကြွသွားတော်မူခဲ့သည်။ ဒေသစာရီ ခရီးစဉ်များအနက် တစ်ခုတွင် ဗုဒ္ဓရှင်တော်မြတ်သည် ဥက္ကစေလမြို့၌ စူဠဂေါပါလကသုတ်ကို ဟောကြားတော်မူသည်။ ယင်းသုတ်တော်တွင် (ဗုဒ္ဓရှင်တော်မြတ်က)



လဲကျသွားခဲ့ခြင်း ဖြစ်ဖွယ်ရှိသည်။ အကြောင်းမူ အလျားလိုက်လဲကျလျက်တွေ့ရပြီး ယင်း(အခြေအနေ)က ယင်းကျောက်တိုင်ကြီး မြေကြီးအတွင်း မြုပ်ဝင်မသွားစေရန် ကာကွယ်ထားခဲ့သောကြောင့် ဖြစ်သည်။ ကျောက်တိုင်သည် ၄ ဒသမ ၃၄ မီတာ ရှည်ပြီး ကျောက်တိုင်တစ်ခုလုံး ချောမွတ်ပြောင်လက်နေသည်။ ကျောက်တိုင်အခြေသည် ချောမွတ်သော်လည်း ပြောင်လက်ခြင်းမရှိ။ ပန်းရန်ဆရာ၏ အမှတ်အသားများဟု ယူဆရသော စိတ်ဝင်စားဖွယ် အမှတ်အသားများစွာ ပါရှိသည်။ ယင်း အမှတ်အသားများအနက် များစွာသည် အစောပိုင်း ပါရှန်ဂူဗိမာန်များတွင် တွေ့ရသော အမှတ်အသားများနှင့် တူညီနေသည်။ ဤသည်မှာ ပါရှန်လက်သမားများကို နန်းတော်က(ငှားယူ) ခန့်အပ်ခဲ့ကြောင်း ထင်ရှားသည့် သာဓကဖြစ်သည်။ ဘုရားဖူးသည် ကျောက်တိုင် အောက်ခြေမှ တစ်မီတာခွဲခန့်အကွာတွင် မျက်နှာပြင်မှ အတန်ငယ် ထိုးထွက်နေသည့် လေးထောင့်ဖောင်းရစ်လေးခုကို သတိပြုမိပေလိမ့်မည်။ ယင်းဖောင်းရစ်များအားလုံးသည် ကျောက်တိုင်ကိုသယ်ယူစဉ် ကြိုးချည်ရန် အသုံးပြုခဲ့ပြီး နောင်တွင် ပဲ့ထွက်သွားခဲ့သည့် အကြွင်းအကျန်များ ဖြစ်နိုင်သည်။

ကျောက်တိုင်များပါရှိသည့် ခန်းမအနီးတွင် ပြတိုက်ငယ်တစ်ခု ရှိသည်။ ယင်း၌ ကုမာရဟာရတွင် တွေ့ရှိရသည့် ရှေးဟောင်းအုတ်ခွက်အချို့နှင့် တူးဖော်စဉ်တွေ့ရသည့် သစ်သားဘောင်အချို့ကို ပြသထားသည်။ ပြတိုက်အလွန်တွင် ဂုတ္တခေတ်ဘုန်းကြီးကျောင်း တစ်ခု၏ အကြွင်းအကျန်များရှိသည်။ (ယင်းကျောင်းတိုက်ကို) ထိုနေရာ၌ တွေ့ရှိရသည့် တံဆိပ်တစ်ခုအရ အာရောဂျကျောင်းတိုက်ဟု အမည်ပေးထားသည်။ ကုမာရဟာရရှေးဟောင်းပန်းခြံသည် ပတ္တနား ရထားဘူတာလမ်းဆုံမှ ၇ ကီလိုမီတာခန့်အကွာတွင်ရှိပြီး နံနက် ၉ နာရီမှ ညနေ ၅း၃၀ ထိ တနင်္ဂနွေနေ့မှ တစ်ပါး နေ့တိုင်း ဖွင့်လှစ်သည်။

## ပတ္တနားပြတိုက်

ပတ္တနားပြတိုက်သည် လှပသည့် ဗုဒ္ဓဘာသာ ပန်းပုလက်ရာများကို စုစည်းပြသထားသည်။ အတော်အတန် ဟောင်းနွမ်းသည့် လက္ခဏာရှိပြီး

အလင်းရောင်အားနည်းသော်လည်း သွားရောက်ကြည့်ရှုသင့်သည်။ ဤပြတိုက်၌ အကျော်ကြားဆုံးသောအရာမှာ မောရိယခေတ်လက်ရာ စောရိ(စာမရီသားမြီးယပ်)သယ်ဆောင်သူ ရုပ်တုဖြစ်သည်။ ဤရုပ်တုသည် နန်းတော်အဝင်ဝတွင် တည်ရှိခဲ့သည့် (ရုပ်တု)တစ်စုံအနက် တစ်ခုဖြစ်ဖွယ်ရှိသည်။ ရုပ်တုမှာ ပကတိ သက်ရှိအရွယ်အစားဖြစ်ပြီး သရုပ်မှန်အတိုင်းထွင်းထုထားလျက် အဆင့်မြင့်စွာ ပြောင်လက်ချောမွတ်နေသည်။ ခြေချင်းနှင့် လက်မောင်းပေါ်မှ လက်ကြပ်တို့မှာ ကြီးမား တုတ်ခိုင်သည်။ အိန္ဒိယအမျိုးသမီးများ ဝတ်ဆင်နေကြဆဲ လက်ကောက် စသည်နှင့်မတူချေ။ ညာဘက်လက်က အခမ်းအနားသုံး စာမရီသားမြီးယပ်တစ်ခု ကိုင်ဆောင်ထားသည်။ ရှေးခေတ် အိန္ဒိယတွင် စောရိ(စာမရီ)သားမြီးယပ် နှစ်ခုကိုင်ဆောင်သူ လိုက်ပါခြံရံခံရခြင်းမှာ အာဏာနှင့် လူ့အဆင့်အတန်း၏ သင်္ကေတဖြစ်သည်။

ဗုဒ္ဓဆင်းတုတော်တစ်ခု (ပြတိုက် - Acc No. 752)၏ အခြားတစ်ဘက်တွင်ထားသည့် အဝလောကိတေသွာရ ဆင်းတုတစ်ဆူနှင့် မေတ္တေယျဆင်းတုတစ်ဆူတို့မှာ အထင်အရှား သပ္ပာယ်သည်။ ဆင်းတုတော်နှစ်ခုလုံးမှာ အရောင်ပျော့ နှမ်းဖတ်ကျောက်ဖြင့် ထွင်းထုထားပြီး ခြေတစ်ချောင်း ခေါက်ထားသည့် (အဒ္ဓပလ္လင်္က)ဟန်ဖြင့်ထိုင်နေပြီး ၁၂ ရာစု လက်ရာဖြစ်သည်။ မျက်နှာများသည် ဗောဓိသတ္တနှစ်ဆူတို့၏ တက်ကြွမှုနှင့် ကရုဏာတရားနှင့် ပတ်သက်မှုတို့ကို သရုပ်ဖော်သော အတွေးအမြင်ကို အပြည့်အဝ ဖော်ပြသည်။ ဆင်းတုများတွင် အဘယမုဒြာဟန် ညာလက်များရှိပြီး လက်ချောင်း၊ လက်ကောက်ဝတ်နှင့် လည်ပင်းပတ်လည်တို့၌ ရတနာများ ဆင်ယင်ထားသည်။ ပခုံးများပေါ်တွင် ပေါ့ပါးစွာ တွဲလောင်းချထားသည့် ဆံပင်ခွေများပါရှိကြသည်။ ဦးခေါင်းတန်ဆာဖြင့် ပွေ့ပိုက်ထားသော စေတီတော်ကြောင့် ထင်ရှားသော မေတ္တေယျဘုရားလောင်းပုံသည် **နာဂကေသရ**ပန်းကို ကိုင်ထားလျက် ဦးခေါင်းတန်ဆာတွင် ဗုဒ္ဓတစ်ဆူရှိသည့် အဝလောကိတေသွာရ



ကား ပွင့်လန်းနေသည့် ရောမကြာပန်းတစ်ပွင့် ကိုင်ဆောင်ထားသည်။ ယင်း ဗောဓိသတ္တနှစ်ဆူနှင့် ၎င်းတို့၏ဗုဒ္ဓနောက်သို့ လိုက်ပါနေသည့် (ပုံ)ကို ဂယာရှိ ဗိရှနုပူရအရပ်တွင် တွေ့ရှိခဲ့ခြင်းဖြစ်သည်။

ပြတိုက်၏ ဒုတိယထပ်ပြခန်းတွင် ထင်ရှားကျော်ကြားလှသည့် အိန္ဒိယနိုင်ငံသား ဗုဒ္ဓဘာသာ ရဟန်းတော် ရာဟုလာ သံကစ္စာယန ၁၉၃၀–ခု နှစ်များအတွင်း တိဗက်၌ခရီးသွားစဉ်ရရှိခဲ့သည့် ထင်္က (thanka) အများအပြားကို စုဆောင်း ပြသထားမှုပါဝင်သည်။ ဝမ်းနည်းဖွယ်ကောင်းသည်မှာ ထင်္ကများကို အပူရှိန်နှင့် စိုထိုင်းမှု(တို့အတွက်) ကောင်းစွာ စီမံ ထားခြင်းမရှိဘဲ ထိန်းသိမ်းရေးမကျွမ်းကျင်မှုများကြောင့် အများအပြားပျက်စီးကုန်သည်။ ဒုတိယထပ် အခြားပြခန်းတွင် ၁၉၃၀–ခုနှစ်က ကုရကိဟာရ(Kurkihar)အရပ်တွင် တွေ့ရှိခဲ့သည့် ကျော်ကြားသော ကြေး(ဆင်းတု)အများအပြား (ပြသထားသည်)။

ဗုဒ္ဓဘာသာများ အထူးစိတ်ဝင်စားဖွယ်အရာတစ်ခုကို ဒုတိယထပ်ရှိ ရှေးဟောင်းအုတ်ခွက်ပြခန်းတွင် တွေ့နိုင်သည်။ ယင်းမှာ ကုမာရဟာရကျောက်ချပ်ဟုခေါ်ပြီး ဗုဒ္ဓဂယာမဟာဗောဓိစေတီတော် ဖြစ်ပုံရသည့်အရာကို သရုပ်ဖော် (ထွင်းထု)ထားသောရုပ်ပုံပါ ရှေးဟောင်းအုတ်ခွက်ဝိုင်းတစ်ခုဖြစ်သည်။ ယင်းကျောက်ချပ်သည် ဘုရားဖူးအားတည်ဆောက်ခါစ အချိန်က စေတီတော်ကြီး၏ ပုံပန်းသဏ္ဍာန် မည်သို့ရှိခဲ့မည်ကို ကောင်းစွာခန့်မှန်းမှု တစ်ရပ်ရရှိစေသည်။ ယင်းကျောက်ပြားပေါ်တွင် ရှင်းလင်းစွာသတိထားမိနိုင်သော အချို့အရာများကို ခေတ်သစ်မဟာဗောဓိစေတီတော်၌ တွေ့မြင်နိုင်သေးသည်။ အတွင်းဘက်ပင်မစေတီတော်အထွတ်၊ စေတီတော်ပတ်လည်ရှိ လက်ရန်းစသည်တို့ဖြစ်သည်။ သို့ရာတွင် အုတ်ခွက်ပါစေတီပုံက (မူလစေတီ၏ပုံသဏ္ဍာန်မှာ) အဓိကအားဖြင့် ပြောင်းလဲသွားပြီဖြစ်ကြောင်းလည်း ရှင်းလင်းစွာဖော်ပြသည်။ မုခ်ခုံးအခန်းပုံသည် ယခုအခါလုံးဝမတူကွဲပြားနေပြီး ထောင့်စွန်းရှိ စေတီရံလေးဆူ ထည့်သွင်းထားပြီးဖြစ်သည်။ ဤစိတ်ဝင်စားဖွယ် အုတ်ခွက်ကို ကုမာရဟာအရပ်၌ တွေ့ရှိခဲ့ခြင်းဖြစ်သည်။ ပြ

## ၉။ စမ္ပာမြို့

စမ္ပာမြို့သား ဗြာဟ္မဏ (ပုဏ္ဏား)များနှင့် သူဌေးသူကြွယ်များသည် အုပ်စုလိုက်အရေအတွက်များစွာ မြို့တော်မှထွက်၍ ဂဂ္ဂရာ (အမည်ရှိသော) ကြာ ပန်းအိုင်သို့ ထွက်ခွာကြသည် (ဒီ ၁၊ ၁၀၄)။

မဇ္ဈိမဒေသ၏ အရှေ့ဖျားအစွန်းတွင် အင်္ဂတိုင်းရှိသည်။ တစ်ခါက လွတ်လပ်ခဲ့သော ဤနိုင်ငံသည် နောင်အခါတွင် မဂဓတိုင်းအတွင်းသို့ ပူးပေါင်းခြင်းခံရသဖြင့် ပိဋကတ်ကျမ်းစာများ၌ အင်္ဂ–မဂဓတိုင်းအဖြစ် ရည်ညွှန်းဖော်ပြသည်ကို တွေ့ရှိရသည်။ အင်္ဂတိုင်း၏မြို့တော် စမ္ပာသည် ဂင်္ဂါမြစ်၏ တောင်ပိုင်းကမ်းခြေတွင် တည်ရှိပြီး မြစ်၏အရေးပါသည့် ဆိပ်ကမ်းနှင့် ကုန်သွယ်မှုဗဟိုဌာနများအနက် တစ်ခုအပါအဝင် ဖြစ်သည်။ ဇာတ်တော်များ၌ စမ္ပာမြို့ကို ဂိတ်ပေါက်များ၊ မျှော်စင်များ ပါရှိသည့် ခိုင်ခံ့သော အုတ်တံတိုင်းများဖြင့် ဝန်းရံထားကြောင်း ဖော်ပြသည် (ဇာ–ဋ္ဌ ၄၊ ၃၂)။ ဤအချက်ကို မကြာမီကပင် ရှေးဟောင်း သုတေသနပညာရှင်များက အခိုင်အမာ ထောက်ခံကြသည်။ အရှင်ဗုဒ္ဓဃောသ၏ အလိုအရ မြို့တော်၏ပ တ်ဝန်းကျင်တွင် ပေါက်ရောက်နေသည့် စမ္ပက (စံကား)ပင်များကို အကြောင်းပြု၍ စမ္ပာမြို့ ဟူသောအမည် ကိုရသည် (မ–ဋ္ဌ ၃၊ ၁)။ စမ္ပာပွင့်များမှာ ကြိုင်လှိုင် သင်းပျံ့သည့် ရနံ့ကြောင့် ထင်ရှားသည်။

ဗုဒ္ဓရှင်တော်မြတ်သည် စမ္ပာမြို့သို့ အနည်းဆုံးတစ်ကြိမ် သို့မဟုတ် အကြိမ်များစွာပင် ဒေသစာရီကြွရောက်တော် မူခဲ့ဖွယ်ရှိသည်။ အမှန်စင်စစ် (ယခု) ရှာဖွေတွေ့ရှိနိုင်သည်မှာ ဗုဒ္ဓရှင်တော်မြတ် ကြွတော်မူခဲ့သည့် အရှေ့ဘက် အစွန်အဖျားနေရာ ဖြစ်သည်။ အဆိုပါနေရာ၌ သီတင်းသုံးတော်မူစဉ် သောဏဒဏ္ဍသုတ် (ဒီ ၁၊ ၁၀၂)၊ ကရဏ္ဍဝသုတ် (အံ ၃၊ ၁၄)နှင့် ကန္ဒရကသုတ် (မ ၂၊ ၁)များကို ဟောကြားတော်မူသည်။ နောက်ဆုံး ကရဏ္ဍကသုတ်တွင် ပေဿအမည် ရှိဆင်ထိန်းက ထက်မြက်သော်လည်း လိမ်လည်လှည့်ဖျားတတ်သည့် လူ့သဘာဝနှင့် ပတ်သက်သော ၎င်း၏မှတ်ချက်များကို ဗုဒ္ဓရှင်တော်မြတ်ထံ တင်ပြခဲ့



ဤနေရာဒေသနှင့် လိုက်လျောညီထွေပြုလျက် ဂင်္ဂါမြစ်ကို ဖြတ်သန်း၍ ကျွဲနွားများကို မောင်းနှင်ရခြင်း၏ ခက်ခဲပုံကို ဥပမာပြု ဟောကြားတော်မူသည် (သံ ၂၊ ၄၅၅)။ အရှင်သာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလ္လာန်တို့ ပရိနိဗ္ဗာန်စံလွန်တော်မူ၍ မကြာမြင့်မီ မြတ် ဗုဒ္ဓသည် ဥက္ကစေလမြို့၌ တရားဒေသနာ ဟောကြားတော်မူသည်။ ဤတရားတော်၌ မြတ်ဗုဒ္ဓသည် ကိုယ်တော်မြတ်၏ အဂ္ဂသာဝကနှစ်ပါးအပေါ် ထားရှိသည့် နက်ရှိုင်းသော လေးစားမှုနှင့် အရှင်မြတ်နှစ်ပါး ပရိနိဗ္ဗာန်စံခြင်း အတွက် ဆုံးရှုံးရပုံကို ထုတ်ဖော် မြွက်ဟတော်မူသည် ‘ရဟန်းတို့၊ သာရိပုတ္တရာနှင့် မောဂ္ဂလ္လာန်တို့ ပရိနိဗ္ဗာန်စံသွားပြီး ဖြစ်သည့် ဤ(ကျန်ရှိသော) ပရိသတ်ကား အမှန်တကယ်ပင် ဆိတ်သုဉ်းလှချေ၏’ (သံ ၃၊ ၁၄၂)။

ဗုဒ္ဓရှင်တော်မြတ်၏ အမြတ်နိုးအပ်ဆုံးသော တပည့်သာဝကဖြစ်သည့် (ညီတော်)အရှင်အာနန္ဒာ၏ နောက်ဆုံးနေ့များနှင့် ပရိနိဗ္ဗာန်စံတော်မူပုံအကြောင်း ပိဋကတ်ပါဠိတော်၌ တစ်စွန်းတစ်စ ပြဆိုထားခြင်း မရှိသည်မှာ ထူးခြားသည်။ သို့ရာတွင် အစဉ်အလာအရ အရှင်မြတ်သည် ဥက္ကစေလမြို့အနီး၌ ပရိနိဗ္ဗာန်စံလွန်တော်မူကြောင်း ဆိုသည်။ ဖာဟီယန်ရော ဟူယင်ဆန်ပါနှစ်ပါးလုံး (ဥက္ကစေလ)မြို့၌ အရှင်အာနန္ဒာ၏ဓာတ်တော်ကို ဌာပနာ(ထည့်သွင်း)ထားသည့် စေတီတစ်ဆူနှင့် (ယင်းမြို့နှင့်) မျက်နှာချင်းဆိုင် မြစ်တစ်ဘက်ကမ်း၌ (လည်းအရှင်မြတ်၏) ဓာတ်တော်များကို ဌာပနာထားသည့် စေတီတစ်ဆူ ဖူးမြင်ခဲ့ကြရသည်။ ဤစေတီနှစ်ဆူနှင့် ပတ်သက်သည့် ထိုတရုတ်ဘုရားဖူးရဟန်းတော်နှစ်ပါး ကြားသိခဲ့ရသော ဖြစ်ရပ်မှာ ဤသို့ဖြစ်သည် ‘အရှင်အာနန္ဒာသည် မိမိ၏ ဘဝသက်တမ်း နောက်ဆုံးအချိန် နီးကပ်လာကြောင်း သိမြင်တော်မူသောအခါ အရှင်မြတ်သည် မဂဓတိုင်းမှ မြောက်စူးစူးသို့ ခရီးထွက်ခွာတော်မူသည်။ ဤသတင်းကို ကြားသိရခြင်း၌ အဇာတသတ္တုမင်းသည် စစ်သည်ဗိုလ်ပါ အနည်းငယ်ခြံရံလျက် အရှင်အာနန္ဒာအား မဂဓမြို့တော်တွင် သီတင်းသုံးရန် တောင်းပန်မည့် ရည်ရွယ်ချက်

ပြီး အရှင်မြတ်၏နောက်သို့ လိုက်သွားသည်။ နောက်ဆုံး အဇာတသတ္တု ဘုရင်နှင့်အဖွဲ့ သူတော်စင်အရှင်မြတ်ကို တွေ့သောအခါ အရှင်မြတ်မှာ ဂင်္ဂါမြစ်ကိုဖြတ်ကူးမည့် လှေဖောင်ပေါ်သို့ ရောက်ရှိနေပြီးဖြစ်သည်။

တစ်ချိန်တည်းတွင် ဝဇ္ဇီတိုင်းသားလူအများသည် မိမိတို့၏ပိုင်နက်နယ်ပယ်အတွင်းသို့ အရှင်အာနန္ဒာမထေရ်မြတ် ကြွလာနေကြောင်းကြားသိရသဖြင့် အရှင်မြတ်ကို ကြိုဆိုရန် မြစ်ကမ်းသို့ စုဝေးရောက်ရှိလာကြသည်။ အရှင်အာနန္ဒာ မြစ်လယ်သို့ ရောက်ရှိသွားချိန်၌ တစ်ဘက်ကမ်းမှ (မဂဓတိုင်းသား) ပရိသတ်ကလည်း ၎င်းတို့ဘက်ကမ်းသို့ကြွရောက် တော်မူရန် တောင်းပန် လျှောက်ထားကြသည်။ သို့ဖြစ်၍ မည်သည့် ဥပါသကာအုပ်စုမျှ စိတ်မချမ်းမသာ မဖြစ်ကြစေရန်နှင့် ရှုပ်ထွေးမည့် အခြေအနေကို ရှောင်လွှဲရန်အလို့ငှာ အရှင်မြတ်သည်ကောင်းကင်သို့ ကြွတော်မူလျက် မီးတောက်မီးလျှံကြားတွင် ပျောက်ကွယ်သွားသည်[၂၄]။ ဓာတ်တော်တစ်ဝက်သည် မြစ်တစ်ဘက်ကမ်းသို့ကျလာပြီး အခြားတစ်ဝက်မှာ အခြားတစ်ဘက်ကမ်းသို့ ကျရောက်သွားလျက် ယင်းသို့ဖြင့် စေတီနှစ်ဆူတည်ထားရခြင်းဖြစ်သည်။ အလားတူဖြစ်ရပ်အကြောင်းအရာကို ဓမ္မပဒအဋ္ဌကထာ၌ တွေ့ရသော်လည်း ယင်း၌ ဤဖြစ်ရပ်သည် ရောဟိနီမြစ်ကမ်းတွင် ဖြစ်ပွားခဲ့ကြောင်း ကွဲပြားခြားနားစွာ ပြဆိုသည် (ဓမ္မပဒ–ဋ္ဌ ၁၊ ၃၄၂)။ ဖြစ်ရပ် အချို့အဝက်မှာ ဒဏ္ဍာရီ ဆန်နိုင်သော်လည်း ယင်းဒဏ္ဍာရီသည် အရှင်အာနန္ဒာအနေဖြင့် မဂဓနှင့် ဝဇ္ဇီတိုင်းနယ်ခြားဒေသအနီး ပရိနိဗ္ဗာန်စံသည်ဆိုခြင်းနှင့် အရှင်မြတ်၏ဓာတ်တော်ကို ဝေယူရန် နှစ်နိုင်ငံအကြား စီစဉ်မှုအချို့ ရှိခဲ့သည်ဟူသော သမိုင်းဖြစ်ရပ်မှန်များကို မွမ်းမံပြောဆိုခြင်းလည်း ဖြစ်နိုင်သည်။ ထို့ပြင် အရှင်အာနန္ဒာသည် ကျေးဇူးကတိစကားအရ ခရီးကြွတော်မူခဲ့ခြင်းဖြစ်ပြီး လူပုဂ္ဂိုလ်အချင်းချင်း အငြင်းပွားခြင်း၏ အကြောင်း

[၂၄] ဤသို့ထူးခြားစွာ ပရိနိဗ္ဗာန်စံလွန်တော်မူသည်မှာ အရှင်အာနန္ဒာတစ်ပါးတည်း မဟုတ်ပေ။ ဥဒါန၊ စာ–၁၉၁ ကို ရှုပါ (စာရေးသူ)။



တရားဖြစ်လာရန် ကြွသွားတော်မူခြင်း မဟုတ်ဟူသော အရှင်အာနန္ဒာ၏ပုဂ္ဂိုလ်ရေးအကြောင်း ကျွန်ုပ်တို့သိရသည်နှင့် အတော်အတန် ညီညွတ်မည်လည်းဖြစ်သည်။

ဂင်္ဂါမြစ်၏တောင်ဘက်ကမ်းတွင် တည်ထားခဲ့သော စေတီတော်မှာ ကြာမြင့်စွာကပင် ကွယ်ပျောက်သွားပြီးဖြစ်သော်လည်း အခြားတစ်ဘက်ကမ်းမှ စေတီတော်ကိုမူ မကြာမီက ရှာဖွေတွေ့ရှိခဲ့ပြီးဖြစ်သည်။ ယနေ့ခေတ်တွင် အရှင်အာနန္ဒာ၏စေတီမှာ ပတ်ဝန်းနေသော ဈေးဥယျာဉ်များမှ မြင့်မားနေသည့် မြက်ချုံထူထပ်သော တောင်ပို့ကြီးဖြစ်သည်။ ကေပီဂျယဆွာလသုတသနသိပ္ပံက ဤနယ်မြေတွင် မကြာမီက တူးဖော်မှုများပြုလုပ်ခဲ့သဖြင့် ဘီစီ ၁၀၀၀ ကျော်အချိန်မှစ၍ လူသူနေထိုင်ခဲ့သည့်နေရာ ဖြစ်ကြောင်း အထောက်အထားများတွေ့ရှိခဲ့သည်။ အဆိုပါမြက်ထူတောင်ကုန်းပေါ်ရှိ ဟိန္ဒူဘုရားကျောင်းကြောင့် စေတီပျက်နေရာကိုမူ ကောင်းစွာ တူးဖော်နိုင်ခြင်းမရှိခဲ့ချေ။ အာနန္ဒာစေတီပျက်နေရာသို့ သွားရောက်ရန် ဟာဂျိပူရမြို့လယ်မှ ယင်းမြို့အပိုင်ရမ်ချောရ (Ramchaura)နယ်သို့ရောက်သော လမ်းအတိုင်း သွားပြီးရမ်ချောရဘုရားကျောင်းကို မေးမြန်းပါ။ ဟာဂျိပူရသည် ဂင်္ဂါမြစ်တစ်ဘက်ရှိ ပတ္တနားမြို့မှ ၁၀ ကီလိုမီတာခန့် အကွာတွင် တည်ရှိသည်။

ပန်းအိုင်သို့ ကြွရောက် သီတင်းသုံးစဉ် ပရိသတ်ထောင်ပေါင်း များစွာ အနက် ဗုဒ္ဓရှင်တော်မြတ်၏ သပ္ပာယ်မှု၊ ရွှန်းတောက်မှုနှင့် တည်ငြိမ်မှု တို့ကြောင့် ဗုဒ္ဓရှင်တော်မြတ်အား ချက်ချင်းပင် ခွဲခြားရှုမြင်(၍ ဗုဒ္ဓဂုဏ် ကို ဖော်ကျူးသည့် ဂါထာများဖွဲ့သီ)နိုင်ခဲ့သည် (သံ ၁၊ ၁၉၆)။

ဝိနယပိဋကတွင် ရဟန်းတော်အုပ်စုတစ်ခုသည် ဗုဒ္ဓရှင်တော်မြတ် ဂဂ္ဂရာရေကန်၌ သီတင်းသုံးနေကြောင်းကြား သိရသဖြင့် မြတ်ဗုဒ္ဓကို ဖူးမြော်ရန် ကာသိတိုင်းမှ ကီလိမိတာသုံးရာခန့်ဝေးသည့် ခရီးစဉ်ဖြင့် စမ္ပာမြို့သို့ကြွလာကြကြောင်း ဖော်ပြထားသည် (ဝိ ၃၊ ၄၃၃)။ ဗုဒ္ဓရှင် တော်မြတ်သည် တစ်ခါတစ်ရံ ဂဂ္ဂရာကြာပန်းအိုင်၌ လပေါင်းများစွာ ကြာသည်ထိ သီတင်းသုံးတော်မူခဲ့ကြောင်း ဤအချက်က ညွှန်ပြသည်။ ဗုဒ္ဓဝံသပါဠိတော်အရ ဗုဒ္ဓရှင်တော်မြတ်၏ ရေသနုပ်တော်ကို စမ္ပာမြို့ရှိ ဘုန်းကြီးကျောင်းတစ်ခုတွင် သိမ်းဆည်းထားကြောင်း သိရသည် (ဗုဒ္ဓ ဝံသ၊ ဓာတုဘာဇနီယကထာ၊ ၁၄–ဂါထာ)။ ဤအချက်သည်လည်း ဗုဒ္ဓ ရှင်တော်မြတ်သည် ဂဂ္ဂရာရေကန်၌ ရေသုံးသပ်တော်မူလေ့ရှိခဲ့ကြောင်း ဖော်ပြသည်။ ယနေ့ခေတ်တွင် ဂဂ္ဂရာကြာပန်းအိုင်၏ ရေထုပမာဏမှာ များစွာ နုန်းတင် တိမ်ကောသွားပြီး စမ္ပာမြို့စွန်တစ်နေရာရှိ ထင်ရှား သည့် ဂျိန်းဘုရားကျောင်းတစ်ခုအနီး၌ တည်ရှိလျက် ဆာရောဝန (Sa-rovana)ဟု ခေါ်တွင်သည်။ နှစ်ဆယ်ရာစု အစောပိုင်းကာလက ဤရေ ကန်မှ ရွှံ့ညွှန်များကို ရှင်းလင်းရန် ကြိုးပမ်းစဉ်အတွင်း အလုပ်သမား များသည် လှပသပ္ပာယ်သည့် ဗုဒ္ဓဆင်းတုတော်များ တွေ့ရှိခဲ့သော်လည်း ယင်းဆင်းတုတော် များနှင့်ပတ်သက်၍ မည်သို့မည်ပုံ ဖြစ်သွားသည်ကို ယခုအခါ၌ မသိရတော့ချေ။ ဂဂ္ဂရာကြာပန်းအိုင်သို့ သွားရောက်ရန် ကျဉ်းမြောင်းသည့်လမ်းများ၊ လူသွားလမ်းများမှ တစ်ဆင့် ဆာရောန တလာဘ (Sarovana Talarb) ကိုမေးမြန်းပါ။

## စမ္ပာမြို့သို့ သွားရောက်ရန်

စမ္ပာမြို့သို့ သွားရောက်ရန် ဂင်္ဂါမြစ်ကြောင်းအတိုင်း စုံဆင်းသွားသည့် ကား လမ်းမကြီးအတိုင်း သွား၊ သို့မဟုတ် ပတ္တနားမြို့မှ အရှေ့ဘက်



သည် 'လူသားတို့သည် ကွေ့ကောက်လှည့်ပတ်တတ်ပြီး တိရစ္ဆာန်များ ကား ပွင့်လင်းဖြောင့်စင်းကြသည်။ တပည့်တော်သည် လေ့ကျင့်ပေး နေစဉ်အတွင်း ဆင်တစ်ကောင်ကို ကောင်းစွာ မောင်းနှင်နိုင်ပါသည်။ ထိုကာလအတွင်း ယင်း(လေ့ကျင့်ဆဲဆင်)သည် (စမ္ပာမြို့)မှ ခရီးထွက် သွားပြီး စမ္ပာမြို့သို့ ပြန်လာနိုင်ပါသည်။ ထို(လေ့ကျင့်ဆဲ)ဆင်သည် ပရိယာယ်မာယာ၊ လိမ်ညာ၊ ကျောက်ကျစ်၊ ကလိမ်ကျမှု မျိုးစုံကို ဖော်ပြပါသည်။ သို့ရာတွင် တပည့်တော်၏ ကျေးကျွန်များ၊ သတင်း ပို့သူများ၊ ဝန်ထမ်းများမှာမူ ပြောတစ်မျိုး လုပ်တစ်ခြားနှင့် စိတ်ထဲက အခြားတစ်ခုကို ကြံစည်စဉ်းစားနေကြပါသည်'။ ဗုဒ္ဓရှင်တော်မြတ်သည် စမ္ပာမြို့တွင် အရေးပါသည့် ဝိနည်းစည်းကမ်းများစွာကို ပညတ်တော် မူခဲ့သည် (ဝိ ၁၊ ၈၁)။ အရှင်သာရိပုတ္တရာ မထေရ်မြတ်သည်လည်း စမ္ပာမြို့တော်၌ သီတင်းသုံးတော်မူစဉ်အတွင်း ဒသုတ္တရသုတ္တန် (ဒီ ၃၊ ၂၂၅)ကို ဟောကြားတော်မူခဲ့သည်။

စမ္ပာမြို့နှင့်ပတ်သက်သည့် စာပေအထောက်အထားများ အနည်း အကျဉ်းမျှသာကျန်ရှိသဖြင့် မြို့တော်၏ နှောင်းခေတ်သမိုင်းစဉ်မှာ လုံးဝ နီးပါးပျောက်ကွယ်သွားပြီး မဆိုစလောက်သော ရှေးဟောင်းသုတေသန ဆိုင်ရာလုပ်ငန်းမျှကိုသာ ဆောင်ရွက်နိုင်သည်။ အသောကမင်းကြီး၏ မယ်တော် သုဘရင်္ဂီ(Subharangi)သည် စမ္ပာမြို့၌ မွေးဖွားခဲ့ကြောင်း ဆိုသည်။ အေဒီ သုံးရာစုခန့်တွင် စမ္ပာမြို့သားကုန်သည်များနှင့် ရဟန်း တော်များသည် ယနေ့ခေတ် ဗီယက်နမ် တောင်ပိုင်းဒေသတွင် ကိုလိုနီ နယ်ပယ်များတည်ထောင်ကြပြီး ထိုနယ်ပယ်ကို ၎င်းတို့၏ မွေးရပ်မြို့ အမည် (စမ္ပာ)ဟု အမည်မှည့်ခေါ်ကြသည်။ ဤစမ္ပာကိုလိုနီနယ်သည် ရာစုနှစ်ပေါင်း များစွာကြာသည်အထိ အင်ဒိုချိုင်းနားဒေသ၌ အိန္ဒိယ ယဉ်ကျေးမှု အထူးသဖြင့် ဗုဒ္ဓဝါဒကိုဖြန့်ချိရန် ဗဟိုအချက်အချာ နေရာ အဖြစ်တည်ရှိခဲ့သည်။ ရဟန်းတော်ဖာဟီယန်သည် စမ္ပာမြို့သို့ အလည် အပတ်ရောက်ခဲ့ပြီး စမ္ပာမြို့အကြောင်း မှတ်တမ်းတင်ခဲ့သည် 'တစ်ခါက ဗုဒ္ဓဘုရားရှင် သီတင်းသုံးခဲ့ပြီး ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်ခဲ့သည့်

နေရာ .. ထိုနေရာတော်များအားလုံးတွင် စေတီတော်များ တည်ထားပြီး ထိုနေရာများ၌ ရဟန်းတော်များ သီတင်းသုံးနေထိုင်ကြဆဲဖြစ်သည်'။

ဘုရားဖူးရဟန်းတော် (ဖာဟီယန်)သည် စမ္ပာမြို့မှ အောက်ဘက် ဂင်္ဂါမြစ်ဝတွင်ရှိသော တမရာလိပတိ(မြို့)သို့ သင်္ဘောဖြင့် ခရီးနှင်ခဲ့သည်။ (ဤအချက်သည်) တစ်ချိန်က စမ္ပာမြို့၏ သင်္ဘောဆိပ်ကမ်းမြို့အဖြစ် အရေးပါမှုကို ဖော်ပြလျက်ရှိသည်။ ဟူယင်ဆန်ကမူ ပိုမိုအသေးစိတ်ကျသည့် အချက်အချို့ကိုဖော်ပြခဲ့သည် 'ဤ(စမ္ပာ)မြို့သည် အဝိုင်းအဝန်းအားဖြင့် လီပေါင်း ၄၀၀၀–ခန့်ရှိ၏။ မြို့တော်သည် မြောက်ဘက်၌ ဂင်္ဂါမြစ်ဖြင့် ကျောရိုးပြုထားပြီး လီပေါင်း ၄၀ ခန့်ကျယ်ဝန်းသည်။ မြေပြင်ညီညာပြီး မြေသြဇာကောင်းမွန်သည်။ ပုံမှန်(ရာသီအလိုက်) စိုက်ပျိုးနိုင်ပြီး စိုက်ပျိုး သီးနှံများ အထွက်ကောင်းသည်။ အပူရှိန်မပြင်းထန်ဘဲ နွေးထွေးသည်။ လူအများ၏အမူအရာမှာ ပွင့်လင်းရိုးသားကြသည်။ မြို့တော်စမ္ပာတွင် ဘုန်းတော်ကြီးကျောင်းတိုက် အများအပြားရှိသည်။ အများစုမှာ ပျက်စီးယိုယွင်းနေပြီး ရဟန်းတော် ၂၀၀–ခန့်ရှိသည်။ ထိုရဟန်းတော်များမှာ ယာဉ်ငယ် (ဟိနယာန)အဆုံးအမကို လိုက်နာကြသည် .. မြို့တော်တံတိုင်းကို အုတ်ဖြင့် တည်ဆောက်ထားပြီး ပေပေါင်းများစွာမြင့်သည်။ တံတိုင်းအုတ်မြစ်များသည် မြင့်မားသည့် အုတ်တံတိုင်း ကမ်းပါးယံပေါ်မှ ရန်သူတို့ တိုက်ခိုက်လာမှုကို ကာကွယ်နိုင်ရန်ဖြစ်သည်'။ အေဒီ ၉ ရာစုနှင့် ၁၂ ရာစု အကြားစမ္ပာမြို့တော်သည် တန္တရ ဗုဒ္ဓဝါဒ၏ အရေးပါသည့် အချက်အချာနေရာ ဖြစ်လာသည်။ သိဒ္ဓခေါ် တန္တရဂိုဏ်းဝင် ပညာရှင်ပေါင်း ၈၄ ဦး၏ အတ္ထုပ္ပတ္တိကို ရေးသားခဲ့သူ အဘယဒတ္တသည် စမ္ပာမြို့တော်ဇာတိ ဖြစ်သကဲ့သို့ ၎င်း၏စာပေလက်ရာများစွာကိုလည်း စမ္ပာမြို့တွင် ရေးသားခဲ့သည်။

စမ္ပာဟူသော အမည်နာမသည် ရာစုနှစ်ပေါင်းများစွာ ကြာသည်အထိ မပြောင်းမလဲခိုင်မာစွာ ကြွင်းကျန်နေခဲ့သည်။ ရှေးဟောင်း မြေနေရာရှိမြို့သည် ယခုအခါ စမ္ပာနဂရအမည်ဖြင့် တည်ရှိဆဲဖြစ်သည်။ ထိုနေရာ၌ ၁၉၆၀ နှောင်းပိုင်းနှင့် ၁၉၇၀ နှစ်ဦးပိုင်းများ၌ ရှေးဟောင်း



သုတေသနဆိုင်ရာ တူးဖော်မှုများပြုလုပ်ခဲ့သော်လည်း မြို့ရိုးအစိတ်အပိုင်းများနှင့် အရေးမကြီးလှသည့် ရှေးဟောင်းပစ္စည်းအနည်းငယ်မျှကိုသာ တွေ့ရှိခဲ့သည်။ ယင်းတို့အနက် ရွှေပြောင်း(လှုပ်ရှား)နိုင်သော ကိုယ်လက် အစိတ်အပိုင်းများပါရှိလျက် ထူးခြားသည့် ဆင်စွယ် ရုပ်တုငယ်များ၊ လိပ်ခွံဖြင့် ပြုလုပ်ထားသည့် ကလေးကစားစရာ လှည်းများပါရှိသည်။ ဂင်္ဂါမြစ်သည် စမ္ပာမြို့အနီးမှ စီးဆင်းခဲ့သော်လည်း နှစ်ဆယ်ရာစု အစပိုင်းတွင် ဂင်္ဂါမြစ်ကြောင်းသည် ခေတ်သစ်စမ္ပာမြို့၏ မြောက်ဘက် တစ်ကီလိုမီတာခန့်အကွာထိ လက်ရှိမြစ်ကြောင်းအတိုင်း ရွှေ့ပြောင်းသွားခဲ့သည်။ နှစ်ဆယ်ရာစု ဒုတိယနှစ်ဝက်အစောပိုင်း ကာလအထိ မနကာမနနာထဘုရားကျောင်း၏ တောင်ဘက်နေရာတွင် ဗုဒ္ဓဆင်းတုတော် အများအပြားရှိခဲ့သော်လည်း (ယခုအခါ) ယင်းတို့ အားလုံး ပျောက်ဆုံးသွားပြီဖြစ်သည်။

## ကြည့်ရှုဖွယ်

### ဂဂ္ဂရာကြာပန်းအိုင်

ရှေ့ခေတ်အိန္ဒိယတွင် လူသားချင်းစာနာထောက်ထားသည့် လုပ်ဆောင်မှုအနေဖြင့် ရေတွင်းရေကန်ကြီးများ တူးဖော်ရန် ငွေကြေးလှူဒါန်းပေးကမ်းမှုမှာ မင်းညီမင်းသားများ၊ ကုန်သည်အုပ်စုများအဖို့ အတော်အတန် ခေတ်စားသော လုပ်ရပ်ဖြစ်သည်။ လူအများသည် ယင်းသို့သော ရေကန်များကို သောက်ရေ၊ လျှော်ဖွပ်သောက်သုံးရေနှင့် နွေရာသီတွင် ကောက်ပင်စိုက်ပျိုးရန် ဆည်ရေအဖြစ် အသုံးပြုကြသည်။ ယနေ့တိုင်လည်း ယင်းသို့ ဆောင်ရွက်ကြဆဲဖြစ်သည်။ စမ္ပာမြို့တွင် အလှူရှင်မိဖုရား ဂဂ္ဂရာ၏အမည်ကို အစွဲပြု၍ (ဂဂ္ဂရာ)ခေါ်ဝေါ်သော ရေကန်ကြီးမှာ ကန်ထဲတွင် ပေါက်ရောက်နေသည့် လှပသောကြာပန်းထောင်ပေါင်းများစွာကြောင့်ရော၊ ကန်ပေါင်တွင် ပေါက်ရောက်နေသည့် စမ္ပာ(စံကား)တောကို အကြောင်းပြု၍ ဗုဒ္ဓရှင်တော်မြတ် စပ္ပာမြို့သို့ ကြွရောက်စဉ် နှစ်သက်စွာ သီတင်းသုံးရာဌာန ဖြစ်ခြင်းကြောင့်ပါ ကျော်ကြားလှသည်။ ကဗျာဆရာရဟန်းတော် အရှင်ဝင်္ဂီသသည် ဂဂ္ဂရာ ကြာ

ဘုရင်သည် ဝိက္ကမသီလာအပါအဝင် ကျောင်းတိုက်ကြီး များစွာကို အလျင်အမြန် အခိုင်အမာ ကာကွယ်ထားပြီး စစ်သည်တော်များအား ယင်း(ကျောင်းတိုက်ကြီးများ)အတွင်း တပ်စခန်းချထားသည်။ သို့ရာတွင် ယင်းအစီအမံမှာ အခြေမလှခဲ့ပေ။ အေဒီ ၁၂၀၅ ခန့်တွင် ဝိက္ကမသီလာသည် ညက်ညက်ကြေပြီး ကျောင်းတိုက်ရှိ ရဟန်းတော်များ အသတ်ခံရ သို့မဟုတ် မောင်းထုတ်ခံရလျက် (ကျောင်းတိုက်၏) အုတ်မြစ်ကျောက်သားများမှာ ဂင်္ဂါမြစ်အတွင်းသို့ မျှောပစ်ခြင်းခံရသည်။ နောက်ဆုံး ကျောင်းအုပ်ဆရာတော် သကျသီရိဘဒြ၏ဘဝနောက်ဆုံး အချိန်များသည် တိဗက်နှင့် ကက်ရှမီယားဒေသများ၌ ကုန်လွန်သည်။

သက္ကရာဇ် ၁၉၀၁ ခုနှစ်တွင် နန္ဒလာလဒေ (Nundalal De)အမည်ရှိ ပုဂ္ဂိုလ်က ဝိက္ကမသီလာသည် ရောမတောင်ပို့ကြီးများနှင့် ဗုဒ္ဓဆင်းတုတော်အပိုင်းအစများစွာရှိသည့် ပထာရဃတ (Patharaghat)ရွာအနီး၌ ရှိနိုင်သည်ဟု အဆိုပြုခဲ့သည်။ ပထာရဃရရွာသည်ပင် မြောက်ပိုင်းကို ဂင်္ဂါမြစ်ရေတိုက်စားခံထားရသည့် ကျောက်သားထူထပ်သော တောင်ကုန်းဖြစ်ပြီး ယင်းတောင်ကုန်းထိပ်မှ ဂင်္ဂါမြစ်ကို သာယာလှပစွာ ရှုမြင်နိုင်သည်။ ထိုဒေသသို့ ရောက်သွားပါက ဘုရားဖူးသည် ကျောက်ထူထပ်ပြီးရေပြည့်နေသော ချိုင့်ဝှမ်းဘေးတွင် တူးထားသည့် ဂူတွင်းများ တစ်တန်းကို သတိပြုမိပါလိမ့်မည်။ ထိုဒေသရှိလူများ၏ ပါးစပ်ရာဇဝင်အရ အဆိုပါလှိုဏ်ဂူ့ဝှက်ဆန်းကြယ်သည့် လိုဏ်ခေါင်းများမှာ ရှေးခေတ်က သတ္တုတူးဖော်မှုကြောင့် ဖြစ်သည်ဟု ဆိုသည်။ သို့သော် ယင်းတို့၏ ရင်းမြစ်နှင့်ရည်ရွယ်ချက်အစစ်အမှန်ကို မသိရချေ။ အနီးရှိပညောင်ပင်ရင်းတွင် လှပသည့် တာရာ(Tara)[၂၇]ရုပ်တုတစ်ခု၊ အဓိဋ္ဌာန်(ကျောက်)စေတီအချို့နှင့် အခြားပန်းပုလက်ရာ အပိုင်းအစများရှိသည်။ တောင်ကုန်းဘေး တစ်လျှောက် အတန်ငယ်ဝေးသည့် နေရာတွင် ဗောထေဆွာ

[၂၇] တာရာ (Tara)ဟူသည် အဝလောကိတေသွာဂရ (တရုတ် ကွန်ယင်မယ်တော်) ၏ တိဗက်ပုံစံ ဖြစ်သည် (The Seeker's Golssory of Buddhism – p 606)။



ဘာဂလပူရ (Bhagalpur)မြို့သို့သွားသည့် ရထားကိုစီးပါ။ စုစုပေါင်း ကီလိုမီတာ ၁၅၀ ခန့်ဝေးသည်။ နောက်တစ်နည်းမှာ နဝါဒါ (Nawada)မှ ဂျမုအီ (Jamui)၊ တာရပူရ (Tarapur)နှင့်ဆူလတန်ဂန်ဇ (Sultanganj)တို့ကို ဖြတ်၍ ဘာဂလာပူရသို့သွားသော လမ်းအတိုင်း သွားရောက်နိုင်သည်။ ယခုခေတ် စမ္ပာဟုခေါ်သည့် စမ္ပာနာဂရသည် ဘာဂလပူရ၏ အနောက်ဘက် ၄ ကီလိုမီတာခန့် အကွာတွင်ရှိသည်။ လမ်းနှစ်မျိုးလုံးတွင် ကားလမ်းမှာ သွားလာနိုင်သည့် အခြေအနေမှ အလွန်ဆိုးသည့်အခြေအနေဖြင့် တန်းစီနေသည်။ ဘာဂလာပူရသည် ပြောင်ပြောင်တင်းတင်း ဥပဒေစိုးမိုးမှု နည်းသည့် ဒေသဖြစ်ပြီး ညမှောင်ပြီးနောက် ကားမောင်းသွားလျှင် လုံခြုံမှုမရှိပေ။

## စမ္ပာမြို့ဝန်းကျင်

### ဝိက္ကမသီလာတက္ကသိုလ်

အေဒီ ၈–ရာစု သို့မဟုတ် ၉–ရာစုခန့်မှစ၍ အိန္ဒိယဗုဒ္ဓဘာသာ၏ ယာနသုံးမျိုးအနက် နောက်ဆုံးဖြစ်ပြီး နောင်အခါ တန္တရယာနအဖြစ် ထင်ရှားလာမည့် ဗုဒ္ဓဝါဒပုံစံသစ်တစ်ခု စတင်တိုးတက်ခဲ့သည်။ အစကနဦးပိုင်းတွင် ဤဗုဒ္ဓဝါဒဆိုင်ရာ အဓိပ္ပာယ်ကောက်ယူမှု ပုံစံသစ်သည် ရှေးရိုးစဉ်လာ ဘိက္ခု ဘိက္ခုနီများ၏ ဆန့်ကျင်မှုနှင့် ကြုံရသဖြင့် ဓမ္မပါလမင်း (အေဒီ ၇၇၅–၈၁၂)က တန္တရယာန ဗုဒ္ဓဝါဒကို အထူးပြုသင်ကြားရန် ဝိက္ကမသီလာဟုခေါ်တွင်သည့် ကျောင်းတိုက်တစ်ခု တည်ထောင်ခဲ့သည်။ တိဗက်မှတ်တမ်းတစ်ခု၌ ဤဝိက္ကမသီလာတက္ကသိုလ်အကြောင်း ဖော်ပြချက်တစ်ရပ် ပါရှိသည် 'သီရိဝိက္ကမသီလာ (ကျောင်းတိုက်)ကို မဂဓမြို့တော် မြောက်ဘက် ဂင်္ဂါမြစ်ကမ်းပေါ်ရှိ တောင်ကုန်းထိပ်ပေါ်၌ တည်ဆောက်ထား၏။ ကျောင်းတိုက်၏ အလယ်ဗဟိုတွင် မဟာဗောဓိ ရုပ်ပွားတော်၏ပုံတူ ပကတိသက်ရှိအရွယ် ဗုဒ္ဓဆင်းတုတော်တစ်ဆူ ကိန်းဝပ်သည့် ဘုရားကျောင်းတစ်ခု တည်ဆောက်ထားသည်။ ဤဘုရားကျောင်းကြီး ပတ်လည်တွင် ဂုယှသမဇ္ဇတန္တရ(ဝါဒ)ကို လေ့လာသင်ကြားရန် ဘုရားကျောင်းငယ် ငါးဆယ့်သုံးဆောင်နှင့် အခြား သာမန်

ကျောင်းဆောင်ငယ် တစ်ဆောင်ရှိသည်။ ယင်းကျောင်းဆောင်အားလုံးကို အုတ်တံတိုင်းဖြင့် ကာရံထားသည်။ သို့ ဖြစ်၍ ကျောင်းဆောင်ပေါင်း ၁၀၈ ဆောင်ရှိသည်။ သူ(ဓမ္မပါလမင်းကြီး)သည် ပဏ္ဍိတ် ၁၀၈ ယောက်တို့၏ အသုံးအဆောင် ပရိက္ခရာများကို လည်း လှူဒါန်းထောက်ပံ့သည်’။ အကာအရံ အုတ်တံတိုင်းသည် ဂိတ်ပေါက်ခြောက်ခု ထင်ရှားရှိပြီး ပင်မဘုရားကျောင်းသို့ သွားသည့် ဝင်ပေါက်ဝတွင် ရုပ်တုနှစ်ခုရှိသည်။ တစ်ခုမှာ နာဂရဇ္ဇုနပုံဖြစ်ပြီး အခြားတစ်ခုမှာ အတိဆာ၏ရုပ်တုဖြစ်သည်။ နောက်မှတ်တမ်းတစ်ခုတွင် တိဗက်မှအဖွဲ့တစ်ဖွဲ့ ကျောင်းတိုက်ကြီးအနီးသို့ ချဉ်းကပ်သွားမိသောအခါ ၎င်းတို့သည် ‘နေရောင်တွင် တောက်ပနေသည့် ကျောင်းတိုက်၏ ရွှေရောင်အထွတ်များကို ခပ်လှမ်းလှမ်းမှ ပထမဆုံးအကြိမ် ဖျတ်ခနဲ တွေ့ရသဖြင့်အလွန်ပင် စိတ်လှုပ်ရှားသွားကြသည်’ဟု ဖတ်ရှုရသည်။

ဗုဒ္ဓဂယာရှိ (ရှေးဦး)ဘုန်းကြီးကျောင်း တက္ကသိုလ်များမှာ ဗုဒ္ဓဝါဒ၏ အစောဆုံးပုံသဏ္ဍာန်ဖြစ်ပြီး၊ နာလန္ဒာ (တက္ကသိုလ်)မှာ မဟာယာန ဖြစ်၍ ဝိက္ကမသီလာမှာ တန္တရယာနတို့ဖြစ်ကြသည်။ အဆိုပါကျောင်းတိုက်ကြီးများ၏ ဂိတ်စောင့် ပညာရှင်များအနက် အချို့မှာ အိန္ဒိယဗုဒ္ဓဘာသာတွင် ထိုတောက်ပသောခေတ်ကာလ၏ အကြီးမြတ်ဆုံးသော အမည်နာမများတွင် ပါဝင်ကြသည်။ ၎င်းပုဂ္ဂိုလ်ကြီးများတွင် သန္တိပ၊ ဇေတရိ၊ ရတနဝဇိရ၊ ဇနနသိရိမိတြနှင့် တိဗက်တွင် သူ၏စာပေကို (ယနေ့တိုင်) ကျယ်ပြန့်စွာ လေ့လာကြဆဲဖြစ်သည့် နရောပတို့မှာ ထင်ရှားသည်။ သို့ရာတွင် ဝိက္ကမသီလာ၏အကြီးကျယ်ဆုံးသော သားရတနာမှာ အတိဆာ (Atssa, 982-1054 A.D.)ဖြစ်သည်။ အတိဆာသည် ထက်မြက်သည့် ပညာရှင်၊ စာအုပ်ပေါင်း များစွာရေးသားခဲ့သည့် စာရေးဆရာ၊ ဝိက္ကမသီလာတက္ကသိုလ်၏ သင်ရိုးညွှန်းတမ်းသစ်ကိုလည်း တိုးတက်အောင် ကြိုးပမ်းသူဖြစ်သည့်ပြင် တက္ကသိုလ်ကျောင်းသား ရဟန်းတော်များအတွက် (နေစရာ)အခန်းများစွာ တည်ဆောက်ခဲ့လျက် ထိုခေတ်က အတော်ဆုံး ပညာရှင်များကို ဝိက္ကမသီလာ၌ လာရောက် ပို့ချရန် ဖိတ်



ကြားခဲ့သူဖြစ်သည်။ အတိဆာသည် မိမိဘဝ၏ နောက်ဆုံးအချိန်ကို တိဗက်တွင် ကုန်လွန်ခဲ့ပြီး တိဗက်၌ ဗုဒ္ဓဘာသာ ရှင်သန်ပြန့်ပွားအောင်ဆောင် ရွက်ခဲ့မှုအပေါ် ယနေ့တိုင် လေးစားခံရဆဲဖြစ်သည်။

အေဒီ ၈ ရာစုနှင့် ၁၀ ရာစုနှစ်များတွင်း အထွန်းတောက်ဆုံးအချိန်၌ ဝိက္ကမသီလာသည် အိန္ဒိယမြောက်ပိုင်း ဒေသတစ်လွှား၊ ကက်ရှမီးယား၊ ဂျာဗား၊ နီပေါနှင့် တိဗက်မှ ဆရာများနှင့် ကျောင်းသားများစွာကို ဆွဲဆောင်အား ကောင်းခဲ့သည်။ ဝိက္ကမသီလာ၏ ပညာရှင်များအနက် တစ်ဦးမှာ ဂုယှသမဇ္ဇ တန္တရဝါဒအကြောင်း ရှင်းလင်းချက်ရေး သားခဲ့ခြင်းကြောင့် ကျော်ကြားလှသော သိရိလက်ာ ရဟန်းတော်လက်ာဇယဘဒြမထေရ် ဖြစ်သည်။ အေဒီ ၁၁ ရာစု အစပိုင်း ရာမပါလမင်းလက်ထက်၌ ဝိက္ကမသီလာတွင် ဆရာပေါင်း ၁၆၀၊ ကျောင်းသားပေါင်း ၁၀၀၀ ရှိကြောင်းဆိုသည်။ တန္တရဝါဒဆိုင်ရာ လေ့ကျင့်အားထုတ်မှုအချို့၌ ထုံးစံမဟုတ်သည့် အပြုအမူများကြောင့် မကောင်းသတင်းပျံ့နှံ့မှုရှိသော်လည်း ယင်းသို့သော အပြုအမူများကို ဝိက္ကမသီလာ၌ သည်းခံခွင့်လွှတ်ခြင်း မရှိချေ။ ကျောင်းတိုက်အတွင်းသို့ ဝိုင်အရက် သယ်ဆောင်လာမိသောကြောင့် နှင်ထုတ်ခံရသူ မိတြိဂုတ္တအမည်ရှိ ရဟန်းတော်တစ်ပါးအကြောင်း ဖတ်ရှုရသည်။ ထုံးစံနှင့်အညီ ထိုရဟန်းတော်အား ပင်မဝင်ပေါက်ဂိတ်မှ ထွက်သွားခွင့်ပြုဘဲ အုတ်တံတိုင်းပေါ်မှ ကျော်၍ (ကျောင်းတိုက်အပြင်သို့) ထုတ်ပစ်လိုက်သည်။

အေဒီ ၁၃ ရာစု အစပိုင်းတွင် ဝိက္ကမလသီလာသည် အိန္ဒိယရှိ ဗုဒ္ဓဝါဒ အချက်အချာနေရာအားလုံး၏ ကံကြမ္မာနှင့် အလားတူစွာပင် ကြုံကြိုက်ရသည်။ တိဗက်ဒဏ္ဍာရီတစ်ခု၌ ပညာရက္ခိတအမည်ရှိ ရဟန်းတော်သည် တန္တရနတ်တစ်ပါးထံ ဆုတောင်းလိုက်သဖြင့် ဝိက္ကမသီလာကို တိုက်ခိုက်ကြမည့် မူဆလင် စစ်သားများသည် မိုးသက်မုန်တိုင်းကြီး တစ်ခုကြောင့် ဖရိုဖရဲပြိုကွဲသွားကြောင်း ပြဆိုသည်။ အစစ်အမှန်မှာမူ (ထိုအဆိုနှင့်) များစွာ ကွဲပြားခြားနားသည်။ ကျူးကျော်သူ မူဆလင်စစ်သားများ အရှေ့ဘက်သို့ နီးကပ်စွာ ချဉ်းကပ်လာသောအခါ

# ၁၀။ ဝေသာလီ

ထိုအချိန်အခါ၌ ဝေသာလီသည် ချမ်းသာကြွယ်ဝ၏။ လူဦးရေ ပြည့်နှက်နေပြီး လူထုပရိသတ် စည်ကား၏။ စားရေရိက္ခာ လွယ်ကူစွာရနိုင်၏။ ဝေသာလီမြို့၌ ခုနစ်ထောင်ခုနစ်ရာ ခုနစ်ခုသော ခန်းမဆောင်များ၊ ခုနစ်ထောင် ခုနစ်ရာ ခုနစ်ခုသော ပြာသာဒ်ဆောင်များ၊ ခုနစ်ထောင် ခုနစ်ရာ ခုနစ်ခုသော ပန်းခြံ ဥယျာဉ်များနှင့် ခုနစ်ထောင် ခုနစ်ရာခုနစ်ခုသော ကြာပန်း (ပွင့်ရာ) ရေကန်သာများရှိ၏ (ဝိ ၃၊ ၃၅၆)။

ဝေသာလီသည် ဝဇ္ဇီမဟာမိတ်များအဖြစ် ပေါင်းစုထားသည့် လူမျိုးရှစ်စုတွင် တစ်စုဖြစ်သည့် လိစ္ဆဝီမင်းမျိုးတို့၏မြို့တော်ဖြစ်ပြီး မဟာမိတ်မြို့တော်အဖြစ် ထင်ရှားလာသည်။ လူမျိုးစုပေါင်းများစွာ စုပေါင်းထားသည်ဆိုသော်လည်း ဝဇ္ဇီများသည် ညီညွတ်မှုအဆင့်မြင့်၏။ ဝဇ္ဇီအဖွဲ့အစည်းသည် 'ညီညွတ်စွာ စည်းဝေးပြီး ညီညွတ်စွာရပ်နား၏၊ ကိစ္စရပ်အထွေထွေကို တစ်ညီတစ်ညွတ်တည်း စုပေါင်းဆောင်ရွက်၏'။ ဗုဒ္ဓရှင်တော်မြတ်က 'အကယ်၍ သံဃာ့အဖွဲ့အစည်းသည် ဝဇ္ဇီတို့၏ပုံစံကို လိုက်နာလျှင် အရှည်တည်တံ့ပြီး ဝဇ္ဇီများ ကြီးပွားချမ်းသာသကဲ့သို့ (သံဃာ့အဖွဲ့အစည်း) တိုးတက် စည်ပင်မည်ဖြစ်ကြောင်း' မိန့်မြွက်တော်မူခဲ့သည် (ဒီ ၂၊ ၆၂)။

ဝေသာလီမြို့ကို အုတ်တံတိုင်း သုံးထပ် ကာရံထားကြောင်း၊ (တံတိုင်း)တစ်ခုနှင့်တစ်ခု တစ်ဂါဝုတ်ကွာဝေးကြောင်းနှင့် (တံတိုင်း)တစ်ခုစီတွင် အစောင့်မျှော်စင်ရှိသည့် ဂိတ်တစ်ခုစီရှိကြောင်း သိရသည် (ဇာ–ဋ္ဌ ၁၊ ၅၀၄)။ လလိတ ဝိတ္ထာရကျမ်းအရ 'ကြွယ်ဝချမ်းသာပြီး ဂုဏ်ယူထိုက်သော၊ နှစ်သက်ကြည်နူးဖွယ် နှလုံးမွေ့လျော်ဖွယ်ကောင်းသော၊ လူထုပရိသတ်နှင့် စည်ကားသော၊ အဆောက်အုံအမျိုးမျိုး၊ အထပ်များစွာပါသည့် ပြာသာဒ်များ မျှော်စင်ပါသော အဆောက်အအုံများ၊ နန်းတော်အဆောင်များနှင့် ခမ်းနားသည့်မုခ်ဦးများဖြင့် တန်ဆာဆင်ထားသော၊ မြို့တော်အတွင်း မြောက်မြားစွာသော ဥယျာဉ်ပန်းခြံအတွင်းမှ ပန်းမွေ့ရာများဖြင့် ချစ်ဖွယ်ကောင်းသော' မြို့တော်အဖြစ် ဖော်ပြထားသည်။



ရနာထ ဘုရားကျောင်းရှိသည်။ ပင်မဝင်ပေါက်၏ အတွင်းပိုင်းတွင် ဗုဒ္ဓဆင်းတုတော်များ၊ တာရာနှင့် အဝလောကိတေသွာရ ရုပ်တုများရှိသည်။ ပထမဘုရားခန်းအဝင်ဝ၌ နောက်ထပ် တာရာရုပ်တုတစ်ခုရှိသေးသည်။ ဤဘုရားခန်းအပြင် တောင်ကုန်းနံရံကို ထွင်းထားသော အခန်းနှစ်ခန်းပါသည့် ဂူတစ်ခုရှိပြီး ဘုရားကျောင်း၏ အနောက်ဘက်အပြင်ဂိတ်တွင် အလားတူ ဂူတစ်ခုရှိသည်။ ဘုရားကျောင်းအလွန်ရှိ နောက်ထပ်ဂူတစ်ခုမှာ ကြီးမားပြီး သပ်ရပ်စွာ ထွင်းလုပ်ထားလျက် မှန်ကူကွက်ပုံ မျက်နှာကြက်ရှိသည်။ တောင်ကုန်းပေါ်တွင် သဘာဝဂူအများအပြားနှင့် ရှေးဟောင်း ဟိန္ဒူဆင်းတုများစွာလည်းရှိသည်။

ပထာရဃထသည် အလွန်ထူးခြား ခန့်ညားသော နေရာဖြစ်ပြီး ထိုဒေသရှိ ဂူများ၊ ဗုဒ္ဓဘာသာဆိုင်ရာ ရှေးဟောင်းပစ္စည်းများက ယင်းဒေသည် ဝိက္ကမသိလာတက္ကသိုလ်မှ ရဟန်းတော်များနှင့် ပညာရှင်များ တရားဘာဝနာ စီးဖြန်းအားထုတ်ခြင်းအတွက် ထင်ရှားသည့် နေရာဌာနဖြစ်ခဲ့ကြောင်း ဖော်ပြလျက်ရှိသည်။ ဟူယင်ဆန်သည် ဤနေရာသို့ရောက်ခဲ့ပြီး ဤနေရာအကြောင်း မှတ်တမ်းတင်ထားခဲ့သည် 'ကျောက်တောင်ကို ထွင်း၍ အိမ်(နေရာ)များ ပြုလုပ်ထားသည်။ အိမ်တိုင်းမှ ရေအလျဉ်မပြတ် စီးဆင်းနေသော စမ်းချောင်းငယ်များသို့ ရောက်သွားသည်။ အံ့သြဖွယ်သစ်ပင်များနှင့် ပန်းများပွင့်လန်းနေသည့် သစ်တောများရှိသည်။ ကျောက်တောင်ကြီးများနှင့် ချောက်ချားဖွယ် ချောက်ကမ်းပါးများမှာ အသိပညာနှင့် ကိုယ်ကျင့်တရား ကောင်းကြသော သူတော်စင်ပုဂ္ဂိုလ်များ မကြာခဏ သွားရောက်သည့် နေရာများဖြစ်ကြသည်။ ဤနေရာကိုကြည့်ရှုရန် သွားရောက်ကြသူများမှာ အိမ်ပြန်ရန်ပင် တွန့်ဆုတ်ကြသည်'။ ခေတ်သစ်ဘုရားဖူးသည် ဟူယင်ဆန်၏ ဖော်ပြချက်ကို သဘောတူ ခေါင်းညိတ်မိမည် သေချာပါသည်။

ပထာရဃတ၏ အရှေ့တောင်ဘက် သုံးကီလိုမီတာခန့် ခရီးဆက်သွားလျှင် ဘုရားဖူးသည် ယခုအခါ ဝိက္ကမသီလာအဖြစ် သတ်မှတ်ထားသော အပျက်အစီး အစုအဝေး ရှိရာသို့ ရောက်သွားလိမ့်မည်။

သို့ရာတွင် ၁၉၆၀ ပြည့်လွန် နှစ်များက ဤနေရာအတွင်း၌ ပြုလုပ်ခဲ့သော တူးဖော်မှုများ၌ ဝိက္ကမသီလာအမည်ကို အတိအကျ ဖော်ပြသည့် ကျောက်စာအရေးအသား တစ်ခုတလေမျှ မတွေ့ရှိခဲ့သည်သာမက အပျက်အစီးများသည် တက္ကသိုလ်ကြီးအကြောင်း ရှေးခေတ်က ဖော်ပြထားချက်များနှင့် များစွာညီညွတ်မှု မရှိသည်ကိုလည်း ထောက်ပြရမည်ဖြစ်သည်။ ကျယ်ပြန့်ဖြောင့်တန်းနေသော လမ်းမတစ်ခုသည် ကျောင်းတိုက်၏ ပင်မဝင်ပေါက်သို့ ရောက်သွားသည်။ တစ်ချိန်က ဝင်ပေါက်ဆောင်အမိုးကို ခံထောက်ထားခဲ့သည့် ကျောက်တိုင်ကြီးများ၏ အကြွင်းအကျန်များကို ဝဲယာ၌ တွေ့နိုင်သေးသည်။ ထိုကျောက်တိုင်များအနက် တစ်ခုမှာ စတုရန်း လေးပေခန့်ရှိသည်။ ဂိတ်ပေါက်ကို ဖြတ်သွားပြီးနောက် ဘုရားဖူးသည် ရဟန်းတော်များ သီတင်းသုံးရာ အခန်းငယ်များဝန်းရံထားသည့် ကျယ်ပြောသော စတုဂံပုံ (အဆောက်အအုံ)သို့ ဝင်သွားသည်။ အုတ်နံရံများ၏ ထူထဲမှုက အခန်းငယ်များ နှစ်ခု သို့မဟုတ် သုံးခုပင်ရှိခဲ့နိုင်ကြောင်း ဖော်ပြသည်။ ရှေးဟောင်းသုတေသနပညာရှင်များက ယင်းအခန်းငယ်များအတွင်း ပြာများကို ၆ လက်မအထိ တွေ့ရသဖြင့် ကျောင်းတိုက်သည် မီးလောင်ကျွမ်းမှုကြောင့် ပျက်စီးခဲ့ကြောင်း သာဓကများအဖြစ် မှတ်ယူကြသည်။

စတုဂံပုံ အဆောက်အအုံကြီး၏ အလယ်တွင် ပင်မဘုရားကျောင်းကြီး ရှိသည်။ ကြက်ခြေခတ်အုတ်မြစ်ပေါ်တွင် တည်ဆောက်ထားလျက် သုံးဆစ်ချိုးမြင့်တက်နေပြီး အရပ်လေးမျက်နှာ တစ်ခုစီတွင် ဘုရားကျောင်းများရှိသည်။ မြေပန်းအိုးပုံများသည် တစ်ချိန်က တစ်ဆစ်ချိုး လှေကားများဖြင့် တန်ဆာဆင်ခဲ့သော်လည်း ယခုအခါ အနည်းငယ်မျှသာ ကြွင်းကျန်တော့သည်။ ဤပင်မ အဆောက်အအုံ ပတ်လည်တွင် တူးဖော်ရန်စောင့်ဆိုင်းလျက်ရှိသော အခြားများစွာသော အပျက်အစီးများရှိလျက် ရုပ်ပွားဆင်းတု အားလုံးကို ထည့်သွင်းထားသည့် အဆောက်အအုံတစ်ခု တွေ့ရသော်လည်း ယင်းအဆောက်အအုံကို အမြဲတမ်းသော့ခတ်ထားသည်။



**သွားရောက်ရန်**

ပထာရဃတ ရွာသည် ဘာဂလာပူရမြို့မှ ၃၈ ကီလိုမီတာဝေးသည်။ မဖြစ်မနေမော်တော်ယာဉ်ငှားရမ်း၍ သွားရမည့် ကဟာလဂေါ်န (Kaha-lgong) မြို့မှတစ်ဆင့် ဘာဂလာပူရမြို့သို့သွားရသည်။ ဝိက္ကမသီလာသို့ တိုက်ရိုက်ရောက်သွားသည့်လမ်းမှာ သွားလာရန် မဖြစ်နိုင်သောကြောင့် ပထာရဃတရွာမှတစ်ဆင့်သွားပါ။

ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် ပထမနှစ်ငါးရာတွင် ဝေသာလီသည် မြို့တော်အတွင်းရှိ ဗုဒ္ဓရှင်တော်မြတ် သက်တော် ထင်ရှားရှိစဉ်က အရေးပါသည့်ဖြစ်ရပ်များ အထိမ်းအမှတ်ပြု စေတီဘုရားကျောင်းများအတွက်ကြောင့်ရော မြို့တော်၌ရှိနေသော ကျော်ကြားသည့် ဓာတ်တော်မွေတော်ဖြစ်သည့် မြတ်ဗုဒ္ဓ၏ဆွမ်းခံသပိတ်တော် အတွက်ကြောင့်ပါ ဘုရားဖူးပုဂ္ဂိုလ်များ (ရောက်ရှိလာခြင်း)ဖြင့် ထင်ပေါ်လူသိများခဲ့သည်။ ဤ(သပိတ်)ဓာတ်တော်ကို ကြီးကျယ်ခမ်းနားလှသည့် စေတီတော်တစ်ဆူတွင် ထည့်သွင်း(ဌာပနာ)ထားပြီး စနစ်တကျ စီစဉ်ကျင်းပသည့် အခမ်းအနားများ၊ ပွဲတော်များဖြင့် ပူဇော်ကြသည်။ အေဒီ ၂ ရာစုတွင် ကနိသျှကဘုရင်သည် ဝေသာလီကို တိုက်ခိုက်ပြီး ဗုဒ္ဓသပိတ်တော်ကို မိမိ၏မြို့တော် ပက်ရှဝါသို့ ရွှေ့ပြောင်းခဲ့သည်။ နောက်ထပ်နှစ်ပေါင်း ရှစ်ရာကျော်သည်အထိ စာပေအထောက်အထားများက ဤအဖိုးတန်လှသည့် ဓာတ်တော်အကြောင်းကို ဖော်ပြကြပြီး အိန္ဒိယမြောက်ဖျားဒေသကို ဖြတ်သန်းလာကြသော တရုတ်ဘုရားဖူးခရီးသည်များကလည်း ဤ(ဗုဒ္ဓသပိတ်တော်)ကို ဖူးတွေ့ရကြောင်းပြဆိုကြသည်။ ဗုဒ္ဓသပိတ်တော် ဌာပနာထားသည့် စေတီတော်သည် မူဆလင်တို့ ကျူးကျော်ဝင်ရောက်စဉ်က ဖျက်ဆီးခံခဲ့ရသည်။ သို့ရာတွင် သပိတ်တော်မှာမူ မပျက်မစီး ကြွင်းကျန်ရစ်ခဲ့ပြီး ယနေ့ခေတ်တွင် အဆိုပါ (ဗုဒ္ဓသပိတ်တော်)ကို အာဖဂန်နစ္စတန်နိုင်ငံ ကန္ဒာရ(Kandhara)မြို့ရှိ မူဆလင် ဗလီကျောင်းတစ်ခုအတွင်း ဖူးတွေ့နိုင်သေးသည်။ ယခုသော် သပိတ်တော်၏ အပြင်မျက်နှာပြင်၌ ပါရှန်အက္ခရာများဖြင့် (ရေးခြစ်ထားသည်)။

ဖာဟီယန်ရော ဟူယင်ဆန်ပါ ဝေသာလီမြို့တော်ကို ရောက်ခဲ့ကြသည်။ ဟူယင်ဆန်ရောက်ရှိချိန်၌မူ မြို့တော်တစ်ခုလုံး ပျက်စီးနေပြီဖြစ်သည် 'ခြေလှမ်းတိုင်းတွင် ရာသီဥတုဒဏ်နှင့် အချိန်ကာလ ကြာမြင့်မှုတို့ကြောင့် လုံးဝပျက်စီးနေကြပြီဖြစ်သည့် မြင့်မားပေါ်လွင်သော နေရာဌာနများ၊ အုတ်မြစ်ရာဟောင်းများကို တွေ့ရ၏။ သစ်တောများ ပြုန်းတီးနေပြီး ရေကန်တိမ်များ ခြောက်သွေ့လျက် အနံ့ဆိုးများထွက်နေ၏။



ရာဇဂြိုဟ်မြို့တွင် သီတင်းသုံးတော်မူပြီးနောက် ဗုဒ္ဓရှင်တော်မြတ်သည် ဝေသာလီသို့ကြွရောက်ရန် ပင့်လျှောက်ချက်ကို လက်ခံတော်မူသည်။ ဘုရင်ဗိမ္ဗိသာရသည် ဗုဒ္ဓရှင်တော်မြတ်၏ ဝေသာလီခရီး လွယ်ကူစေရန် ရာဇဂြိုဟ်မြို့မှ ဂင်္ဂါမြစ်အထိတစ်လမ်းလုံးကို ချောမွတ်ပြေပြစ်အောင် ပြုပြင်စေသည်။ ဗုဒ္ဓရှင်တော်မြတ် ဂင်္ဂါမြစ်ကိုဖြတ်ပြီး ဝဇ္ဇီနယ်မြေသို့ ရောက်သောအခါ စိတ်အားထက်သန်စွာ ကြိုဆိုနေကြသည့် လူထုပရိသတ်နှင့် တွေ့ရကြောင်း (ကျမ်းဂန်၌) ပြဆိုသည်။ ဗုဒ္ဓရှင်တော်မြတ်သည် ဗောဓိဉာဏ်ကိုရပြီးနောက် ငါးကြိမ်မြောက်ဝါကို ဝေသာလီ၌ ကုန်လွန်စေသည်။ (ထို့ပြင်) အခါပေါင်းများစွာလည်း (ဝေသာလီသို့) ဒေသစာရီကြွချီတော်မူလျက် ပရိနိဗ္ဗာန်စံလွန်တော်မမူမီ နောက်ဆုံး ဝါကိုလည်း (ဝေသာလီ)မြို့စွန်နေရာ (ဝေဠုဝဂ္ဂါ)၌ ကုန်လွန်တော်မူသည်။ ဝေသာလီတွင် သီတင်းသုံးတော်မူစဉ် မြတ်ဗုဒ္ဓသည် ဥဒေနစေတီ၊ ဂေါတကမစေတီ၊ သတ္တမ္ဗစေတီ[၂၆] စသည့်မြို့တော်၏ အထင်ကရနတ်ကွန်းများ၌ သီတင်းသုံးတော်မူလေ့ရှိသည်။ (သို့မဟုတ်) မြို့ပြင်ရှိ ဘဏ္ဍာဂါမ သို့မဟုတ် မြို့တော်စွန်းနေရာမှ စတင်ပြီး ဟိမဝန္တာတောင်ခြေသို့တိုင် ရှည်လျားသည့် မဟာဝုန်တောစပ်နားနေရာတို့၌ သီတင်းသုံးတော်မူလေ့ရှိသည်။ ဝေသာလီမြို့၌ ဟောတော်မူသည့် ဒေသနာတော်များအနက် နေဝိဇ္ဇသုတ္တန် (ဒီ ၁၊ ၂၂၁)၊ မဟာလိသုတ္တန် (ဒီ ၁၊ ၁၄၂)၊ တေဝိဇ္ဇဝစ္ဆဂေါတ္တသုတ္တန် (မ ၂၊ ၁၄၇)နှင့် ထင်ရှားလှသည့် ရတနသုတ္တန် (သုတ္တနိ ၊ ၂၃၁) တို့ဖြစ်သည်။

ဗုဒ္ဓလက်ထက်တော်က ဗုဒ္ဓရှင်တော်မြတ် ဝေသာလီသို့ကြွရောက်စဉ် အလွန်ထင်ရှားပြီး ခမ်းနားစွာကျင်းပခဲ့သည့် ဖြစ်ရပ်တစ်ခုဖြစ်ပေါ်ခဲ့သည်။ ရှေးခေတ် အိန္ဒိယတွင် ပြည့်တန်ဆာများသည် ချောမောလှပပြီး

---

[၂၆] ဤသုံးမျိုး၌ စေတီဟူသည် ဓာတ်တော်မွေတော်များကို ထည့်သွင်းဌာပနာထားသည့် စေတီကို မဆိုလိုဘဲ လူအများကိုးကွယ် ပူဇော်ခြင်း ခံရသည့်နေရာ သို့မဟုတ် နတ်ကွန်းများကို ဆိုလိုသည် (ဘာသာပြန်သူ)။

အဆိုအက၌ လိမ္မာကျွမ်းကျင်လျှင် ဩဇာအရှိန်အဝါရှိပြီး လေးစားခံရလျက် ထူးထူးခြားခြား ချမ်းသာကြွယ်ဝမှုကို တိုးမြင့်စေနိုင်သည်။ ဝေသာလီ၏အလှပဆုံးနှင့် စွမ်းရည်အရှိဆုံး ပြည့်တန်ဆာကား အမ္ဗပါလီဖြစ်၏။ အမ္ဗပါလီသည် မြို့ပြင်တစ်နေရာရှိ မိမိ၏သရက်ခြံ၌ ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးနေကြောင်း ကြားသိရသောအခါ ဗုဒ္ဓရှင်တော်မြတ်အား တွေ့ဆုံရန် မြင်းရထားစီး၍ ထွက်ခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ်က 'အမ္ဗပါလီအား တရားဓမ္မ ဟောကြားတော်မူလျက် ဝမ်းမြောက်စေ၊ စိတ်လှုပ်ရှားစေ၊ စိတ်အားထက်သန်စေ၊ နှစ်သက်ရွှင်လန်းစေသည်'။ ယင်းနောက် အမ္ဗပါလီသည် မြတ်ဗုဒ္ဓနှင့် တပည့် ရဟန်းတော်များအား နောက်နေ့ဆွမ်းအတွက် အိမ်သို့ကြွရောက်ရန် ပင့်လျှောက်သဖြင့် ဗုဒ္ဓရှင်တော်မြတ်က လက်ခံတော်မူသည်။

မကြာမြင့်မီပင် လိစ္ဆဝီအထက်တန်းလွှာ အုပ်စုတစ်စုသည် အမ္ဗပါလီထံသွားပြီး ဗုဒ္ဓအားနောက်နေ့ဆွမ်း လှူဒါန်းပူဇော်မှုကို မိမိတို့အားပေးနိုင်မည်လားဟု မေးမြန်းသည်။ အမ္ဗပါလီက အသပြာငွေ တစ်သိန်းနှင့်ပင် မိမိ၏ (ဗုဒ္ဓရှင်တော်မြတ်အား) ပူဇော်မှုကို မစွန့်လွှတ်နိုင်ပါကြောင်း ပြန်ကြားလျက် ငြင်းဆိုလိုက်သည်။ သို့ဖြစ်၍ လိစ္ဆဝီတို့က ဗုဒ္ဓရှင်တော် မြတ်ထံချဉ်းကပ်ပြီး ၎င်းကိုယ်တိုင် လျှောက်ကြပြန်သည်။ သို့သော် ဗုဒ္ဓရှင်တော်မြတ်ကလည်း ကိုယ်တော်မြတ်အနေဖြင့် အမ္ဗပါလီ၏ ပင့်လျှောက်မှုကို လက်ခံပြီးဖြစ်၍ ၎င်း(လိစ္ဆဝီ)တို့၏ ပင့်ဖိတ်မှုကို လက်မခံနိုင်တော့ကြောင်း မိန့်ကြားတော်မူသည်။ နောက်နေ့တွင် ဆွမ်းလှူဒါန်းမှုပြီးနောက် အမ္ဗပါလီက မိမိ၏သရက်ဥယျာဉ်ခြံကို ဗုဒ္ဓရှင်တော်မြတ်အား လှူဒါန်းသည်။ (ထိုသရက်ဥယျာဉ်၌) မကြာမီ အချိန်အတွင်း ကျော်ကြားသည့် ကျောင်းတိုက်ကြီးတစ်ခု ဖြစ်ထွန်းလာခဲ့သည် (ဒီ ၂၊ ၉၆)။ ဘဝနှောင်းပိုင်းတွင် အမ္ဗပါလီသည် ဘိက္ခုနီဖြစ်လာပြီး ကဗျာ (ထေရီဂါထာ) တစ်ခုဖွဲ့ဆိုခဲ့သည်။ ယင်းထေရီဂါထာတွင် အမ္ဗပါလီက မိမိ၏ငယ်ရွယ်နုပျိုသည့်အလှတရားကို အိုမင်းရင့်ရော်ခြင်းက ဖျက်ဆီးပစ်လိုက်ပုံကို တွေးတောဆင်ခြင်ပြထားသည် (ထေရီဂါထာ၊ စာ–၄၀၇)။



ဤကဗျာသည် အမျိုးသမီးဖွဲ့ဆိုသည့် အိန္ဒိယကဗျာများအနက် ရှေးအကျဆုံး ကဗျာများ၌ ပါဝင်လေသည်။

ထို့နောက် ဗုဒ္ဓသည် ရှေးဟောင်း အဋ္ဌကထာကျမ်းများ အလိုအရ ဝေသာလီမြို့တော်တောင်ဘက် မြို့တော်ဂိတ်ဝအနီးရှိ ဝေဠုဝရွာသို့ ကြွတော်မူသည်။ ဗုဒ္ဓရှင်တော်မြတ်က အရှင်အာနန္ဒာအား ဓမ္မကိုဟောကြားရာ၌ ထိမ်ချန်ထားသည့်အရာ၊ (မဟောကြားဘဲ) လျှို့ဝှက်ထားသည့် (အာစရိယမုဋ္ဌိ) အဆင့်မြင့်တရားဟူ၍ မရှိကြောင်း ဟောကြားတော်မူသည်မှာ ဤဝေဠုဝရွာတွင် ဖြစ်သည်။ မြောက်ပိုင်းဒေသသို့ ခရီးဆက်ရန် ဝေသာလီမှထွက်ခွာသောအခါ ဗုဒ္ဓရှင်တော်မြတ်သည် မြို့တော်ကို နောက်ဆုံးအကြိမ်ကြည့်ရှုရန် ပြန်လှည့်တော်မူသည် (ဒီ ၂၊ ၁၀၁)။ မြို့တော်၏အလှကို ဆင်ခြင်ရန်နှင့် ဤမြို့တော်နှင့်ပတ်သက်ပြီး တွေ့ကြုံခံစားရမှုများစွာကို ခြုံငုံပြန်ပြောင်းဆင်ခြင်ရန် ဖြစ်ဖွယ်ရှိသည်။ ရာစုနှစ်ပေါင်းများစွာ ကြာပြီးနောက် ဟူယင်ဆန်သည် ဤ(မြို့တော်ကို ပြန်လှည့်ကြည့်သည့်)ဖြစ်ရပ် ဖြစ်ပေါ်ခဲ့သည့်နေရာအား အထိမ်းအမှတ်ပြု(တည်ထား)သည့် စေတီငယ်တစ်ဆူကို ဖူးမြော်ရသည်။

ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် နှစ်တစ်ရာခန့်အကြာတွင် ဝေသာလီသည် ဒုတိယသံဂါယနာ တင်သည့် နေရာဖြစ်ခဲ့သည်။ (ဝေသာလီမြို့တော်၌ ကျင်းပခဲ့သော) ဤဒုတိယသံဂါယနာသည် ပထမတွင် ဝိနယ စည်းမျဉ်းများနှင့်ပတ်သက်သည့် ပြဿနာများကို ငြိမ်းစေရန် ကျင်းပခဲ့ခြင်းဖြစ်သော်လည်း ထိုပြဿနာနှင့်ပတ်သက်သည့် ထုတ်ပြန်မှုများကို အတည်ပြုပြီးနောက် ကြွရောက်တော်မူလာကြသည့် သံဃာ့ပရိသတ်က ဓမ္မနှင့်ဝိနယကို စုပေါင်းရွတ်ဆို (၍ သံဂါယနာတင်)ခဲ့ကြခြင်းဖြစ်သည်။ ကောသမ္ဗီအထိဝေးကွာသောဒေသမှ ရဟန်းတော်များ ဤသံဂါယနာသို့ တက်ရောက်ခဲ့ကြသည်။ (ဤသံဂါယနာ၌) အရှင်အာနန္ဒာ၏ သဒ္ဓိဝိဟာရတပည့်ရင်းဖြစ်ကြောင်း အဆိုရှိပြီး ထိုအချိန်က ကမ္ဘာပေါ်တွင် သိက္ခာဝါအကြီးရင့်ဆုံးဟု ယုံကြည်ရသည့် သမ္ဗကာမိမထေရ်လည်း ပါဝင်တော်မူခဲ့သည် (ဝိ ၄၊ ၅၀၅)။

တော်များသည် အဖွင့်ခံရသည့်လက္ခဏာကို ရှင်းလင်းစွာဖော်ပြသည်။ အထောက်အထား အားလုံးက ဤစေတီသည် လိစ္ဆဝီတို့ တည်ခဲ့သည့် မူလစေတီတော်ဖြစ်ကြောင်းနှင့် အတွင်းရှိ မီးကျွမ်းအရိုးများမှာ ဗုဒ္ဓ ရှင်တော်မြတ်၏ ဓာတ်တော်မွေတော်များဖြစ်ကြောင်း ညွှန်ပြသည်။ ယင်း(ဓာတ်တော်များကိုတွေ့ရှိခြင်း)သည် စိတ်လှုပ်ရှားဖွယ် ရှာဖွေတွေ့ ရှိမှုတစ်ရပ်ဖြစ်သော်လည်း ပိပရာဟဝါအရပ်၌ တွေ့ရှိရခြင်းများကဲ့သို့ ဗုဒ္ဓဘာသာလောက၌ စိတ်ဝင်စားမှု လှိုင်းတံပိုးကို မဖြစ်ပေါ်စေဘဲ ရှိသည်။ ယင်း(ဗုဒ္ဓ၏)ဓာတ်တော် (အစစ်အမှန်)များသည် ယခုအခါတွင် ပတ္တနားပြတိုက်၏ မြူဖုန် ထူထပ်သော ပြခန်းများ၌ သေးသိမ်စွာ တည်ရှိနေဆဲဖြစ်သည်။

## ခြင်္သေ့ခေါင်းကျောက်တိုင်

မူလလမ်းမကြီးသို့ပြန်လာပြီး တစ်ကီလိုမီတာခန့် (မြောက်ဘက်သို့) ဆက်လက်၍သွားသော် ဘုရားဖူးသည် နီးကပ်နေသည့် ကျောက်တိုင် တစ်ခုနှင့် စေတီပျက်ကြီးတစ်ခုသို့ ရောက်သွားလိမ့်မည်။ ဤကျောက် တိုင်ကို ယေဘုယျအားဖြင့် အသောကမင်း စိုက်ထူခဲ့သည်ဟု ယူဆရ သော်လည်း အသောကစိုက်ထူခဲ့ကြောင်း ထင်ရှားသော ကျောက်စာ တိုင်များ နှင့် လွန်စွာပင် မတူခြားနားသောကြောင့် ယင်းထင်မြင်ချက် မမှန်ကန်နိုင်ချေ။ ကျောက်စာတိုင်၏အလုံးသည် ထူထဲပြီး ပုအိုင့်အိုင့်ဖြစ် သည်။ အသောကကျောက်စာတိုင်များ၏ သေးသေးသွယ်သွယ် လုံး ပတ်ပုံစံနှင့် သိသိသာသာခြားနားသည်။ ဤ(ယခုပြဆိုသည့်)ကျောက် တိုင်သည် မထုရာ(၏) အရောင်တင်အချောကိုင်မှု လက်ရာများလည်း မရှိချေ။ တိုင်ထိပ်ရှိခြင်္သေ့ရုပ်သည် ဆွဲဆောင်မှုရှိသော်လည်း လောရိယ နန္ဒာနဂရ၊ ရာမပုရဝ သို့မဟုတ် မိဂဒါဝုန်မှ ခြင်္သေ့ရုပ်များနှင့် တူနိုင် သောအမျိုးအစား အမှတ်အသား ဘာမျှမရှိချေ။ ခြင်္သေ့သည် တိုင်ထိပ်ရှိ လေးထောင့် ကျောက်ပြားပေါ်၌ တည်ရှိသည်။ အသောကကျောက်စာ တိုင်များ၌မူ တိုင်ထိပ်ပေါ်ရှိ အဝိုင်းအဝန်း (စည်ပုံ) အကြားပေါ်၌ တည် ရှိပြီး ယင်းအဝိုင်း(ပြား) ပတ်လည်တွင် အမြဲတမ်း ပန်းဆွဲထားသည်။



မနှစ်မြို့ဖွယ် ဆွေးမြေ့ယိုယွင်းနေသည့် အပျက်အစီးများမှတစ်ပါး ဘာ တစ်ခုမျှ မှတ်တမ်းတင်စရာမရှိချေ။ ရှင်သန်သက်ဝင်ဆဲ ကျောင်းတိုက် များ ရှိသေးသော်လည်း ရဟန်းသံဃာ အနည်းငယ်မျှသာရှိ၏’။

၁၃–ရာစု ပထမနှစ်ဝက်၌ တိဗက်ရဟန်းတော် ဓမ္မသာမိ ကြွ ရောက်သောအခါ မြို့တော်၌ လူသူအများ ပြန်၍အခြေချနေထိုင်ကြပြီ ဖြစ်သော်လည်း လူအားလုံးသည် အချိန်မရွေး ဝင်ရောက်တိုက်ခိုက် တော့မည်ဟု ယူဆရသည့် မူလဆလင်တို့ ရန်ကြောင့် ထွက်ပြေးရန် ပြင်ဆင်နေကြသည်။ ဓမ္မသာမိက တန်ခိုးပြာဋိဟာရှိသည်ဟု လူအများ ယုံကြည်ကြပြီး မြို့တော်၌တည်ရှိသည့် တာရာ(Tara)ဆင်းတုအကြောင်း ကိုလည်း ဖော်ပြထားသည်။ ထိုဆင်းတု၏ ညာဘက်လက်၌ ရတနာ သုံးပါး ကိုယ်စားပြု အမှတ်အသားကို နှလုံးသားပေါ်၌ ကိုင်ဆောင် ထားပြီး မျက်နှာတော်ကား ဖူးမြင်မိရုံဖြင့် လိုအင်ဆန္ဒ အားလုံးမှ လွတ် မြောက်သွားသကဲ့သို့ ထင်ရလောက်အောင် တင့်တယ်ခမ်းနားလှသည်။

# ကြည့်ရှုဖွယ်

## ဝေသာလီနန်းတော်

ဝေသာလီပတ်ဝန်းကျင် နယ်မြေသည် အနီးရှိ ဂန္ဒာကမြစ်ရေလွှမ်းမိုးခံ ခဲ့ရသည်ဟု ယူဆရသည်။ ရာစုနှစ်ပေါင်းများစွာတွင် ပုံမှန် ရေလွှမ်းမိုး မှုများသည် ရှေးဟောင်းမြို့တော် အစအနအားလုံးကို ဖျက်ဆီးပစ် လိုက်ပြီဖြစ်သည်။ နောင်တွင် ကျယ်ပြန့်သည့် တူးဖော်မှုများပြုလုပ်မည် ဆိုပါက အတော်များများကို တူးဖော်တွေ့ရှိမည်မှာ သေချာသည်။ ဘုရားဖူးသည် ဝေသာလီမြို့ကို တောင်ဘက်မှ ချဉ်းကပ်မည်ဆိုလျှင် ယခုအခါ ရာဇဝိသာလကဃရ (ဝေသာလီဘုရင့်နေအိမ်)ဟုခေါ်သော မြက်ထူထပ်သည့် တောင်ကုန်းကြီးကို လမ်း၏ဘယ်ဘက်တွင် တွေ့နိုင် သည်။ တောင်ကုန်းသည် အရှည် ၄၈၁ မီတာအကျယ် ၂၂၈ မီတာရှိ စတုဂံပုံဖြစ်သည်။ ကန်နင်ဟမ်လက်ထက်က (တောင်ကုန်း၏) ထောင့် စွန်းနေရာများတွင် မျှော်စင်များရှိသည်။ သို့သော် ယခုအခါ ယင်း (မျှော်စင်)များ မရှိကြတော့ချေ။ ယင်း တောင်ကုန်းသည် ဝဇ္ဇီတို့၏စည်း

ဝေးရာခန်းမ၊ နောင်တွင် နန်းတော်ဖြစ်သွားပြီး နောက်ဆုံး၌ ခံတပ်ဖြစ်သွားခဲ့သည့် အဆောက်အအုံကြီး၏ အပျက်အစီးများ ဖြစ်မည်ဟု ယုံကြည်ရသည်။ အနောက်တောင်စွန်းတွင် စေတီတစ်ဆူရှိပြီး ယခုသော် (ထိုစေတီ)ထိပ်ပေါ်၌ ဆုဖီ စိန့် (Sufi Saint)၏ ဂူဗိမာန်ရှိသည်။

## ဝဇ္ဇီတို့၏အဘိသိက်ခံသည့်ရေကန် (ခါရောဏပေါက္ခရ)

ဤစတုဂံပုံရေကန်ကြီးကို ဝဇ္ဇီအုပ်ချုပ်သူ(မင်း)များ အဘိသိက်ခံရာတွင် အသုံးပြုသည့် အဘိသေကပေါက္ခရဏီ ဖြစ်သည်ဟု ယုံကြည်ကြသည်။

## ရှေးဟောင်းသုတေသနပြတိုက်

ခါရောဏပေါက္ခဏီရေကန် ကမ်းနဘေးတွင် ဤဒေသအတွင်းမှ တွေ့ရှိရသည့် ရှေးဟောင်းပစ္စည်း အနည်းငယ်ကို စုဆောင်း ပြသထားသည့် ပြတိုက်ရှိသည်။ ပင်မဝင်ပေါက် အတွင်းဘက်လောက်တွင် အပြာနက်ရောင်ကျောက်သားပေါ်၌ ထွင်းထုထားသည့် ဘူမိဖဿမုဒြာဟန် ဦးခေါင်းပေါ်၌ သရဖူမြင့်မြင့် တစ်ခုပါသည့် ဗုဒ္ဓဆင်းတုတော်တစ်ဆူရှိသည်။ ဤဆင်းတုကို မူလက ကွင်းပြင်တစ်ခု၌တွေ့ရှိခဲ့ပြီး နောင်တွင် ခြသေ့်ခေါင်းပါ ကျောက်တိုင်နှင့် ကပ်နေသည့် စေတီတော်ထိပ်တွင် တည်ဆောက်သည့် ဘုရားကျောင်းတစ်ခု၌ထားရှိခဲ့သည်။ ဆင်းတုတော်၌ ရေးထွင်းထားသည့် ကျောက်စာက ဤဆင်းတုကို မဏိကျ (အမည်ရှိသူ)၏သား စာရေးဆရာ ဥဆဘအမည်ရှိသူက လှူဒါန်းခဲ့ကြောင်း ဖော်ပြသည်။ အခြားစိတ်ဝင်စားဖွယ် လက်ရာတစ်ခုမှာ ခြီစည်းရိုးလက်ရန်းမှ ဒေါင်လိုက်(ကျောက်)တိုင်တစ်ခုဖြစ်သည်။ ယင်းကျောက်တိုင်၌ ဇေတဝန်ဥယျာဉ်ကို ဝယ်ယူနေပုံကို ဖော်ပြထားသည်။ ဤရှေးဟောင်း သုတေသနပြတိုက်ကို နံနက် ၁၀ နာရီမှ ညနေ ၅ နာရီအထိဖွင့်ပြီး သောကြာနေ့တွင်ပိတ်သည်။

## လိစ္ဆဝီတို့၏စေတီ

ပြတိုက်၏ အရှေ့မြောက်ဘက် ကပ်လျက်တွင် သေးငယ်သော်လည်း အလွန့်အလွန် အရေးပါသည့် စေတီတော်တစ်ဆူ၏ အပျက်အစီးများရှိ



သည်။ လိစ္ဆဝီများသည် ဗုဒ္ဓပရိနိဗ္ဗာန်စံလွန်ပြီးနောက် ဗုဒ္ဓ၏ဓာတ်တော်ဝေစုကို ရရှိသူများ၌ ပါဝင်ကြသည် (ဒီ ၂၊ ၁၆၄)။ ထိုဓာတ်တော်များကို ဌာပနာရန် လိစ္ဆဝီမင်းတို့ တည်ခဲ့သည့်စေတီကို အသောကမင်းကြီးက ပြန်လည်ဖွင့်လှစ်ပြီး ဓာတ်တော်အချို့ကို ယူလျက် အင်ပါယာအတွင်း တည်ဆောက်နေသည့် စေတီတော်များ၌ ဌာပနာနိုင်ရန် ဓာတ်တော်များကို တစ်ခုစီခွဲဝေပေးလိုက်သည်။ ဟူယင်ဆန်က ဤဖြစ်ရပ်ကို ထောက်ခံပြီး စိတ်ဝင်စားဖွယ် အသေးစိတ်အချို့ကို ထပ်လောင်းဖော်ပြသည် 'ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်ပြီးနောက် ဘုရင်တစ်ပါးသည် ဗုဒ္ဓဓာတ်တော်ဝေစုကို ရခဲ့ပြီး ယင်းဓာတ်တော်များကို အမြင့်မြတ်ဆုံးပူဇော်နိုင်ရန် ဤ(စေတီ)အဆောက်အအုံကို တည်ဆောက်ခဲ့၏။ အိန္ဒိယမှတ်တမ်းများက ''ဤစေတီတွင် ယခင်က တစ်ဒေါဟ(ဒေါဏ)နှင့် ညီမျှသည့် ဓာတ်တော် ပမာဏရှိသည်ဟု ဖော်ပြ၏''။ အသောကမင်းကြီးသည် စေတီတော်ကိုဖွင့်ပြီး ဓာတ်တော်အားလုံး၏ ဆယ်ပုံကိုးပုံကို ယူလျက် တစ်ပုံကိုသာချန်ထားခဲ့သည်။ နောင်အခါတွင် စေတီတော်ကို ဖွင့်လိုသည့် ဘုရင်တစ်ပါး ပေါ်လာပြန်သည်။ သို့ရာတွင် ဘုရင်က စေတီတော်ကို စတင်ဖွင့်တော့မည်ပြုသောခဏ၌ မြေကြီးတုန်လှုပ်ပြီး ထိုမင်းသည် ဆက်လက်၍ မလုပ်ဝံ့တော့ချေ'။

၁၉၅၈–ခုနှစ်က ဤစေတီတော်ကို ရှာဖွေတွေ့ရှိပြီး တူးဖော်လိုက်ခြင်းသည် ထိုဖြစ်ရပ်များကို အမှန်တကယ် (ဖြစ်ကြောင်း) အတည်ပြုပေးခဲ့သည်။ မူရင်းစေတီတော်ကို ရိုက်နှက်ထုထောင်းသည့် မြေသား (မြေညက်)ဖြင့် တည်ဆောက်ထားသည်ကို တွေ့ရသည်မှာ ထို(စေတီ) အဖို့ အလွန်ရှေးကျသောကာလ၏ သက်သေတစ်ရပ်ဖြစ်သည်။ (စေတီဌာပနာတိုက်မှ) မီးကျွမ်းအရိုးများ၊ ကြေးနီငွေဒင်္ဂါးတစ်ခု၊ ခရုသင်းခွံငယ်တစ်ခု၊ ဖန်စေ့နှစ်စေ့နှင့် ရွှေပြားနှစ်ချပ် ထည့်ထားသည့် ဆပ်ပြာကျောက်ကြုတ်ငယ်တစ်ခု တွေ့ရှိခဲ့သည်။ ယင်းစေတီကို တည်ဆောက်ပြီးနောက် နှစ်ပေါင်း ၂၅၀ ခန့်အကြာတွင် ပြန်လည်မွမ်းမံထားပြီး တစ်ဖန်နောက်ထပ် နှစ်ကြိမ် (ပြုပြင်မွမ်းမံသည်)။ ပထမနှင့် ဒုတိယစေတီ

တာရုံကျောင်းတိုက်)ကိုသာလျှင် ရှေးဟောင်းသုတေသန ပညာရှင်များ ရှာဖွေ တွေ့ရှိနိုင်သေးသည်။ အခါတစ်ပါး၌ သိဿပါဝနတွင်သီတင်းသုံး တော်မူစဉ် ကိုယ်တော်မြတ် ဟောတော်မူပြီးသည့် တရားတော်များကို လက်တော်၌ရှိသည့် သစ်ရွက်အနည်းငယ်နှင့်ယှဉ်ပြီး တောအုပ်ရှိ မုန် ညင်းပင်များမှ သစ်ရွက်များနှင့် မိမိအမှန်တကယ်သိခဲ့ပြီးဖြစ်သော တရားတော်များကို နှိုင်းယှဉ်ပြတော်မူသည် (သံ ၃၊ ၃၈၂)။

ထိုခေတ်က ဝံသတိုင်း၏ဘုရင် ဥဒေနသည် အခြားဘုရင်ကေရာဇ် များနှင့်မတူဘဲ ဗုဒ္ဓအား လုံးဝ မကြည်ညိုသူ ဖြစ်သည်။ ဥဒေနသည် သွန်သင်ဆုံးမမှုအသစ်နှင့် ပတ်သက်၍ ရန်လိုမှုရှိခဲ့သည့် အထောက် အထားများ တွေ့ရသည်။ ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူပြီး နောက် ဥဒေန၏ နန်းတွင်းသူအမျိုးသမီးများသည် အရှင်အာနန္ဒာအား သက်န်းအစုံ၅၀၀ ရာ လှူဒါန်းသည်။ ယင်းလှူဒါန်းမှုပြီးနောက် သံဃာတော် များအား အထောက်အပံ့ပြုခြင်းဖြင့် ကောင်းမှုရှင်မင်းကြီးအား (ဗုဒ္ဓဝါဒ ကို) သက်ဝင်ယုံကြည်စေရန် အချိန်အတန်ကြာခဲ့သည် (ဝိ ၄၊ ၄၈၆)။

ပထမဆုံးအကြိမ် ကျယ်ပြန့်သည့် သံဃာတော်များ သဘောထား ကွဲပြားမှုသည် ကောသမ္ဗီတွင် ဖြစ်ပေါ်ခဲ့ကြောင်း တွေ့ရသည်။ ရဟန်း တော်များအကြား သဘောထားကွဲလွဲမှုသည် သံဃာ့ပရိသတ်အားလုံး နှင့် ပတ်သက်သွားသည်အထိ ကြီးထွားသွားသည်။ ရဟန်းတော်များ သည် ‘ယဉ်ကျေးမှုမရှိဘဲ ရန်လိုပြီး အငြင်းသန်ကြသည်။ လျှာလက် နက်ဖြင့် မိမိတို့ အချင်းချင်း ဒဏ်ရာရအောင် ပြုကြသည်’ဟုဆိုသည်။ မြတ်ဗုဒ္ဓက ပြေငြိမ်းအောင် ကြိုးစားသောအခါ (ရဟန်းတော်များက) ရှင်တော်မြတ်အား ဝင်ရောက် စွက်ဖက်တော်မမူရန် တိုးတိတိလျှောက် ထားကြသည်။ (ယင်း)ငြင်းခုံမှုကို အကြောင်းပြုပြီး ရဟန်းတော်များကို ရော (ထောက်ခံသူ)ဥပါသကာများကိုပါ သဘောမတူဆန့်ကျင်ကြောင်း ပြတော်မူလိုသဖြင့် အောက်ပါအတိုင်းမိန့်ကြားလျက် (ဗုဒ္ဓရှင်တော်မြတ်) ကောသမ္ဗီမှ ထွက်ခွာတော်မူသည် –

‘ငါ့ကို ဆဲရေးပြီ၊ ငါ့ကို ညှဉ်းဆဲပြီ၊ ငါ့ကို ဆန့်ကျင်ပြီ၊ ငါ့ကို လု



(ဤ)ကျောက်တိုင်၌ စာရေးထွင်းထားခြင်းမရှိ။ သို့သော် စာပုံရေးခြစ် ထားမှု အများအပြားတော့ ရှိသည်။ မကြာမီက စုံစမ်းမှုများအရ ကျောက်စာတိုင်၏ စုစုပေါင်းအရှည်မှာ အောက်ခြေမှ ကျောက်တိုင် ထိပ်ဖျားအထိ ၁၄ ဒသမ ၆ မီတာရှည်ကြောင်းသိရသည်။ မီတာ ပေါင်းများစွာ မြေကြီးထဲ၌ မြုပ်ဝင်နေသည်။ ဤကျောက်တိုင်သည် အသောကခေတ်ထက် အနည်းငယ်ရှေးကျပြီး အသောက ကျောက်စာ တိုင်များ၏ ရှေးပြေးဖြစ်ဖွယ်ရှိသည်။

## စေတီတော်

ခြင်္သေ့ခေါင်းကျောက်တိုင်နှင့် ကပ်လျက်တွင် အမြင့် ၄ ဒသမ ၆ မီတာရှိပြီး အချင်းမီတာ ၂၀ ခန့်ရှိသည့် စေတီပျက် ကြီးတစ်ခုရှိသည်။ ဟူယင်ဆန်က ဤစေတီကို ဘုရင်အသောက တည်ခဲ့ကြောင်း ဖော်ပြ ပြီး၊ ၁၉၇၆ နှင့် ၁၉၇၈ ခုနှစ် များအတွင်း တူးဖော်တွေ့ရှိခြင်းများက ဤအဆိုမှန်ကန်ကြောင်း ထောက်ခံသည်။ ဤစေတီကို မောရိယခေတ် တွင် ပထမဆုံးတည်ဆောက်ခဲ့ပြီး နောက်ထပ်နှစ်ကြိမ် ပြန်လည်တည် ဆောက်ပြုပြင် မွမ်းမံခဲ့ကြောင်းတွေ့ရှိရသည်။ အတွင်းပိုင်း၌ လေး ထောင့်ပုံ အုတ်ဖြင့်ပြုလုပ်သည့် ဓာတ်တော်တိုက်ခန်းတွင် မောရိယ ခေတ် အချောကိုင်လက်ရာနှင့် အတန်ငယ် အဖိုးတန်သည့် ကျောက် မျက်များပါရှိသော ဓာတ်တော်ကြုတ်တစ်ခု တွေ့ရှိရသည်။

## သွားရောက်ရန်

ဝေသာလီသည် ပတ္တနားမြို့မြောက်ဘက် ကီလိုမီတာ ၄၀ အကွာတွင် ရှိပြီး ထိုနေရာသို့ ကားလမ်းအတိုင်း လွယ်ကူစွာ သွားရောက်နိုင်သည်။




## ၁၁။ ကောသမ္ဗီ

ဗုဒ္ဓရှင်တော်မြတ်သည် ဝံသတိုင်း၏မြို့တော်ကောသမ္ဗီသို့ အကြိမ်ပေါင်းများစွာ ကြွရောက်တော်မူခဲ့သည်။ ဗောဓိဉာဏ်ကို ရတော်မူပြီးနောက် ၉ ခုမြောက်ဝါကိုလည်း မြို့တော်(ကောသမ္ဗီ)၌ ကုန်လွန်စေတော်မူခဲ့သည်။ ၁၀–ဝါမြောက် ဝါကိုမူ (ကောသမ္ဗီမြို့)အနီးရှိ ပါလိလေယျတော၌ သီတင်းသုံးတော်မူခဲ့သည်။ မဇ္ဈိမဒေသသို့ အဝင်အထွက် ကုန်သွယ်ရေးလမ်းပေါ်၌တည်ရှိသည့် မဟာဗျူဟာအခြေအနေကြောင့် ကောသမ္ဗီသည် ကြွယ်ဝသောမြို့တော်ဖြစ်သည်။ ကောသလမှ မဂဓသို့ (သွားသည့်) လမ်းမကြီးများအနက် တစ်ခုသည် (ကောသမ္ဗီ)မြို့တော်ကို ဖြတ်သန်းရသည် (သုတ္တနိ–ဋ္ဌ ၂၊ ၂၉၉)။ ထို့အတူ ဒက်ကန် (အရပ်)မှ လမ်းမကြီးတစ်ခုလည်း (ကောသမ္ဗီ)မြို့ကို ဖြတ်သန်းသွားသည်။ အခါတစ်ပါး၌ အရှင်အာနန္ဒာသည် ပတ္တနားဆိပ်ကမ်းမှ တက်ရောက်လိုက်ပါခဲ့ဖွယ်ရှိသည့် မဂဓ(တိုင်း)မှ လှေကြုံစီးပြီး မြစ်ညာရှိ ကောသမ္ဗီမြို့သို့ ဆန်တက်တော်မူကြောင်း သိရသည် (ဝိ ၄၊ ၄၈၇)။ (ဤအချက်သည်) မြို့တော်အနီးမှ စီးဆင်းသည့် ယမုန်နာမြစ်သည် ကုန်သည်ဖော် (လှေ) တို့ကို စုပြုံစေလိမ့်မည်ဖြစ်ကြောင်းလည်း ညွှန်ပြသည်။

ဗုဒ္ဓရှင်တော်မြတ်၏ ကောသမ္ဗီသို့ ပထမဆုံး ဒေသစာရီခရီးသည် ဃောသိတ၊ ကုက္ကုဋနှင့် ပါဝါရိကဟူသော ကုန်သည်မိတ်ဆွေ သုံးယောက်တို့၏ ပင့်လျှောက်မှုကြောင့်ဖြစ်သည်။ ၎င်း(သုံးယောက်)တို့သည် မြတ်ဗုဒ္ဓအကြောင်း ကြားသိကြပြီး သာဝတ္ထိမြို့သို့ မြတ်ဗုဒ္ဓအား ဖူးမြော်ရန် သွားရောက်ခဲ့ကြသည်။ ဓမ္မကိုကြားနာရခြင်း၌ ၎င်းတို့သည် မြတ်ဗုဒ္ဓနှင့် တပည့်သာဝကများအား ကောသမ္ဗီသို့ ပင့်လျှောက်သည်အထိ ကြည်ညိုသွားခဲ့ကြသည်။ မိတ်ဆွေ သုံးယောက်လုံးသည် (မြတ်ဗုဒ္ဓအမှူးရှိသည့်) သံဃာတော်များသီတင်းသုံးရန် ဥယျာဉ်တစ်ခုစီ လှူဒါန်းကြသည်။ ၎င်းတို့၏အမည်ကို အကြောင်းပြု၍ ဥယျာဉ်ပန်းခြံသုံးခုကိုလည်း ဃောသိတာရာမ၊ ကုက္ကုဋာရာမ၊ ပါဝါရိကမ္ဗဝနဟု အမည်နာမ ပေးခဲ့သည် (ဒီ–ဋ္ဌ ၁၊ ၂၈၂)။ ယင်းတို့အနက် ပထမဆုံး (ဃောသိ

## ကြည့်ရှုဖွယ်

### အသောကကျောက်စာတိုင်

လမ်းမသည် ရှေးဟောင်းမြို့တော်၏ ကတုတ်(မြို့ရိုး)ကို ဖြတ်သွားပြီး အတန်ငယ်ဝေးသည်ထိ ယင်း(မြို့ရိုး)အတိုင်း လိုက်သွားပြီးနောက် ဘုရားဖူးသည် လမ်း၏ဘယ်ဘက်ရှိ ကွင်းပြင်ထဲတွင် အသောက ကျောက်စာတိုင်ကို တွေ့မြင်နိုင်သည်။ ကျောက်စာတိုင်၌ စာမရှိသော်လည်း နှောင်းခေတ်ရေးခြစ်ထားမှု အများအပြားအပြင် ထူးခြားသည့် အဝိုင်းပုံ ဒီဇိုင်းများရှိသည်။ ကျောက်စာတိုင်သည် မြို့တော်တည်ရှိခဲ့သည့် နေရာတွင်တည်ရှိပြီး အဓိကကျသည့် လမ်းဆုံများ သို့မဟုတ် ရင်ပြင်တစ်ခုတွင် ဖြစ်(စိုက်ထူထားခဲ့)ဖွယ်ရှိသည်။ ကျောက်စာတိုင် ပတ်လည်၌ အိမ်များ အဆောက်အအုံများ၏ အပျက်အစီးများကို တွေ့မြင်နိုင်သေးသည်။

ကောသမ္ဗီမြို့ရှိ ဘာသာရေးဆိုင်ရာ အရာရှိများသို့ထုတ်ပြန်သည့် အမိန့်စာပါသော အခြားအသောက ကျောက်စာတိုင်များသည် ယခုအခါ အလာဟာဘတ် ခံတပ်တွင် တည်ရှိသည်။ ယင်းကျောက်စာတိုင်များသည် မူလက ဃောသိတာရုံကျောင်းတိုက်ထဲ၌ ရှိခဲ့ပုံပေါ်သည်။ သို့ရာတွင် ဖာဟီယန်ရော ဟူယင်ဆန်ပါ ကောသမ္ဗီ၌ ကျောက်စာတိုင်များ တွေ့မြင်ခဲ့ရကြောင်း ဖော်ပြခြင်းမရှိပေ။

### ဃောသိတာရုံကျောင်းတော်ရာ

အသောကကျောက်စာတိုင်၏ အရှေ့တောင်ဘက် ကီလိုမီတာဝက်ခန့် အကွာ လယ်ကွင်းများတစ်လျှောက်တွင် ကောသမ္ဗီသို့ ကြွရောက်စဉ် ဗုဒ္ဓရှင်တော်မြတ် သီတင်းသုံးတော်မူခဲ့သည့် နေရာများစွာအနက် အထင်ရှားဆုံးနေရာ တစ်ခုဖြစ်သော ဃောသိတာရုံကျောင်းတော်ရာ ရှိသည်။ မြတ်ဗုဒ္ဓသည် ဥပက္ကိလေသသုတ် (မ ၃၊ ၁၉၀)၊ ကောသမ္ဗိယသုတ် (မ ၁၊ ၃၉၅)၊ ဇာလိယသုတ် (ဒီ ၁၊ ၁၅၀) နှင့် အခြား များစွာသော ဒေသနာတော်များကို (ကောသမ္ဗီမြို့၌) ဟောတော်မူခဲ့သည်။ ဃောသိတာရုံ၌ အရှင်အာနန္ဒာဟောတော်မူသည့် ဒေသနာတော်များစွာ



ယက်ပြီ’ဟူသော အကြံအစည်များကို စွဲကိုင်ထားကြသူများသည် အမုန်းတရားကို မည်သည့်အခါမျှ မငြိမ်းစေနိုင်။

‘ငါ့ကို ဆဲရေးပြီ၊ ငါ့ကို ညှဉ်းဆဲပြီ၊ ငါ့ကို ဆန့်ကျင်ပြီ၊ ငါ့ကို လုယက်ပြီ’ဟူသော အကြံအစည်များကို စွဲကိုင် မထားသူများသည် မကြာခင် အမုန်းတရားကို ငြိမ်းစေနိုင်၏။

‘အကြောင်းမူ ဤလောက၌ အမုန်းတရားကို ပိုမိုမုန်းတီးခြင်းဖြင့် မငြိမ်းစေနိုင်၊ အမုန်းကို အောင်မြင်သည်မှာ မေတ္တာသည်သာဖြစ်သောကြောင့်တည်း။ ဤသည်မှာ ထာဝရအမှန်တရားဖြစ်ချေ၏’ဟု ဟောတော်မူသည် (မ ၃၊ ၁၉၂)။

ဘုရားရှင်သည် ကောသမ္ဗီရဟန်းတော်များနှင့်မတူဘဲ ‘ခင်မင်ရင်းနှီးပြီး လိုက်လျောညီထွေရှိကြလျက် နို့နှင့်ရေကဲ့သို့ ရောနှောကြကုန်သော မေတ္တာမျက်လုံးဖြင့် အချင်းချင်း ကြည့်ရှုလေ့ရှိကြသည့် ‘ရဟန်းတော်များ သီတင်းသုံးတော်မူရာ ဗာလကလောဏကာရရွာသို့ ထွက်ခွာတော်မူသည်။ ဗုဒ္ဓရှင်တော်မြတ်က မည်သို့ပြု၍ ဤမျှရင်းနှီးစွာနေထိုင်နိုင်ကြသည်ကို ထိုရဟန်းတော်များအနက် တစ်ပါးကို မေးမြန်းတော်မူသောအခါ ရဟန်းက ဤသို့ဖြေ၏ ‘ဤကိစ္စနှင့်ပတ်သက်၍ ‘‘သာသနာတော်၌ ဤကဲ့သို့သော သီတင်းသုံးဖော်များနှင့်အတူ နေထိုင်ရခြင်းသည် ငါ့အဖို့ အမှန်ပင် အရတော်ပေ၏။ အမှန်ပင် ကောင်းသောရခြင်းဖြစ်၏’’ဟု စဉ်းစားပါသည်။ ထို(သီတင်းသုံးဖော်)များအပေါ် မျက်ကွယ်မှာရော မျက်မှောက်မှာပါ ကိုယ်နှုတ်နှလုံးသုံးပါးဖြင့် ချစ်ခင်မြတ်နိုးသည့် အမူအရာများကို လေ့ကျင့်ပါသည်။ ‘‘ငါ့ဆန္ဒများကို ဘေးဖယ်ထားပြီး ၎င်းတို့၏ ဆန္ဒကို ဘာကြောင့် သဘောမတူနိုင်ဘဲရှိရမည်နည်း’’ဟု စဉ်းစားပါသည်။ ၎င်းနောက် ယင်းသို့ (တွေးမြင်ထားသည့်) အတိုင်း ပြုမူပါသည်။ အမှန်စင်စစ် တပည့်တော်တို့သည် ခန္ဓာကိုယ်အားဖြင့် ကွဲပြားသော်လည်း စိတ်အားဖြင့် တစ်ခုတည်းသာ ဖြစ်ပါသည်ဘုရား’ (မ ၃၊ ၁၉၄)။

၎င်းနောက် ဗုဒ္ဓမြတ်စွာသည် ပါလိလေယျတောသို့ ထွက်ခွာတော်

မူသည်။ ဗုဒ္ဓမြတ်စွာသည် ကောသမ္ဗီမြို့ရှိ မနှစ်မြို့ဖွယ် ပတ်ဝန်းကျင်မှ (ထွက်ခွာခဲ့ပြီးနောက်) ပါလိလေယျတောတွင် တောရိုင်းတိရစ္ဆာန်ဟူသော အပေါင်းအဖော်များနှင့်၊ ကြိုဆိုနေသည့် သက်သာရာဖြစ်သော တောတောင်၏ တိတ်ဆိတ်မှုများကို တွေ့ရှိရသည်။ ပါလိလေယျတော၌ သီတင်းသုံးတော်မူစဉ် မြတ်ဗုဒ္ဓအား မျောက်နှင့်ဆင်တို့က တောတွင် (နေရာများ) ရှင်းလင်းပေးပြီ အစားအစာနှင့်ရေတို့ကို ယူဆောင်ပေးလျက် မြတ်ဗုဒ္ဓအား ပြုစုစောင့်ရှောက်ကြကြောင်း ဆိုသည်။ ထိုအချိန်တွင် ကောသမ္ဗီမြို့သား ဥပါသကာများသည် ကွဲပြားနေသော ရဟန်းတော်များအား အလျှင်အမြန် သတိသံဝေဂရစေသည်။ အဋ္ဌကထာအဆိုအရ ‘ဣတိဝုတ္တကပါဠိတော်’တစ်ခုလုံးသည် ကောသမ္ဗီမြို့၌ ဟောတော်မူသည့် ဒေသနာတော် များဖြစ်ကြပြီး နန်းတွင်းအလုပ်အကျွေးအမျိုးသမီး ခုဇ္ဇုတ္တရာဥပါသိကာမက စုဆောင်းထိန်းသိမ်းထားခဲ့သည်။

ရဟန်းတော် ဟူယင်ဆန် ဝံသတိုင်းသို့ ရောက်သွားစဉ် ကျောင်းတိုက်သုံးခုမှာ ပျက်စီးနေကြပြီး ဟိန္ဒူဘာသာတရား လွှမ်းမိုးနေသော်လည်း ဗုဒ္ဓဘာသာရဟန်း သုံးရာခန့်ရှိသည်။ ကောသမ္ဗီ၌ ဖာဟီယန်သည် အစဉ်အလာအရ ဥဒေနမင်းကြီး သွန်းထုခဲ့ပြီး ဗုဒ္ဓဆင်းတုတော်အားလုံး၏ မူလရှေ့ပြေးဖြစ်မည်ဟု ယူဆရလျက် ကျော်ကြားလှသည့် စန္ဒကူးသား ဗုဒ္ဓဆင်းတုတော်တစ်ဆူ ကိန်းဝပ်ရာ ၁၈ မီတာနီးပါး မြင့်သော ဘုရားကျောင်းကြီးတစ်ခုကို တွေ့မြင်ခဲ့သည်။ ဟူယင်ဆန်သည် ဃောသိတသူဌေး၏ အိမ်နေရာ အဆောက်အအုံပျက်များနှင့် ကျောကြားလှသည့် ရဟန်းတော် အသင်္ဂနှင့် ဝသုဗန္ဓု ညီအစ်ကိုတို့ သီတင်းသုံးခဲ့ပြီး ၎င်းတို့၏ ဒဿနဆိုင်ရာ ကျမ်းစာအချို့ ရေးသားခဲ့သည့်နေရာအများအပြားကိုလည်း တွေ့ရှိခဲ့သည်။ သို့ရာတွင် မြို့တော်(ကောသမ္ဗီ)၏ ရွှေခေတ်ကား ကုန်ဆုံးလေပြီ။ ဟူယင်ဆန် ရောက်ပြီးနောက် မကြာမြင့်မီ ကောသမ္ဗီသည် လုံးဝစွန့်ပစ်ခံ (မြို့တော်) ဖြစ်သွားခဲ့သည်။

ယနေ့ခေတ်တွင် ကောသမ္ဗီမြို့ရိုးသည် ယမုန်နာမြစ်၏ တောင်ဘက်



ခြမ်းတွင် အရှည် ၆ ကီလိုမီတာထက် မနည်းရှိလျက် ပုံမှန် မဟုတ်သည့် စတုဂံပုံတည်ရှိသည်။ အမြင့်ဆုံးအပိုင်းတွင် မြို့ရိုးတံတိုင်းသည် ၁၅ မီတာအထိမြင့်သည်။ ၁၈၆၁ ခုနှစ်၊ ပထမဆုံး အကြိမ်အဖြစ် ထို (မြို့ရိုး) အပျက်အစီးများကို တွေ့မြင်ရစဉ်က ကန်နင်ဟမ်၏ ထင်မြင်ချက်သည် ယနေ့တိုင် သင့်မြတ်မှန်ကန်ဆဲဖြစ်သည်။ ‘အပြင်က ကြည့်ရှုပါက ကောသမ္ဗီအပျက်အစီးများသည် ဆွဲဆောင်မှု အကောင်းဆုံးသော ပုံသဏ္ဍာန်ဖြစ်သည်။ ကျွန်ုပ်၏ ပဏာမ စုံစမ်း(လေ့လာ)မှုများသည် အုတ်ကျိုးများဖြင့် ဖုံးလွှမ်းနေသည့် ပေနှစ်ဆယ်သုံးဆယ်ခန့် မြင့်သော တောင်ကုန်းအပျက်အစီးအဖြစ် ခန့်မှန်းရန်သာလျှင် ရည်ရွယ်ခဲ့သည်။ သို့ဖြစ်၍ ကျွန်ုပ်အံ့သြရသည်မှာ အရှေ့မြောက်ဘက် ခပ်းလှမ်းလှမ်းနေရာသို့ (ရောက်လိုက်)သည်နှင့် သစ်ပင်အများစု မြင့်မားသကဲ့သို့ပင် ခမ်းနားလှသည့် မြေသားတောင်ကုန်းတန်းရှည်တစ်ခုကို နှစ်မိုင်ခန့် ရှည်လျားစွာ တွေ့မြင်လိုက်ရခြင်းဖြစ်သည်’။

ကန်နင်ဟမ်သည် ၁၈၆၂–၆၃ ခုနှစ်များ၌ ကောသမ္ဗီသို့ သွားရောက်ပြီးနောက် ကောဆမ်(Kosom)ရွာနှင့် ၎င်းပတ်ဝန်းကျင်ရှိ တောင်ပို့ကြီးသည် ရှေးဟောင်း ကောသမ္ဗီမြို့တော်ဖြစ်ကြောင်း ကြေညာခဲ့သည်။ ဗင်ဆင်စမစ် (Vincent Smith)ကမူ ၎င်း၏ထုံးစံအတိုင်း မောပမ်းနွမ်းနယ် (စိတ်မပျံ့တပါ)ဟန်ဖြင့် ယင်းကြေညာချက်အပေါ် သံသယရှိပုံပြခဲ့သည်။ သို့ဖြင့် ၁၉၂၂ အထိ မသေချာမရေရာမှုတို့ ရှိနေခဲ့သေးသည်။ ထိုစဉ် ဒေါက်တာ ဆာဟနီ (Dr. Sahni)သည် ကောဆမ်ရွာအနီးမှ စာတန်းများစွာကို တွေ့ရှိခဲ့သည်။ ယင်း(စာတန်းများ)သည် ကန်နင်ဟမ်၏ မူလပထမ တွေ့ရှိချက်မှန်ကန်ကြောင်း သက်သေပြခဲ့သည်။ ၁၉၃၇ ခုနှစ်တွင် ကောသမ္ဗီ၌ တူးဖော်မှုများပြုလုပ်ခဲ့ပြီး ၁၉၄၉ နှင့် ၁၉၅၇ ခုနှစ်များ၌လည်း ထပ်မံပြုလုပ်ခဲ့သည်။ ယင်းတူးဖော်ချက်များက ယင်း(ကောသမ္ဗီ) မြို့တော်သည် ဘီစီ ၁၀၀၀ ကျော်မှစ၍ တည်ရှိခဲ့ကြောင်း ဖော်ပြခဲ့သည်။






ကို ထောက်ရှု၍ (သံ ၂၊ ၃၃၁) အရှင်မြတ်သည်လည်း ယောသိတာရုံသို့ မကြာခဏကြွရောက်တော်မူခဲ့မည်မှာ သေချာသည်။

ဤ (ကျောင်းတော်ရာ)၌ တွေ့ရသည့် ကျောက်စာများအရ အေဒီ ၁ ရာစုတွင် ဖာဂေါလ (Phagol)မည်သော ရဟန်းတော် တစ်ပါး သည် 'မြတ်ဗုဒ္ဓသီတင်းသုံးခဲ့ရာ ယောသိတာရုံကျောင်းတိုက်၌ သီတင်းသုံးကြသော ရဟန်းတော်များ(အနေဖြင့်) ဘုရားရှင်အားလုံးတို့အား ရှိခိုးပူဇော်ခြင်းအတွက် အသုံးပြုရန်' ပန်းပုရုပ်ပါကျောက်ချပ် ပြားတစ်ခု လှူဒါန်းခဲ့ကြောင်း သိရသည်။

ကနိသျှကမင်းကြီး နန်းစံနှစ် သုံးနှစ်မြောက်တွင် ဗုဒ္ဓမိတြာအမည်ရှိ ဘိက္ခုနီတစ်ပါးသည် ဤကျောင်းတိုက်အား ဗောဓိသတ္တဆင်းတုများ လှူဒါန်းခဲ့သည်။ ဤရက်ရောပြီး ဘာသာတရားကိုင်းရှိုင်းလှသော အမျိုးသမီးသည် မိဂဒါဝုန်ရှိ ကျော်ကြားသည့် ဗောဓိသတ္တဆင်းတုတွင် ရေးထွင်းထားသော ကျောက်စာပါ ရဟန်းတော်ဗလ၏ တပည့်အဖြစ် ဖော်ပြထားသည့် ဘိက္ခုနီနှင့် အတူတူပင်ဖြစ်သည်။ ရဟန်းတော် ဖာဟီယန် ကောသမ္ဗီသို့ ကြွရောက်သောအခါ ယောသိတာရုံကျောင်းတိုက်၌ သီတင်းသုံးနေထိုင်ကြသည့် ရဟန်းတော်များအား ချိန်နှမ်းလျစွာ တွေ့ရသေးသော်လည်း ဟူယင်ဆန်ခေတ်၌မူ ယောတာရုံသည် စွန့်ပစ်ခံ အပျက်အစီးများ ဖြစ်နေလေပြီ။ ယောသိတာရုံကျောင်းတော်ရာကို ၁၉၅၁ ခုနှစ်တွင် ကောသမ္ဗီ၌ စတင်ခဲ့သည့် တူးဖော်မှုများအတွင်း တွေ့ရှိခဲ့သည်။ ဘီစီ၀၊ရာစုမှ အေဒီ၀၊ရာစုအထိ လူသူအခြေချ နေထိုင်ခဲ့သော်လည်း တူးဖော်စဉ်အတွင်း တွေ့ရှိခဲ့သည့် မြုပ်နေသောအရာများစွာသည် စုံစမ်းသိရှိရန် ခက်ခဲသောအဆောက်အအုံ အသီးသီးနှင့် ပတ်သက်သော အတွေးအမြင်များကို ဖော်ပြသည်။ သို့ရာတွင် အဓိကအဆောက်အအုံများမှာမူ ကောင်းစွာရှင်လင်းပီပြင်သည်။

ဤနေရာ၌ ရှေးအကျဆုံး အဆောက်အအုံမှာ မောရိယခေတ်အတွင်း ပထမဆုံးတည်ဆောက်ခဲ့သည့် ၂၅× ၂၅ မီတာရှိသည့် စေတီကြီး ဖြစ်သည်။ ဤစေတီတော်သည် ယောသိတာရုံကျောင်းတိုက်၌

ရဟန်းတော်ဟူယင်ဆန် တွေ့ခဲ့ရသော စေတီဖြစ်သည်။ ၎င်းက ဘုရင်အသောက တည်ဆောက်ခဲ့သည်ဟုဆိုသော ၆၁ မီတာ မြင့်သည့် စေတီတော် ဖြစ်သည်မှာ သေချာသည်။ စေတီတော်၏ အောက်ခြေမှာ မူလက လေးထောင့်ပုံဖြစ်သော်လည်း နှောင်းခေတ်ပြန်လည် ပြုပြင်တည်ဆောက်စဉ်အတွင်း အခန်းငယ်များထည့်သွင်းပြီး သွင်ပြင်အားဖြင့် ဗဟုဂံပုံအဖြစ် ပြုပြင်ခဲ့သည်။ အသေးစိတ်စီမံထားသည့် ရေနုတ်မြောင်းစနစ်ဖြင့် ထပ်ဖြည့်ထားသည်။ ပင်မစေတီတော်၏ အရှေ့ဘက် မဝေးသောနေရာတွင် ပိုမိုသေးငယ်သည့် စေတီတော်တစ်ဆူရှိပြီး စတုဂံပုံ သဏ္ဌာန်ရှိလျက် ၎င်း (စေတီ)အပေါ်သို့တက်သည့် လှေကားနေရာများပါရှိသည်။ လှေကားများ၏ အခြားတစ်ဘက်ရှိ စေတီ(ရံ) ငယ်များနှင့် ဆက်သွယ်ထားသည့် ဘုရားခန်းများပါ ရှိသည်။

စေတီနှင့်ကပ်လျက်တွင် ကောင်းမွန်စွာ ဆောက်လုပ်ထားသည့် ဘုရားကျောင်းငယ်တစ်ခုရှိပြီး ယင်း(ဘုရားကျောင်း)ထဲတွင် ထိုင်နေသည့် ဟာရိတိ(Hariti)ရုပ်တုတစ်ခု ရှိသည်။ အစဉ်အလာအရ ဟာရိတိသည် ဗုဒ္ဓရှင်တော်မြတ်၏ အဆုံးအမကို ရရှိသည့် အချိန်အထိ ကလေးငယ်များကို စားပစ်လေ့ရှိသော ယက္ခိနီ (ဘီလူးမ) ဖြစ်သည်။ တစ်ဖန် (ဗုဒ္ဓ၏ အဆုံးအမ၌တည်)ပြီးနောက် ဟာရိတိသည် ကလေးငယ်များ၏ သူတော်စင် ခေါင်းဆောင်အဖြစ် ယူဆခြင်းခံလာရသည်။ တရုတ်ဘုရားဖူးများသည် အိန္ဒိယရှိ ဗုဒ္ဓဘာသာကျောင်းတော်များအတွင်း ဟာရိတိ၏ နေရာအဆောင်များ တွေ့မြင်ရကြောင်း မကြာခဏ ဖော်ပြကြသည်။

ယင်းအဆောက်အအုံ အားလုံးသည် ပင်မကျောင်းတိုက်ဝင်းအတွင်းရှိပြီး တွေ့ရှိနိုင်ဆဲဖြစ်သည့် ရဟန်းတော်များ သီတင်းသုံးရာ အခန်းငယ် ၂၃ ဆောင်ခန့် ပတ်ဝန်းနေသည်။ ကျောင်းတိုက်အတွင်းသို့ ပင်မဝင်ပေါက်သည် အနောက်မြောက်ဘက်၌ ရှိသည်။ အပြန်အလှန်အားဖြင့် ကျောင်းတိုက်ကို နေရာ (များများ)တွင် ၄ မီတာနီးပါး ထူကဲသည့် အုတ်တံတိုင်းဖြင့် ကာရံထားသည်။ ဃောသိတာရုံ ကျောင်းတိုက်သည် ကောသမ္ဗီမြို့ရိုးအတွင်းဘက် ညာဘက်တည့်တည့် အရှေ့ဘက်ဂိတ်အနီးတွင် ရှိသည်။ မြို့ပြင်မှာမဟုတ်ဘဲ အတွင်းမှာ တည်ရှိခဲ့



သည့် ဗုဒ္ဓသက်တော် ထင်ရှားရှိစဉ်က တည်ဆောက်ခဲ့သော ကျောင်းတိုက်များအနက် တစ်ခုမျှသာဖြစ်သည်မှာ ထူးခြားသည်။

**သွားရောက်ရန်**

အနောက်ဘက်သို့ (သွားသည့်) အဝေးပြေးလမ်းပေါ်ရှိ အလာဟာဘတ်မြို့မှ ၁၃ ကီလိုမီတာ အကွာတွင် မန်ဒါရေ(မြို့)သို့ လမ်းခွဲရှိသည်။ ယင်းလမ်းခွဲအလွန်တွင် ကောသမ္ဗီရှိသည်။ အလာဟာဘတ်မှ စုစုပေါင်း ၁၈ ကီလိုမီတာ ဝေးသည်။ ကောသမ္ဗီသို့ ဘတ်စ်ကား ရောက်သော်လည်း နည်းပါးပြီး အားမကိုးရချေ။ တက္ကစီငှားလျှင် ပိုမို အဆင်ပြေသည်။

**ပရဘောသတောင်ကုန်း**

ဗုဒ္ဓရှင်တော်မြတ်သည် ခြောက်ခုမြောက်ဝါကို ကောသမ္ဗီမြို့အနီး မကုလတောင်၌ သီတင်းသုံးတော်မူခဲ့သည်။ ဤတောင်ကုန်းနှင့် ပတ်သက်၍ ပါဠိတော်အဋ္ဌကထာ (အံ–၄ ၂၊ ၂၉) များ၌ ကောသမ္ဗီဝန်းကျင်၌ ရှိသည်ဆိုရုံထက်ပို၍ သတင်းအစအနများ ဖော်ပြမထားပေ။ ကောသမ္ဗီမြို့ဝန်းကျင်တစ်ခွင်၌ ကီလိုမီတာများစွာ ရှည်လျားသည့် မြင့်မောက်နေရာဆို၍ ပရဘောသခေါ် ကျောက်ထူကုန်းမြင့်တစ်ခုသာရှိသောကြောင့် ယင်းပရဘောသကို မကုလတောင်ဟု သေချာစွာ ဆိုနိုင်သည်။

ပရဘောသသို့သွားရောက်ရန် ကောသမ္ဗီ၏ တာရိုး (မြေကတုတ်) များကို ဖြတ်သွားသည့်လမ်းသို့ ပြန်လာပြီး ဘယ်ဘက်သို့ ချိုးကွေ့လျက် အနောက်တောင်သို့ လေးကီလိုမီတာခန့် ဆက်သွားပါ။ လမ်းသည် ကတ္တရာခင်းမထားသော်လည်း အခြေအနေမဆိုးပါ။ ပရဘောသသည် ကျေးလက်ဝန်းကျင်ဒေသတစ်ခွင်၌ ထင်ထင်ရှားရှားမြင့်မောက်နေပြီး ကုန်းပေါ်မှ ယမုန်နာမြစ်ကို တွေ့ရသည်။ ယနေ့ခေတ် ‘သီတာ (မင်းသမီးလော)၏ ပြတင်းပေါက်’ ဟုခေါ်သည့် ဂူသည် ဤနေရာသို့ ဗုဒ္ဓရှင်တော်မြတ် ကြွရောက်တော်မူစဉ် သီတင်းသုံးတော်မူခဲ့သည့် နေရာဖြစ်ဖွယ်ရှိသည်။ ရဟန်းတော် ဟူယင်ဆန် မကုလတောင်သို့ လာရောက်ခဲ့စဉ် ဤဂူကို တွေ့မြင်ခဲ့ရကြောင်း၊ ဤဂူအနီး၌ စေတီနှစ်ဆူရှိ

(ရှာဖွေခဲ့သည်)။ ၁၈၆၀–တွင် တရားရုံးအဆောက်အအုံတစ်ခု ဆောက်လုပ်နေစဉ် ရုပ်တုများ၊ ကျောက်လက်ရန်းများ၊ ကျောက်တိုင်များ၊ အဓိဋ္ဌာန်စေတီများနှင့် ကျောက်ထီးများအပါအဝင် ပန်းပုရုပ်တုအများအပြား တွေ့ရှိခဲ့သည်။ အိန္ဒိယ၌ ထုလုပ်ပြီးသမျှတွင် အသပ္ပာယ်ဆုံး ဆင်းတုတော် တစ်ဆူဖြစ်ဖွယ်ရှိသည့် ကျော်ကြားလှသော 'မဓုရာဗုဒ္ဓ (ဆင်းတုတော်)'ကို တွေ့ရှိခဲ့သည်မှာ ဤ(တရားရုံးအဆောက်အအုံ ဆောက်လုပ်သည့်) နေရာတွင်ဖြစ်သည်။ ဤဆင်းတုတော်ကို ယခုအခါ နယူးဒေလီရှိ ရဋ္ဌပတိဘဂဝန်(ပြတိုက်)၌ သိမ်းဆည်းထားပြီး ပြည်သူအများ ဖူးမြော်ခွင့် မရချေ။

မဓုရာမှ လွန်ကဲထူးခြားသည့် ရှေးဟောင်းသုတေသနတွေ့ရှိချက်များအနက် နောက်ဆုံး (တွေ့ရှိမှု)မှာ ၁၉၇၆– ခုနှစ်က မဓုရာ၏ အနောက်ဘက် ရေလှောင်ကန်အနီးတွင် ဖြစ်သည်။ ကုသနနှင့် ဂုတ္တခေတ်မှ များပြားလှသော ပန်းပုလက်ရာ ရတနာများကို တွေ့ရှိခဲ့သည်။ အလွန်သပ္ပာယ်ပြီး (ပန်းပု)ပညာရှင်၏ အမည်ကို ဖော်ပြထားသည်။ ပကတိအရွယ် ဗုဒ္ဓဆင်းတုတော်တစ်ဆူ ပါဝင်(သည်)။ ကံမကောင်းသည်မှာ မဓုရာ၏ များစွာသော စေတီတော်များနှင့် ဘုရားကျောင်းများကို ယနေ့ခေတ်တွင် မတွေ့ရတော့ဘဲ ယင်းတို့အပေါ်၌ ခေတ်သစ်မြို့တော်က လွှမ်းမိုးသွားပြီ ဖြစ်သည်။ မဓုရာ၏ အတိတ်က ခမ်းနားမှုကို ကြည့်ရှုလိုလျှင် မြို့တော်ပြတိုက်သို့ သွားရောက်ရန် လိုအပ်သည်။

## ကြည့်ရှုဖွယ်

### အစိုးရပြတိုက်

အစိုးရပြတိုက်သည် အိန္ဒိယ၏ အကောင်းဆုံးပြတိုက်တစ်ခုဖြစ်သည်မှာ ယုံမှားဖွယ်မလိုဘဲ ဗုဒ္ဓဘာသာဆိုင်ရာ ပန်းပု လက်ရာအများအပြား စုဆောင်းထားမှုကြောင့် (ဤပြတိုက်သည်) ဗုဒ္ဓဘာသာ ဘုရားဖူးများအဖို့ ပိုမို စိတ်ဝင်စား ဖွယ်ကောင်းသည်။ ပြတိုက်ရှိ အသပ္ပာယ်ဆုံး လက်ရာမှာ ပကတိအရွယ် ရုပ်တော်မူ ဗုဒ္ဓဆင်းတုတော် ဖြစ်သည်။ ဤ



ကြောင်း၊ တစ်ဆူကို အသောကမင်းကြီးတည်ခဲ့ပြီး အခြားတစ်ဂူ၌ မြတ်ဗုဒ္ဓ၏ဆံတော်ဓာတ်နှင့် လက်သည်းခွံဓာတ်တော်များ ဌာပနာထားသည်ဟုဆိုသည်။ သို့ရာတွင် ယနေ့ခေတ်၌ အဆိုပါစေတီတော်များ၏ အစအနများကို မတွေ့ရတော့ချေ။ ဂူနံရံ၌ ရေးထွင်းထားသည့် ဖတ်မရတော့သော စာတန်းများက 'ကဿပိယဂိုဏ်းဝင်ရဟန္တာများ' အတွက် တည်ဆောက်ထားသည့် ဂူများဖြစ်ကြောင်း ဖော်ပြသည်။

## ကောသမ္ဗီဝန်းကျင်

### အလာဟာဘတ်ပြတိုက်

ဤပြတိုက်တွင် ကောသမ္ဗီမှတွေ့ရှိခဲ့သည့် ရှေးဟောင်းအုတ်ခွက်များပါသော ဗုဒ္ဓဘာသာဆိုင်ရာ ရှေးဟောင်း ပစ္စည်းများရှိသည်။ ယခုအခါ အလာဟာဘတ်ခံတပ်သို့ ရောက်နေသည့် အသောကကျောက်စာတိုင် ထိပ်ပိုင်းအောက်ခံကိုလည်း (ပြသထားသည်)။ နံနက် ၁၀ နာရီမှ ညနေ ၄း၃၀ (မေလမှ ဇွန်လအတွင်း နံနက် ၇ နာရီမှ မွန်းတည့် ၁၂ နာရီ) အထိ ပြတိုက်ဖွင့်ပြီး ဗုဒ္ဓဟူးနှင့် ပြည်သူအားလပ်ရက်များ၌ ပိတ်သည်။

### ရှေးဟောင်းသုတေသနပြတိုက်၊ ရှေးဟောင်းသမိုင်းဌာနနှင့် အလာဟာဘတ်တက္ကသိုလ်

ဤပြတိုက်တွင် တံဆိပ်များ၊ (ကျောက်)စာများ၊ ပန်းပုလက်ရာများနှင့် ဃောသိတာရုံကျောင်းတော်ရာကို တူးဖော်စဉ်က ရရှိသည့် အခြား(ရှေးဟောင်း)ပစ္စည်းများကို ပြသထားသည်။ နံနက် ၁၀ နာရီမှ ညနေ ၄ နာရီ (မေ ဇွန်တွင် နံနက် ၇ နာရီမှ မွန်းတည့် ၁၂ နာရီ) အထိဖွင့်ပြီး တနင်္ဂနွေနေ့များနှင့် တက္ကသိုလ်အားလပ်ရက်များတွင် ပိတ်သည်။

### သွားရောက်ရန်

အလာဟာဘတ်သည် ဗာရာဏသီမှ ၁၂၂ ကီလိုမီတာအကွာ အရှေ့အနောက်ရထားလမ်းမပေါ်တွင် တည်ရှိသည်။ ပြတိုက်နှင့် တက္ကသိုလ်တို့သည် ဤမြို့အတွင်း ထင်ရှားသည့် နေရာများဖြစ်ကြသည်။

# ၁၂။ မဓုရာမြို့

မဓုရာမြို့သည် အားနည်းချက်(အပြစ်)၅မျိုးရှိ၏။ ယင်းတို့မှာ-မြေပြင်ညီညွတ်မှုမရှိခြင်း၊ မြူမှုန် ထူထပ်ခြင်း၊ ခွေးကြမ်းများ သောင်းကျန်းခြင်း၊ ဘီလူးဆိုးများရှိခြင်း၊ ဆွမ်းကွမ်းရရန် ခက်ခဲခြင်းတို့ ဖြစ်၏ (အံ ၂၊ ၂၂၄)။

ယခုအခါ မထုရာဟု စာလုံးပေါင်း (ခေါ်ဝေါ်)သော မဓုရာသည် ဗုဒ္ဓလက်ထက်တော်အခါက သူရသေနနိုင်ငံ၏ မြို့တော်ဖြစ်ခဲ့ပြီး ယမုန်နာမြစ်ကမ်းပေါ်၌ တည်ရှိသည်။ မဇ္ဈိမဒေသ၏ အပြင်နားတွင်ရှိသဖြင့် ဗုဒ္ဓသည်ပင် မဓုရာသို့ အကြိမ်အနည်းငယ်သာ ကြွရောက်တော်မူခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ်သည် မြေနေရာနှင့်ပတ်သက်၍ အလွန်ကောင်း မွန်သော (နေရာအဖြစ်) ထင်မြင်ချက်ရှိပုံ မရခဲ့ချေ။ အရှင်မဟာကစ္စည်းမထေရ် မဓုရာမြို့သို့ရောက်သောအခါ အရှင်မြတ်သည် ဗြဟ္မဏ(ပုဏ္ဏား)တို့၏ အခြားဇာတ်ရှိသူများထက် သာလွန်ကြောင်းအဆိုကို ငြင်းပယ်ပြီး (မဓုရာ)ဘုရင်အား မဓုရာသုတ္တန် (မ ၂၊ ၂၃၆)ကို ဟောကြားတော်မူသည်။ မြတ်ဗုဒ္ဓနှင့်ရော ဗုဒ္ဓသာဝကများနှင့်ပါ အဓိကပတ်သက်ခြင်း မရှိသော်လည်း မဓုရာသည် နှောင်းပိုင်း ရာစုနှစ်များတွင် ဗုဒ္ဓဝါဒ၏ အချက်အချာ နေရာအဖြစ်သို့ တိုးတက်ခဲ့သည်။ ကုသန(ကုသျှန်)နှင့် ဂုတ္တခေတ်များအတွင်း မဓုရာ၏ ကျောက်ဆစ်သမားများသည် ဒေသဆိုင်ရာ ဘုရားကျောင်းများကိုရော အိန္ဒိယ၏အခြားသောနယ်မြေတွင်းရှိ ဘုရားကျောင်းများကိုပါ တန်ဆာဆင်ရန် အနုပညာလက်ရာ အမျိုးမျိုး အရေအတွက်များစွာကို ထုလုပ်ခဲ့ကြသည်။

ရဟန်းတော် ဖာဟီယန် မဓုရာမြို့သို့ ရောက်သွားသောအခါ ကျောင်းတိုက်ပေါင်း ၂၀ နှင့် ရဟန်းတော်ပေါင်း ၃၀၀၀ ကျော်တွေ့ခဲ့ရသည်။ အရှင်သာရိပုတြာ၊ အရှင်မဟာမောဂ္ဂလ္လာန်နှင့် အရှင်အာနန္ဒာတို့အား ပူဇော်သည့် စေတီတော်များနှင့် ဝိနည်း၊ သုတ္တန်၊ အဘိဓမ္မာကို ပူဇော်သည့် (ဓမ္မ)စေတီများလည်း ရှိသည်။ တစ်နှစ်လျှင် တစ်ကြိမ် သီတင်းကျွတ်ပြီးနောက် မြို့လုံးကျွတ် ပါဝင်ဆင်နွှဲသည့် ဘာသာရေးဆိုင်ရာ ပွဲတော်ကြီးတစ်ခုလည်းရှိသည် ‘ရဟန်းတော်များအားလုံး အစည်း



အဝေးကြီးတစ်ခုသို့ စည်းရုံးရောက်ရှိလာပြီး တရားဟောကြားကြသည်။ ၎င်းနောက် ပန်းမျိုးစုံ အမွှေးနံ့သာမျိုးစုံ လှူဒါန်းဖွယ်ရာတို့ဖြင့် အရှင်သာရိပုတ္တရာ စေတီတော်မြတ်ကြီးအား လှူဒါန်းကြသည်။ တစ်ညလုံး ဆီမီးတိုင်များထွန်းညှိထားပြီး ပါဝင်ဖြေဖျော်ရန်အတွက် စွမ်းရည်ပြည့် ဂီတပညာရှင်များ ခန့်အပ်ထားသည် .. နေရာ အနှံ့မှ ဘိက္ခုနီများကြွရောက်လာကြပြီး အရှင်အာနန္ဒာစေတီတော်၌ အလှူဒါနပြုကြသည်။ အကြောင်းမှာ အရှင်အာနန္ဒာသည် အမျိုးသမီးများ သာသနာ့ဘောင်သို့ ဝင်ရောက်ခွင့်ရရေးအတွက် ဗုဒ္ဓရှင်တော်မြတ်ထံ တောင်းပန်လျှောက်ထားခဲ့သောကြောင့် ဖြစ်သည်။ သာမဏေအများစုသည် များသောအားဖြင့် အရှင်ရာဟုလာ၏ (စေတီတော်)အား လှူဒါန်းကြသည်။ အဘိဓမ္မာတတ်ကျွမ်းသူများက အဘိဓမ္မာ(စေတီ)အား လှူဒါန်းကြပြီး ဝိနည်းတတ်ကျွမ်းသူများက ဝိနယ(စေတီ)အား လှူဒါန်းကြသည်’။ ဟူယင်ဆန်ကလည်း ၎င်းမဓုရာမြို့တွင် သီတင်းသုံးစဉ်အတွင်း ဤပွဲတော်ကို တွေ့ကြုံရကြောင်း ဖော်ပြသည်။ ဟူယင်ဆန်သည် အသောကမင်းကြီး တည်ဆောက်ခဲ့သည့် စေတီတော်များကိုလည်း ဖူးတွေ့ခဲ့ရသည်။

မဓုရာဗုဒ္ဓသာသနာ၏ ရှင်သန်မှုကို ဤမြို့တော်အတွင်းအပြင်၌ နှစ်တစ်ရာကျော်အတွင်း ကောင်းစွာတူးဖော်မှုများက ဗုဒ္ဓဝါဒဆိုင်ရာ ရှေးဟောင်းပစ္စည်းများစွာကို တူးဖော်ရရှိခဲ့သောအချက်က သက်သေခံချက်ရှိသည်။ ၁၈၃၆– ခုနှစ်တွင် ဗိုလ်မှူးကြီး အယ်လ်အာရ် စတက်စီ (L.R. Stacy)သည် ဒူးကွေးရပ်နေသည့် ရင်သားဖော် အမျိုးသမီးရုပ်တုတစ်ခုတွေ့ရှိခဲ့သည်။ ပခုံးပေါ်တွင် ၎က်တစ်ကောင်နှင့် ညာလက်တွင် ၎က်လှောင်အိမ်တစ်ခု (ပါရှိသည်)။ ယခုအခါ ကလာကတ္တား အိန္ဒိယပြတိုက်ရှိ ဤနှစ်သက်ဖွယ် ပန်းပုလက်ရာသည် စိတ်အာရုံကို များစွာဆွဲဆောင်ခဲ့သဖြင့် အပျော်တမ်း ရှေးဟောင်းသုတေသနပညာရှင်များသည် ထပ်မံရရှိရန် ရှာဖွေကြရင်း (မဓုရာမြို့) ပတ်ဝန်းကျင်ရှိ တောင်ကုန်းများကို စတင်တူးဖော်ခဲ့ကြသည်။ ကန်နင်ဟမ်သည် ၁၈၅၃–ခုနှစ်တွင် ဤနေရာကို ရှာဖွေခဲ့ပြီး ၁၈၆၂ နှင့် ၁၈၇၁–ခုနှစ်များတွင် တစ်ဖန်

ကြောင်း သိမြင်ခြင်း၌ အသက်အရွယ်ကြီးရင့်လှပြီးဖြစ်သည့် အရှင်မဟာကဿပသည် တောင်ပေါ်သို့တက်ရန် ရည်ရွယ်လျက် ဝေးလံခေါင်းဖျားလှသည့် တောင်တန်းတစ်ခုသို့ ကြွတော်မူသည်။ လမ်းတွင် ကျောက်နံရံများ ကာဆီးနေသောအခါ ယင်းတို့ကို တောင်ဝှေးတော်ဖြင့် ရိုက်ခတ်တော်မူစဉ် ကျောက်လွှာများ ပွင့်လင်းသွားသဖြင့် အရှင်မြတ်သည် အခြားတစ်ဘက်သို့ ကြွရောက်တော်မူသည်။ တောင်ထိပ်ပေါ်သို့ ရောက်ရှိသွားသောအခါ နောက်ထပ်ဂူကြီးတစ်ခု ပွင့်လင်းသွားသည်။ အရှင်မဟာကဿပသည် ယင်းဂူကြီးထဲသို့ ကြွဝင်တော်မူလျက် ဈာန်သမာပတ် ဝင်စားတော်မူသည်။ ယင်းနောက် ကျောက်တုံးများသည် အရှင်မြတ်၏ပတ်လည်၌ ပိတ်ဖုံးသွားသည်။ အဆိုပါဝတ္ထု၌ နိဂုံးချုပ် ဖော်ပြထားသည်မှာ ဝေးကွာလှသည့် အနာဂတ်တစ်ချိန် ကမ္ဘာပေါ်၌ မေတ္တေယျဘုရားရှင် ပွင့်တော်မူသောအခါ ဤဘုရားရှင်သည် ဤတောင်ကုန်းပေါ်သို့ ကြွလာတော်မူပြီး အရှင်မဟာကဿပအား ဈာန်သမာပတ်မှ ထစေတော်မူလျက် အရှင်မဟာကဿပထံမှ (ဂေါတမ) ဘုရားရှင်၏ နှစ်ထပ်သင်္ကန်းကို လက်ခံ ရယူတော်မူပြီးနောက် သာသနာတော်အသစ်ကို ဟောကြားတော်မူရန် ထိုနေရာမှ ထွက်ခွာတော်မူမည်ဟူ၍ ဖြစ်သည်[၂၇]။ ဤဖြစ်ရပ်များ ဖြစ်ပေါ်ခဲ့ပြီး ဖြစ်ပေါ်ဦးမည့်နေရာကို ဂုရုပါဒဂိရိ (ဆရာ့ခြေရာ တောင်ကုန်း) သို့မဟုတ် ချွန်မောက်တောင် ထွတ်သုံးခုမှာ ကြက်ခြေနှင့် သိသိသာသာတူနေသဖြင့် ကုက္ကုဋပါဒဂိရိ (ကြက်ခြေတောင်ကုန်း) ဟု အများကခေါ်တွင်ကြသည်။

ကုက္ကုဋပါဒဂိရိသည် မကြာမီ ရသေ့ရဟန်း သူတော်စင်များ၏ နေရာအဖြစ် ထင်ရှားကျော်ကြားလာသည်။ ကုက္ကုဋပါဒဂိရိနှင့် ပတ်သက်သည့် မှတ်တမ်းတစ်ခု၌ ဖတ်ရှုရသည်မှာ ‘ထို(အိန္ဒိယ)နိုင်ငံနှင့် အခြားနိုင်ငံများမှ ဗုဒ္ဓဘာသာဝင် ဘုရားဖူးများသည် အရှင်မဟာကဿပအား

[၂၇] သံယုတ်အဋ္ဌကထာ (သံ–ဋ္ဌ ၂။ ၁၈၃) အလိုအရမူ ဗုဒ္ဓရှင်တော်မြတ် အရှင်မဟာကဿပနှင့် နှစ်ထပ်သင်္ကန်းချင်း လဲလှယ်ရခြင်းမှာ မိမိ (ဗုဒ္ဓရှင်တော်မြတ်)မရှိသည့် နောက်တွင် အရှင်မြတ်အား မိမိနေရာ၌ ထားတော်မူလို၍သာ ဖြစ်သည်။



ဆင်းတုတော်သည် အေဒီ၄ါးရာစုအလယ်ပိုင်းလက်ရာဖြစ်ပြီး အောက်ခြေ(ပလ္လင်)ရှိ စာတန်းတွင် ယသဒိန္နအမည်ရှိ ရဟန်းတော်က လှူဒါန်းခဲ့ကြောင်း ဖော်ပြထားသည်။ ယခုအခါ ပျောက်ဆုံးနေပြီဖြစ်သည့် ညာလက်တော်သည် ကြောက်ရွံ့မှု ကင်းမဲ့ခြင်း (အဘယမုဒြာ)ဟန်ဖြင့် မြှောက်ချီထားပြီး ဘယ်လက်တော်မှာမူ သင်္ကန်းစွန်းကို ကိုင်စွဲထားသည်။ ခါး တွင်ပတ်ထားသည့် ခါးပတ်တော်ကို သင်္ကန်းအောက်တွင် မြင်တွေ့နိုင်ပြီး အပေါ်ရုံ(သင်္ကန်း)ပေါ်လွင်ပြီး တစ်ဝက် ပေါ်နေသည်။ ဥပါသကာ နှစ်ယောက်သည် မြတ်ဗုဒ္ဓခြေထောက်တော်၏ အခြားတစ်ဘက်တွင် ဝပ်တွားဒူးထောက်နေကြသည်။ (ဗုဒ္ဓဆင်းတုတော်၏) လက်တော်၊ မျက်နှာတော်နှင့် ရောင်လျှံစက်ဝန်းတို့ကို အလွန်သိမ်မွေ့စွာ ထွင်းထုထားပြီး ဆင်းတုတော်တစ်ခုလုံးအား သရုပ်မှန်သဘောတရားဖြင့် ဖော်ပြထားသောကြောင့် အိန္ဒိယပန်းပုလက်ရာများအနက် ထူးခြားသည်။

အခြားလှပသည့် ပန်းပုလက်ရာမှာ မဓုရာမှ ကီလိုမီတာ အနည်းငယ်အကွာရှိ ကာထြ(အရပ်)မှ တွေ့ရှိသည့် ထိုင်တော်မူဗုဒ္ဓဆင်းတု ဖြစ်သည်။ လုံးဝ အပြည့်အစုံ ထိန်းသိမ်းထားသည့် ဤဆင်းတုတော်သည် ခြင်္သေ့သုံးကောင် ခံထားသည့် အခြေ(ပလ္လင်)တွင် တင်ပလ္လင်ခွေ ထိုင်နေသည်။ အေဒီနှစ်ရာစုလက်ရာဖြစ်ပြီး အခြေ၌ ရေးထွင်းထားသည့် စာတန်းအရ ဗုဒ္ဓဘာသာဘိက္ခုနီ ‘အမောဟအသိ’သည် ‘သတ္တဝါ အားလုံး၏ ကောင်းကျိုးချမ်းသာအတွက်’ လှူဒါန်းခဲ့ကြောင်း မှတ်တမ်းတင်ထားသည်။ သရဖူဆောင်း ဥပါသကာနှစ်ယောက်သည် ဗုဒ္ဓ၏နောက်ဖက်မှ ချောင်းကြည့်နေကြသည်။ ဘယ်ဘက်တစ်ယောက်က ရတနာသပိတ်ကို ပိုက်ထားပြီး ညာဘက်တစ်ယေက်က တောင်းပန်သည့်ဟန်ဖြင့် လက်တစ်ဘက်ကို မြှောက်ချီထားသည်။ နတ်ဒေဝါ နှစ်ယောက်ကား ရောင်လျှံစက်ဝန်း၌ ပျံဝဲနေကြသည်။ ဗုဒ္ဓဦးခေါင်းတော်၏ နောက်ဘက်တွင် ဗောဓိညောင်ရွက်နှင့် အကိုင်းများကို ရှင်းလင်းစွာ တွေ့နိုင်သည်။ ဗုဒ္ဓ၏မျက်လုံးတော်များမှာ ပွင့်နေပြီး ဒူးပေါ်တွင် ခိုင်မြဲစွာတင်ထားသည့် ဘယ်ဘက်လက်မှာ လုံ့လဝီရိယနှင့် နိုးကြားမှုကို သရုပ်ဖော်သည်။

သမိုင်းအရဆိုသော် ပြတိုက်ရှိ အရေးအပါဆုံးသော ပန်းပုလက်ရာမှာ ဘုရင်ကနိသျှက၏ ဘေးစောင်းပုံဖြစ်သည်။ ရှေးဟောင်းအိန္ဒိယ၏ မပျက်မစီး ကျန်ရစ်ခဲ့သော တစ်ခုတည်းသော သမိုင်းဝင်ပုဂ္ဂိုလ်ရေး ဘေးစောင်းပုံဖြစ်သည်။ ဦးခေါင်း(ပုံ) မရှိတော့သော်လည်း ပြန့်ကားသောခြေထောက်၊ ကျိုင်းကိုကိုင်ထားသည့် ဘယ်လက်နှင့် သန်လျက်ကိုစွဲကိုင်ထားသည့် ညာလက်တို့က ဘုရင်ကနိသျှကအား အပြစ်ကင်းသည့် ရောဇ်တစ်ယောက် မဟုတ်ကြောင်း ရှင်းလင်းစွာဖော်ပြသည်။ ရုပ်ထုအောက်ခြေရှိ စာတန်းတွင် 'မဟာရာဇာ မင်းတကာတို့၏မင်း နတ်ဒေဝါတို့၏သား ဖြစ်သူ ကနိသျှက'ဟု ပါရှိသည်။ စစ်မှုရေးရာကြွယ်ဝသူဖြစ်ကြောင်း ဤဘေးစောင်းပုံက ဖော်ပြသော်လည်း ကနိသျှကသည် အနုပညာချစ်မြတ်နိုးသူဖြစ်သည့်ပြင် ဗုဒ္ဓသာသနာတော် တိုးတက်ပြန့်ပွားအောင် ဆောင်ရွက်ရာ၌ အသောကမှတစ်ပါး အခြားအားလုံးသော အိန္ဒိယမင်းများထက် သာလွန်ခဲ့သည်။

အစိုးရပြတိုက်ကို နံနက် ၁၀း၃၀ မှ ညနေ ၄း၃၀ ထိ ဖွင့်ပြီး တနင်္လာနေ့များ၌ ပိတ်သည်။ မေ ၁၆ နှင့် ၃၀–ရက် များအတွင်း ဖွင့်ချိန်မှာ နံနက် ၇း၃၀ မှ မွန်းလွဲ ၁၂း၃၀ အထိဖြစ်သည်။

### သွားရောက်ရန်

မဓုရာ (မထုရာ)သည် ဒေလီမှ ၁၄၅ ကီလိုမီတာ ဝေးပြီး အဂရာမြို့မှ ၅၈–ကီလိုမီတာဝေးသည်။ ယင်းမြို့တော် နှစ်ခုအကြား ဆက်သွယ်ထားသည့် အဝေးပြေးကားလမ်းနှင့် ရထားလမ်းပေါ်တွင် (ရှိသည်)။ အစိုးရပြတိုက်သည် ရထားဘူတာမှ တစ်ကီလိုမီတာခန့်ဝေးသည်။

## ၁၃။ ကုက္ကုဋပါဒဂိရိ

ဤကျောက်တောင်များသည် ရွှေ့လျားနေသော နက်ပြာရောင် မိုးတိမ်အထွတ်များပမာ ခမ်းနားသည့် အဆောက်အအုံများကဲ့သို့ ဖြစ်ချေ၏။ ဆင်ပြောင်၏ တွန်မြည်သံဖြင့် လေထုကိုပြည့်စေသည့်နေရာ ဤကျောက်တောင်တန်းတို့ကား ငါ့နှလုံးကို နှစ်သက်စေပါ၏ (ထေရဂါထာ၊ ၁၀၆၅–ဂါထာ)။

ဗုဒ္ဓရှင်တော်မြတ်၏ အကျော်ကြားဆုံးနှင့် အရေးအပါဆုံး တပည့် သာဝကများအနက် တစ်ပါးမှာ အရှင်မဟာကဿပ ဖြစ်သည်။ ဝါသနာအရ ခြိုးခြံပြီး အကြိုက်စရိုက်အရ တင်းကြပ်တော်မူသော အရှင်မြတ်သည် ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက် ပထမသံဂါယနာကို ဦးဆောင်ကျင်းပတော်မူလျက် မြတ်ဗုဒ္ဓ၏ (တာဝန်ကို) ဆက်ခံသူအဖြစ် ထင်ရှားတော်မူသည်။ အခြားရဟန်းတော်များ ကျောင်းတိုက်များ၌ သီတင်းသုံးနေထိုင်ပြီး လူဥပါသကာများနှင့် ဆက်သွယ်မှုရရှိကြစဉ်တွင် အရှင်မဟာကဿပမူကား (တောနေ)ရဟန်းဘဝကိုသာ ပိုမိုနှစ်သက်တော်မူလျက် အချိန်များစွာကို သစ်တောများ၊ တောင်ကုန်းများ၌ တစ်ကိုယ်တည်း ကုန်လွန်တော်မူသည်။ ပိဋကတ်သုံးပုံနှင့် ရှေးဟောင်း အဋ္ဌကထာကျမ်းကြီးများ၌ အရှင်မဟာကဿပအကြောင်းများစွာပါရှိသော်လည်း အရှင်မြတ်သည် မည်သည့်နေရာတွင် မည့်သည့်အချိန်က မည်သို့မည်ပုံ ပရိနိဗ္ဗာန်စံလွန်တော်မူခဲ့ကြောင်း တစ်စွန်းတစ်စမျှ ဖော်ပြထားခြင်းမရှိ သည်မှာ ထူးခြားလှသည်။

သို့ရာတွင် သဗ္ဗတ္ထိဝါဒဂိုဏ်း ဝိနယပိဋကနှင့် ဒိဗျာဝဒါနကဲ့သို့သော ရှေးဟောင်းစာပေများ၌မူ ဤဖြစ်ရပ်ကို ဖော်ပြကြသည်။ ပရိနိဗ္ဗာန် စံတော်မမူမီ ဗုဒ္ဓရှင်တော်မြတ်သည် မိမိ၏နှစ်ထပ်သင်္ကန်းတော်ကို အရှင်မဟာကဿပ၏ နှစ်ထပ်သင်္ကန်းနှင့် လဲလှယ်တော်မူသည်[၂၇]။ နောက်ထပ် နှစ်နှစ်ဆယ်ကြာမြင့်ပြီးနောက် မိမိပရိနိဗ္ဗာန် စံလွန်ချိန် နီးကပ်နေ

[၂၇] ဤအကြောင်းအရာကို ထေရဝါဒပိဋကတ်တော် (သံ ၁၊ ၄၀၅) ၌လည်း ဖော်ပြထားသည် (ဘာသာပြန် သူ)။

ပြင်၌ ခြေရာနှစ်စုံပါသည့် ကျောက်တုံးတစ်တုံးရှိပြီး ယင်းအပေါ်၌ ဆယ်ရာစုကျောက်စာများ ရေးထွင်းထားသည်။ ရှေးခေတ် ဗုဒ္ဓဘာသာဝင်များက ယင်းခြေရာတော်များမှာ အရှင်မဟာကဿပ၏ ခြေရာတော်များဖြစ်သည်ဟု ယုံကြည်ကြပြီး ယခုခေတ်ဒေသခံများကမူ ယင်းတို့မှာ တောင်စောင့်နတ်သမီး၏ ခြေရာများဖြစ်သည်ဟု ယုံကြည်ကြသည်။ ဘုရားကျောင်းများ၏ရှေ့တွင် မညီမညာ ခုတ်ဖြတ်ထားသည့် ကျောက်တုံးဖြင့် တည်ဆောက်ထားသည့် လေးထောင့်ပုံ ရောမအဆောက် အအုံကြီးတစ်ခု၏ အုတ်မြစ်များရှိသည်။ ယင်းသည် အဇာတသတ်မင်းတည်ဆောက်ခဲ့သည်ဆိုသော ကျော်ကြားထင်ရှားလှသည့် ကုက္ကုဋပါဒဂိရိ စေတီ၏အကြွင်းအကျန်များ ဖြစ်ဖွယ်ရှိသည်။ မေတ္တေယျဘုရားလောင်း၏ ရုပ်တုများ၌ အမြဲတမ်းသရဖူဆောင်း၍ သရုပ်ဖော် ထားသည်မှာ ဤစေတီတော်၌ ဖြစ်သည်။ အဆိုပါဟိန္ဒူဘုရားကျောင်းတန်း၏ နောက်ဘက်တွင် ပလ္လခေတ်လက်ရာ လှပသပ်ရပ်စွာ ထွင်းထုထားသည့် ကျောက်စေတီသုံးဆူ ရှိသည်။ ဂုရပတောင်ထိပ်မှ ရှုမြော်ခင်းမှာ အလွန်သာယာသည်။ အရှေ့နှင့် အနောက်ဘက်များ၌ ဂုရပ၏ အခြားတောင်ထွတ် နှစ်ခုရှိပြီး မြောက်ဘက်တွင် ဗိဟာပြည်နယ်၏ စိုက်ပျိုးကွင်းများရှိလျက် တောင်ဘက်၌မူ တောတန်းများ တစ်မျှော်တစ်ခေါ် မျက်စိတစ်ဆုံး ဝေးလံရှည်လျားလှသည်။

## သွားရောက်ရန်

ဂယာမှ မြစ်ကိုဖြတ်သည့် တံတားသစ်ဖြင့် ဖာတိပူရမြို့မှတစ်ဆင့် ဖာတိပူရလမ်းအတိုင်း ဂုရပ ရွာသို့သွားပါ။ လမ်းမှာ ကတ္တရာခင်းထားသော်လည်း ဖာတိပူရအထိ လမ်းကြမ်းပြီး ယင်းမြို့လွန်လျှင် ကတ္တရာမရှိတော့ချေ။ စုစုပေါင်း ၃၃–ကီလိုမီတာခန့် ဝေးသည်။ ဂုရပ ရွာသို့ ဘတ်စ်ကားများမရှိသဖြင့် မော်တော်ယာဉ်ငှားရန် လိုအပ်သည်။ ဂုရပ ရွာမှ ရထားလမ်းကို ဖြတ်လျက် ဂုရပတောင်သို့သွားသည့် လမ်းများ အနက် တစ်ခုကိုယူ၍ ခြေကျင်ဆက်သွားရသည်။



ရှိခိုးပူဇော်ကြရန် နှစ်စဉ်လာရောက်ကြသည်။ တစ်စုံတစ်ယောက်သည် ယုံမှားမှု(သံသယ) ဖိစီးနှိပ်စက်နေလျှင် ရဟန္တာ သူတော်စင်များ၏ အောက်ရှိ နေနတ်သားများ တိုက်ရိုက်ရောက်ရှိလာကြပြီး ဘုရားဖူးများအား တရားဒေသနာ ဟောကြားလျက် ၎င်းတို့(ဘုရားဖူးများ)၏ သံသယနှင့် အခက်အခဲများကို ရှင်းပြပြီးနောက် အလျင်အမြန် ပျောက်ကွယ်သွားကြသည်’။ ဤတောင်ကုန်းပေါ်၌ နေထိုင်သွားခဲ့ကြသော ထင်ရှားသူ ပုဂ္ဂိုလ်များစွာအနက် နှစ်ဦးမှာ အစောဆုံးဗုဒ္ဓဘာသာ သူတော်စင် **သာဏဝတ္ထိက** အမည်ရှိပုဂ္ဂိုလ်နှင့် မဟာယာနတွေး ခေါ်ရှင် အသင်္ဂတို့ဖြစ်သည်။ ဖာဟီယန်ရော ဟူယင်ဆန်ပါ နှစ်ဦးလုံး ဤနေရာသို့ ကြွရောက်ခဲ့ကြပြီး ဟူယင်ဆန်သည် ယနေ့တိုင် မှန်ကန်နေဆဲဖြစ်သည့် ကုက္ကုဋပါဒဂိရိအကြောင်း ဖော်ပြချက်တစ်ရပ်ကို ရေးသားခဲ့သည် ‘ဤတောင်၏နံရံများသည် မြင့်မားပြီး ကြမ်းတမ်း၏။ ချိုင့်ဝှမ်းလျှိုမြောင်များမှာ (တစ်ဘက်မှ အခြားတစ်ဘက်သို့) မထွင်းဖောက်နိုင်ချေ။ ကျယ်လောင်သည့် (အသံဖြင့်) ရေအယဉ်များ တောင်နံရံအောက်ခြေသို့ စီးဆင်းကြ၏။ ထူထဲသော တောနက်များက ချိုင့်ဝှမ်းများကို ပိတ်ဖုံးထား၏။ နက်ရှိုင်းတောင်ဝှမ်း၏ မြင့်မားသော နေရာများတစ်လျှောက်တွင် တွန့်လိမ်နေသည့် ချုံပုတ်များ ပေါက်ရောက်နေကြ၏။ မတ်စောက်သော အထွတ်သုံးခုကား လေထဲသို့ မြင့်တက်နေ၏။ တောင်ထွတ်ထိပ်များတွင် နတ်ဘုံမှရေခိုးရေငွေ့များ ပတ်ရံနေ၏။ တောင်ထွတ်များ၏ အသွင်သဏ္ဌာန်သည် မိုးတိမ်တိုက် အတွင်း ပျောက်ဆုံးကုန်သည်’။ မဟာကဿပတောင်အကြောင်း ဗုဒ္ဓဘာသာ အစဉ်အလာစာပေများ၌ တွေ့ရသည်။ နောက်ဆုံးတစ်ခုမှာ အေဒီ ခြောက်ရာစုအတွင်းက ဤတောင်ကုန်းသို့ ခေတ္တခဏရောက်ရှိခဲ့သူ မဟာခရီးသည်ကြီး ဗုဒ္ဓဂုတ္တ၏အတ္ထုပ္ပတ္တိ၌ ဖော်ပြထားချက်ဖြစ်သည်။

၁၉–ရာစုအတွင်းက ကုက္ကုဋပါဒဂိရိကို အကြိမ်များစွာ ကြိုးစား၍ ရှာဖွေခဲ့ကြသည်။ ကန်နင်ဟမ်က ကုရကိဟာရ ရွာအနီးရှိ တောင်ကုန်း နိမ့်တစ်ခုဖြစ်နိုင်သည်ဟု ထင်မှတ်ခဲ့ပြီး အောရယ်စတိန်း (Aurel Stein)

ကမူ ကုရကိဟာရ၏ အနောက်တောင်ဖက် ခြောက်ကီလိုမီတာခန့် အကွာရှိ သောဘနာထ (Sobnath)တောင်ကုန်းဖြစ်သည်ဟု ယူဆခဲ့သည်။ သို့ရာတွင် ယင်းနှစ်ရပ်လုံးမှာ လက်ခံနိုင်လောက်သည့် မှန်းဆချက်များမဟုတ်ချေ။ နောက်ဆုံး ၁၉၀၆–ခုနှစ်၌ အာရ်ဒီ ဘနာဂျီး (R. D. Banerjee)အမည်ရှိပုဂ္ဂိုလ်သည် ကုက္ကုဋပါဒဂိရိအကြောင်း ရှေးခေတ်မှတ်တမ်းများနှင့် များစွာ ထပ်တူညီခဲ့သော ဂုရပ(Gurpa)ခေါ်သည့် ဂယာအရှေ့တောင်ဖက်မှ တောင်ကုန်းတစ်ခုကို တွေ့ရှိခဲ့သည်။ ဤဂုရပ အမည်မှာ ဤတောင်မြတ်၏ အမည်ရှည် ဂုရုပါဒ၏ အတိုကောက်ဖြစ်သည်။ ဤနေရာတွင် ဗုဒ္ဓဘာသာဆိုင်ရာ ရှေးဟောင်းပစ္စည်းများ တွေ့ရှိရပြီး ရှေးခေတ်ဘုရားဖူးများ ဖော်ပြထားသည့်ဂူများ၊ လှိုဏ်မြောင်ကြားများနှင့် တောင်ထွတ်များအားလုံးကို ဤတောင်၌ တွေ့ရှိရသည်။ ယခုအချိန်၌ ဂုရပသည် ထူထပ်သည့် သစ်တောများဖြင့် ပတ်ဝန်းထားသောကြောင့် မြတ်ဗုဒ္ဓလက်ထက်တော်ကအတိုင်း ရှုမြင်ရသည်နှင့် များစွာတူညီနေဆဲဖြစ်သော မဇ္ဈိမဒေသရှိ ဗုဒ္ဓဝင်နေရာတော် အနည်းငယ်အနက် တစ်ခုဖြစ်သည်။

## ကြည့်ရှုဖွယ်

### ဂုရပ (Gurpa) တောင်

မီတာ ၃၀၀–ခန့်မြင့်သည့် ဂုရပတောင်သည် ဂင်္ဂါဖြစ်ဝှမ်းဒေသအတွင်းရှိ အမြင့်ဆုံး တောင်များ၌ ပါဝင်သည်။ ဘုရားဖူးသည် တောင်ခြေသို့ ရောက်ရန် ဂုရပရွာမှ တစ်ကီလိုမှတာခန့်ရှည်လျားသော သစ်တောကို လမ်းလျှောက်၍ ဖြတ်သန်းရသည်။ တောင်ခြေမ ခြေကျင်လူသွားလမ်းကြမ်းဖြင့် တောင်ထိပ်သို့တက်ရသည်။ နာရီဝက်ခန့် ကြိုးစား၍တက်ပြီးနောက် ဘုရားဖူးသည် ကျောက်တုံးကြီးများရှိရာ ကျောက်ထူထပ်သည့် ဟင်းလင်းပြင်နေရာ ကွက်လပ်တစ်ခုသို့ ရောက်ရှိသွားသည်။ ကျောက်တောင်ကြီး နှစ်ခုအကြား၌ ကြည်နက်သောရေရှိသည့် ရေလှောင်ကန်တစ်ခုရှိသည်။ လူသွားလမ်းသည် နောက်ဆုံး၌ ကျောက်တောင် ချောက်ကမ်းပါးကြီး အခြေသို့ ရောက်သွားသည်အထိ အပေါ်



ဘက်သို့ ကွေ့ဝိုက်၍ တက်သွားသည်။ ညာဘက်၌ ဖြတ်မသွားနိုင်သည့် ဂူတစ်ခုရှိပြီး ဘယ်ဘက်တွင် ချောက်ကမ်းပါး အောက် ခြေမှ အပေါ်ထိပ်သို့ ရောက်သွားသည့် ကျောက်တောင်အက်ကြောင်း လမ်းကျဉ်းရှိသည်။ ဤတောင်ကုန်းနေရာသည် အစဉ်အလာပြောဆိုချက်အရ အရှင်မဟာကဿပမထေရ်ကြီး ကျောက်တောင်ကို တောင်ဝှေးဖြင့် ရိုက်ခတ်စဉ် အရှင်မြတ် တစ်ဘက်သို့ ဖြတ်ကျော်သွားနိုင်အောင် ပွင့်သွားခဲ့သောနေရာ ဖြစ်မည်ဟုယူဆရသည်။ ဤကျောက်တောင်ကြားသို့ဝင်လျက် မီတာ ၇၀–ခန့် ရှေ့သို့ဆက်သွားခြင်း၌ ဘုရားဖူးသည် ညာဘက်သို့ ချိုးကွေ့လိုက်ပါက လုံးဝမှောင်မည်းနေသော ဂူတစ်ခုထဲသို့ ရောက်သွားသည်။ လက်နှိပ်ဓာတ်မီးပါလျှင် ရှေ့သို့ ပိုမို လွယ်ကူစွာ ဆက်သွားနိုင်ပါလိမ့်မည်။ ယင်းဂူသည် အခြားဂူတစ်ခု၏အဝင်သို့ ကျောက်တုံးများကို ဖြတ်၍ ရောက်သွားသည့် ငေါထွက်နေသော ချောက်ကမ်းပါးစွန်းဆီ ရောက်သည်ထိ ဟင်းလင်းပွင့်နေသည်။ ဤ(အခြား)ဂူမှာ ကျောက်တုံးအရှင်တစ်ခုကို ဖြတ်ထွင်းထားသော ရေလှောင်ကန်၏အစွန်းရှိ ရှုမငြီးဖွယ် ရေတံခွန်၌ ဆုံးသွားသည်။ ကုက္ကုဋပါဒဂိရိသို့ ရဟန်းတော် ဖာဟီယန် ရောက်သွားသောအခါ ၎င်းအား အရှင်မဟာကဿပ ရေချိုးလေ့ရှိခဲ့သည်ဟု (ဒေသခံတို့) ပြောပြသော ရေကိုတွေ့ရပြီး ဘုရားဖူးများသည် ဆေးဘက်ဝင်ပစ္စည်းဟု ယူဆ၍ ယင်းရေမှ ရွှံ့ညွန်များကို ယူကြသည်။ ဖာဟီယန် ရည်ညွှန်းခဲ့သည်မှာ ဤရေလှောင်ကန်လား သို့တည်းမဟုတ် တောင်မှစီးဆင်းသော နောက်ထပ်(အခြား) ကျောက်ရေကန်တစ်ခုလားဟူသည်မှာ မရှင်းလင်းပေ။

ဂူဝင်ပေါက်သို့ လာလမ်းအတိုင်းပြန်လာပြီး ဆက်၍အပေါ်သို့တက်သွားလျှင် ဘုရားဖူးသည် မကြာမီ တောင်ထွတ်ပေါ်သို့ ဆိုက်ရောက်သွားသည်။ ယင်းတောင်ထိပ်ပေါ်၌ ခပ်ကြမ်းကြမ်း တည်ဆောက်ထားသော ဟိန္ဒူဘုရား ကျောင်းတန်းရှိသည်။ ဗုဒ္ဓဆင်းတုတော်တစ်ဆူ၊ တာရာရုပ်တုတစ်ခုနှင့် ပန်းပုရုပ်ထွင်းကျောက်တုံး အပိုင်းအစ များစွာကို နံရံ၌ အင်္ဂတေဖြင့် ကပ်ထားသည်။ နောက်ဆုံးဘုရားခန်း၏ ကြမ်း

ပြီးပြီ၊ သို့မ ဟုတ် ဤကား မကောင်းမှုတည်း”ဟု ပြောဆိုလျက် မိမိ၏ မကောင်းသောအပြုအမူများကိုမူ မမြင်တတ်ကြချေ။ သို့ရာတွင် ဤ(မိမိ၏မကောင်းသော အခြေအနေ)ကိုကား မြင်ရန် ခဲယဉ်းလှ၏။ တစ်စုံတစ်ယောက်သည် ဤသို့တွေးမြင်သင့်၏ ‘‘ဤကား မကောင်းမှုသို့၊ ခက်ထန်ခြင်းသို့၊ ရက်စက်မှုသို့၊ စိတ်ဆိုးအမျက်ထွက်ခြင်းသို့၊ ထောင်လွှားခြင်းသို့၊ ငြူစူ စောင်းမြောင်းခြင်းသို့ ပို့ပေးတတ်သောအရာများ ဖြစ်ချေ၏။ ထို (မကောင်းမှု) ကိစ္စများဖြင့် မိမိကိုယ်ကိုမိမိ မပျက်စီးစေသင့်”ဟု ဆင်ခြင်သင့်၏။ ထို့ပြင်လည်း တစ်စုံတစ်ယောက်သည် ဤသို့ ဆင်ခြင်ရမည် ‘‘ဤအမှုသည်ကား ဤဘနောင်ဘဝ ချမ်းသာသုခကို ရရှိစေ၏” (ဟု ဆင်ခြင်ရမည်)။

‘နတ်တို့ ချစ်မြတ်နိုးခြင်းခံရသူ (မင်းကြီး)က ဤသို့မိန့်မြွက်၏ – ဤဓမ္မပြန်တမ်းကို ငါ၏နန်းစံနှစ် ၂၆–နှစ် မြောက်တွင် ရေး(ထွင်း)၏။ ငါ၏ ရဇ္ဇုက(မင်းမှုထမ်း)များသည် လူသားတို့အကြား၊ ရာပေါင်း ထောင်ပေါင်း များစွာသော လူများအကြား လုပ်ကိုင်ဆောင်ရွက်နေကြ၏။ အသနားခံစာများ၊ တရားရုံးချုပ်ရေး (ဆိုင်ရာ) ကြားနာမှုများကို ၎င်း(ရဇ္ဇုက)တို့အတွက် ထားခဲ့ပြီးဖြစ်၏။ (ဤသည်မှာ) ၎င်းတို့အနေဖြင့် မိမိတို့၏တာဝန်ကို ယုံကြည်စိတ်ချစွာ မကြောက်မရွံ့ ဆောင်ရွက်နိုင်ရန်နှင့် နိုင်ငံတော်အတွင်းရှိ လူထုတစ်ရပ်လုံး၏ ကောင်းကျိုးချမ်းသာနှင့် အကျိုးကျေးဇူးတို့အတွက် (ဖြစ်၏)။ သို့ရာတွင် ၎င်း(ရဇ္ဇုက)တို့သည် ချမ်းသာဆင်းရဲကို ဖြစ်ပေါ်စေသောအရာကို သတိရရမည်။ ၎င်းတို့ကိုယ်တိုင် ဓမ္မကို မြတ်နိုးကြလျက် နိုင်ငံတော်အတွင်းရှိ လူအပေါင်းအား (ထိုနည်းအတူ ပြုမူစေရန်) အားပေးတိုက်တွန်းရမည်။ ဤသို့ဖြင့် ၎င်းတို့အားလုံး ဤဘဝ နောင်ဘဝချမ်းသာကို ရရှိနိုင်မည်ဖြစ်၏။ ယင်းရဇ္ဇုကတို့သည် ငါ့အား အလုပ်အကျွေးပြုရန် စိတ်အားထက်သန်ကြ၏။ ယင်း(ရဇ္ဇုက)တို့သည် ငါ့ဆန္ဒကို သိကြကုန်သော၊ ငါ နှစ်သက်စေ

## ၁၄။ လောရိယနန္ဒာနဂရမြို့

လောရိယနန္ဒာနဂရမြို့ငယ်သည် ဗုဒ္ဓရှင်တော်မြတ်နှင့်ပတ်သက်ကြောင်း လူသိမများသော်လည်း ယင်းမြို့နယ်အတွင်းရှိ အမှတ်တရပစ္စည်းများကိုကြည့်ပါက ယင်းမြို့သည် ရှေးခေတ်ဗုဒ္ဓဘာသာဝင်များအဖို့ အထူးကြီးကျယ်ခမ်းနားသည့် (နေရာ)တစ်ခုဖြစ်ခဲ့မည်မှာ သေချာသည်။ မြို့ပတ်ဝန်းကျင်တွင် မြက်ထူထပ်သည့် တောင်တန်း ၂၀–ခန့်ရှိပြီး တစ်ခုမှာ အရှေ့မှအနောက်သို့ ထိုးထွက်နေပြီး အခြားတစ်ခုမှာ မြောက်မှတောင်သို့တန်းနေလျက် တစ်ခုနှင့်တစ်ခု မျဉ်းပြိုင်အနေအထား ဖြစ်သည်။ ယင်းတောင်ကုန်းများမှာ ရှေးဟောင်းစေတီတော်ရာများ ဖြစ်နိုင်သည်။ ယင်းတို့ကို တူးဖော်ချက်များအရ မြေအိုးအကျိုးအပဲ့များ၊ မီးကျွမ်းအရိုးများ ပေါ်ထွက်လာပြီး အခြားတူးဖော်ချက်တစ်ခုတွင် ရွှေချောင်းဖြင့် ပြုလုပ်ထားသော လူသားပုံစံငယ်တစ်ခုရရှိသည်။ စေတီတော်များ၌ ပြုပြင်တည်ဆောက်ထားသော သွင်ပြင်အနေအထားများ မတွေ့ရသဖြင့် ယင်းစေတီများမှာ အလွန်ရှေးကျကြောင်း ဖော်ပြလျက်ရှိသည်။ ထို့ပြင် ဗုဒ္ဓဘာသာဝင်များ စိတ်ဝင်စားဖွယ်ဖြစ်သည့် လောရိယနန္ဒာနဂရမြို့ရှိ အခြားတောင်ကုန်းနှစ်ခု ရှိသေးသည်။

### ကြည့်ရှုဖွယ်

**အသောကကျောက်စာတိုင်**

အသောကမင်းတရားကြီးသည် မူလက ကျောက်စာတတိုင်လုံးရေ ၄၀–ခန့်စိုက်ထူခဲ့ကြောင်း ယုံကြည်ရသော်လည်း ယင်းတို့အနက်မှ အနည်းငယ်သာ မပျက်စီးဘဲ ကျန်ရှိနေသေးသည်။ အချို့မှာ မိုးကြိုးခပြီး အချို့မှာ လဲကျကျိုးပျက် ကုန်ကြသည်။ အချို့မှာမူ အခြားနေရာသို့ ဆွဲယူခြင်းခံရပြီး ဆန်ချီကျောက်စာတိုင်ကဲ့သို့သော အချို့မှာ အခြား ရည်ရွယ်ချက်အမျိုးမျိုးဖြင့် အသုံးပြုရန် ချိုးဖျက်ခြင်းခံခဲ့ရသည်။ လောရိယနန္ဒာနဂရမြို့ရှိ ကျောက်စာသည်သာလျှင် ကျောက်စာတိုင်ထိပ်ပိုင်းး နဂိုပုံမပျက်ဘဲ မူလနေရာ၌ မပျက်မစီးတည်ရှိသည်။ ယင်းသို့ (တည်ရှိခြင်း)ဖြင့် တစ်ချိန်က ပြုလုပ်ခဲ့သော ခမ်းနားလှသည့် ယင်းအထိမ်းအ

မှတ်ပစ္စည်းများနှင့် ပတ်သက်၍ အင်အားကောင်းသည့် တစ်စေ့တစ်စောင်း ထင်မြင်ချက်တစ်ရပ်ကို ရရှိစေသည်။ ကျောက်စာတိုင် လုံးပတ်မှာ အတွင်းဘက်သို့ တဖြည်းဖြည်း လျှောစောင်း ပုံရှိပြီး ၁၂ ဒသမ ၈ မီတာမြင့်သည်။ သို့ရာတွင် ရာစုနှစ်များစွာ ကြာညောင်းခဲ့ပြီဖြစ်၍ မြေကြီးထဲသို့ အနည်းငယ် မြုပ်ဝင်သွားနိုင်သည်။ ကျောက်စာတိုင်ထိပ်ပိုင်းသည် မိဂဒါဝုန်ကျောက်စာတိုင်ထိပ်ပိုင်းထက် အမြိတ်အစွန်း ပိုများလျက် ပိုမိုပုအိုင့်အိုင့်ပုံဖြစ်သည်။ ၎င်း၏ (ခေါင်းပိုင်း) အောက်ဘက်တွင် ဝက်အူရစ်ကွင်း (ဖောင်းရစ်)ပါရှိသည်။ ယင်း (ဖောင်းရစ်)ပေါ်တွင် ဘယ်မှညာသို့ ငန်းငှက်ပြေးနေဟန် ပန်းပုရုပ်ပါသည့် စည်ပုံ(အဝိုင်း) ပါရှိသည်။ စည်ပုံ(အဝိုင်း) ပေါ်တွင် သပ်ရပ်ကောင်းမွန်စွာ ထွင်းထုထားသော စွမ်းအင်ကြီးမားပြီး မဟာဆန်သည့်ရုပ်ပုံများနှင့် ဝပ်နေသည့် ခြင်္သေ့တစ်ကောင်ပါသည်။ ကံမကောင်းခြင်းမှာ ခြင်္သေ့မျက်နှာပုံ ပျောက်ဆုံးနေသည်။ ၁၆၆၀–ခုနှစ် မစ္စတာ ဂျူမလာ (Mr. Jumla)၏ စစ်တပ်ဖြတ်ကျော်စဉ် အမြောက်ဆန် ထိမှန်ခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။ ဘီစီ ၂၄၄ ခုနှစ်တွင် ထုတ်ပြန်ခဲ့သည့် အသောကကြေညာချက်ခြောက်ခုကို လောရိယနန္ဒနဂရမြို့ကျောက်စာ၌ ရေးထွင်းထားသည်။ အသောကမင်း၏ စီမံခန့်ခွဲရေးအပေါ် ဗုဒ္ဓဝါဒနှုန်းစံများကို အသုံးချရေးအတွက် အသောက၏ ကြိုးပမ်းမှုအတိုင်းအတာနှင့်ပတ်သက်သည့် အတွေးအမြင်ကောင်းတစ်ရပ်ကို ပေးထားသောကြောင့် ထိုကျောက်စာ ကြေညာစာတမ်းများကို အပြည့်အစုံ ကိုးကားပြ ထိုက်ပါသည် -

'နတ်တို့ ချစ်မြတ်နိုးခြင်းခံရသူ (မင်းကြီး)က ဤသို့မိန့်မြွက်၏ – ဤဓမ္မကြေညာစာတမ်းကို ငါ၏နန်းစံ ၂၆–နှစ်မြောက်ရှိသောအခါ ထုတ်ပြန်၏။ ဓမ္မကိုချစ်မြတ်နိုးခြင်းမရှိဘဲ မိမိကိုယ်ကို စစ်ဆေးခြင်း၊ လေးစားခြင်း၊ (မကောင်းမှုကို) ကြောက်ရွံ့ခြင်း၊ (ကောင်းမှုပြုရန်) စိတ်အား ထက်သန်ခြင်းမရှိဘဲ ဤဘဝနောင်ဘဝ ချမ်းသာမှုဟူသည်ကို ရရှိရန် ခဲယဉ်း၏။ သို့ရာတွင် ငါ၏သင်ကြားမှုမှတစ်ဆင့် ဓမ္မကို ဂရုစိုက်ခြင်း၊ ဓမ္မကို ချစ်မြတ်နိုးခြင်းတို့ နေ့စဉ်နေ့တိုင်း တိုး



တက် ပြန့်ပွားလာနေပြီး ဆက်လက်စည်ပင်နေလိမ့်ဦးမည်။ ငါ၏ အဆင့်မြင့် အဆင့်နိမ့် အလယ်အလတ်အဆင့်ရှိ အရာရှိများသည် ဓမ္မကို (လက်တွေ့) လေ့ကျင့်လိုက်နာနေကြသဖြင့် အခြားပုဂ္ဂိုလ်များအား ထိုနည်းအတူ (လိုက်နာ)ဆောင်ရွက်ရန် စိတ်အား ထက်သန်စေသည့် စွမ်းရည်ရှိကြသည်။ နယ်ခြားဒေသရှိ မဟာမတြ (အမတ်ကြီး)များသည် ထိုနည်းအတူ ပြုကျင့်နေကြ၏။ ငါ၏ ညွှန်ကြားချက်များကား ဓမ္မနှင့် (အညီ) ကာကွယ်စောင့်ရှောက်ရန်၊ ဓမ္မကို အမှီပြု၍ (ကိုယ်စိတ်)ချမ်းသာမှုကို ဆောင်ရွက်ရန်နှင့် ဓမ္မနှင့် အညီ ထိန်းသိမ်းစောင့်ရှောက်ရန်တို့ ဖြစ်၏။

'နတ်တို့ချစ်မြတ်နိုးခြင်းခံရသူ ပိယဒဿီမင်းကြီးက ဤသို့မိန့်မြွက်၏ – ဓမ္မသည် ကောင်းမြတ်လှ၏။ သို့တပြီးကား ဓမ္မဟူသည် အဘယ်နည်း။ ဓမ္မဟူသည် မကောင်းမှုနည်းခြင်း၊ ကောင်းမှုများ ခြင်း၊ သနားကြင်နာခြင်း၊ ရက်ရော (စေတနာကောင်း)ခြင်း၊ မှန်ကန်သော သစ္စာတရားရှိခြင်း၊ စင်ကြယ်ခြင်းတို့ဖြစ်၏။ ငါသည် နည်းလမ်းမျိုးစုံဖြင့် (အသိ)ပညာဒါနကို ပေးလှူပြီးဖြစ်၏။ ခြေနှစ်ချောင်း ခြေလေးချောင်းရှိသော သတ္တဝါများ၊ ငှက်များနှင့် ရေ၌နေသော သတ္တဝါများအား ဇီဝိတဒါနအပါအဝင် အရာအားလုံးကို ပေးလှူပြီးဖြစ်၏။ ထို့ပြင် အခြားများစွာသော ကောင်းမှုများကို(လည်း) ငါပြုလုပ်ပြီးဖြစ်၏။ ထို(ကျင့်စဉ်)ကို လိုက်နာနိုင်စေရန် ဤဓမ္မပြန်တမ်းကို ရေး(ထွင်း)ခြင်း ဖြစ်ပြီး ယင်း(ကြေညာစာတမ်း)သည် အဓွန့်ရှည်စွာ တည်တံ့နိုင်ပါစေ။ ဤ(ကြေညာချက်)ကို လိုက်နာကျင့်သုံးသူသည် ကောင်းမှုကုသိုလ် တရားများကို သင့်လျော်လျောက်ပတ်စွာ ပြုလုပ်နိုင်လိမ့်မည်။

'နတ်တို့ချစ်မြတ်နိုးခြင်းခံရသူ ပိယဒဿီမင်းကြီးသည် ဤသို့မိန့်မြွက်၏ – လူအများသည် ''ငါသည် ဤကောင်းသောအမှုကို ပြုပြီးပြီ''ဟု ပြောဆိုလျက် မိမိတို့၏ ကောင်းသော အပြုအမူများကိုသာ လျှင် မြင်ကြ၏။ သို့သော် ၎င်းတို့သည် ''ငါသည် မကောင်းမှုကို ပြု

သော်လည်း (ယခင်က) ၄၅၇–မီတာနီးပါး အဝိုင်းအဝန်းရှိသည်။ စေတီတော်အောက်ခြေ၌ (အုတ်မြစ်)သည် အခန်းကြီးများ အစီအရီဖြင့် မြင့်တက်နေသည်။ အောက်ခြေအဆင့်များမှာ ဗဟုဂံပုံရှိပြီး အပေါ်ပိုင်းမှာ အဝိုင်းပုံဖြစ်သည်။ တူးဖော်တွေ့ရှိချက်များအရ စေတီတော်၏အူတိုင်ကို မြေကြီးဖြင့် ပြုလုပ်ထားသည်။ ထိပ်မှအောက်သို့ ၁၁–မီတာအနက်တွင် ပိုမိုသေးငယ်သည့် စေတီအပြည့်အစုံ တစ်ဆူတွေ့ရပြီး၊ ယင်း(စေတီ)အတွင်း ဓာတ်တော်များ မတွေ့ရချေ။ သို့ရာတွင် အတွင်းပိုင်းစေတီဘေးတွင် ဘုဇပတ်ခေါက်ရှည်တစ်ခု ထည့်ထားသည့် ကြုတ်တစ်ခု တွေ့ရှိရသည်။ ယင်းသည် အေဒီလေးရာစုက (ဘုဇပတ်ခေါက်)ဖြစ်ပြီး ဗုဒ္ဓဘာသာဆိုင်ရာ ကျမ်းဂန်တစ်ခုမှ စာမျက်နှာတစ်ခုဖြစ်သည်။ ဤမျှကြီးမားသည့် စေတီတော်အစိတ်အပိုင်းတစ်ခုအနေဖြင့် အရေးပါသည့် ဓာတ်တော်ကို ထည့်သွင်းဌာပနာရန် သို့မဟုတ် အရေးပါသည့် အဖြစ်အပျက်တစ်ခုကို အထိမ်းအမှတ်ပြုရန် တည်ဆောက်ခဲ့ရမည်ဖြစ်သော်လည်း မည်သည့်အရာဖြစ်ကြောင်း မဖော်ထုတ်နိုင်သေးဘဲရှိသည်။

**သွားရောက်ရန်**

လောရိယနန္ဒာဂရသည် ပတ္တနားမြောက်ဘက် ကားလမ်းမကြီးပေါ်၌ရှိသည့် ဗေတ္တိယာဟ (Bettiah)မှ ၂၆–ကီလိုမီတာ အကွာတွင်ရှိသည်။ ဗေတ္တိယာဟသည် ပတ္တနားမှ ၁၉၀–ကီလိုမီတာအကွာ မောတိဟာရိ (Motihari)နှင့် မူဇာဖာ (Muzaffa)ပူရမြို့များမှ တစ်ဆင့် သွားရသည်။



ရန်အလို့ငှာ ရဇ္ဇုကတို့ကို ညွှန်ကြားကြသော အခြားအရာရှိတို့၏ စကားကိုလည်း နာခံကြ၏။ လူတစ်ယောက်သည် လိမ္မာကျွမ်းကျင်သည့် ကလေးထိန်းထံ မိမိ၏ကလေးကို အပ်နှံထားခြင်း၌ “ဤကလေးထိန်းသည် ငါ့ကလေးကို ကောင်းစွာ စောင့်ရှောက်နိုင်လိမ့်မည်”ဟုတွေးထင်ပြီး ယုံကြည်စိတ်ချသွားသကဲ့သို့ ထို့အတူပင် ရဇ္ဇုကတို့ကို နိုင်ငံတော်အတွင်းရှိ လူအပေါင်း၏ ကောင်းကျိုးချမ်းသာအတွက် ငါခန့်ထားတော်မူ၏။

‘အသနားခံစာနှင့် တရားရုံးစီမံညွှန်ကြားချက်များအား ကြားနမှုကို ရဇ္ဇုကများအတွက် ထားရမည်။ (ဤသည်မှာ) ထို(ရဇ္ဇုက)တို့ အနေဖြင့် ၎င်းတို့၏တာဝန်ကို အနှောင့်အယှက် အကြောက်အရွံ့ မရှိဘဲ ယုံကြည်စိတ်ချစွာ ဆောင်ရွက်နိုင်ရန်ဖြစ်၏။ ဥပဒေနှင့် ပြစ်ဒဏ်ချမှတ်မှုသည် ထပ်တူညီရမည်ကို ငါအလိုရှိ၏။ ထောင်တွင်းရှိ သေဒဏ်ထားခြင်းခံရသူအား သုံးရက် (အသက်ရှင်) နေထိုင်ခွင့် ပေးအပ်သည်အထိပင် ငါ ခွင့်ပြု၏။ ဤ (သုံးရက်)အချိန်အတွင်း ၎င်းအကျဉ်းသားတို့၏ (မိဘ) ဆွေမျိုးများသည် အကျဉ်းသား အသက်ချမ်းသာရ ရရှိရန် အသနားခံမှုများပြု (တင်သွင်း) နိုင်၏။ ၎င်းတို့ကိုယ်စား တောင်းပန်မည့်သူ မရှိတော့လျှင် အကျဉ်းသားများသည် နောင်ဘဝ ကောင်းကျိုးချမ်းသာအတွက် အလှူဒါနများပြုနိုင် သို့မဟုတ် ဥပုသ်သီလများ စောင့်သုံးနိုင်၏။ အကျဉ်းသားတစ်ယောက်၏အသက်သည် အကန့်အသတ်ရှိပြီးဖြစ်သော်လည်း ဤနည်းလမ်းဖြင့် ၎င်းတို့ နောင်ဘဝအတွက် ပြင်ဆင်နိုင်မှုကို အမှန်ပင် ငါ ဆန္ဒရှိ၏။ ဤသို့ဖြင့် လူအများ၏ ဓမ္မလေ့ကျင့်အားထုတ်မှု၊ မိမိကိုယ်ကို ထိန်းချုပ်မှုနှင့် ရက်ရောမှုများ တိုးပွားလာနိုင်၏။

‘နတ်တို့ ချစ်မြတ်နိုးခြင်းခံရသူ ပိယဒဿီမင်းကြီးသည် ဤသို့ မိန့်မြွက်၏ – ငါ၏နန်းစံ ၂၆–နှစ်ရှိသောအခါ စာကလေးငှက်၊ သာလိကာ၊ အရုဏ(ငှက်)၊ ငန်းနီ၊ ငန်းရိုင်း၊ နန္ဒီမုခ (ငှက်)၊ ဂေလတ (ငှက်)၊ လင်းနို့၊ ပုရွက်ဆိတ်ဘုရင်မ၊ ရေချိုလိပ်များ၊ အရိုးမဲ့ငါးများ၊

ဝေဒရေယက (ငါး)၊ ဂင်္ပုပုတက (ငါး)၊ သင်္ကိယ (ငါး)၊ ရေငန် လိပ်များ၊ ဖြူကောင်၊ ရှဉ့်၊ သမင်၊ နွား၊ သြကပိဏ္ဍ၊ သိုးရိုင်း၊ ပင်ဂွင်းရိုင်း၊ အိမ်မွေး ပင်ဂွင်းရိုင်းနှင့် အသုံးလည်းမကျ စားလည်းမစားကောင်းသော အခြေလေးချောင်း သတ္တဝါများဟူသော တိရစာန်အမျိုးမျိုးအား ကာကွယ်စောင့်ရှောက် (ဘေးမဲ့ပေး)ရန် ကြေညာလိုက်၏။ သားငယ် သို့မဟုတ် သားငယ်များအား နို့တိုက်လျက်ရှိကြသည့် သိုးထီး သိုးမများ၊ ဝက်မများကိုလည်း (ကာကွယ်ရမည်)။ ကြက်ဖများကို မသင်းကွပ်ရ။ သက်ရှိသတ္တဝါများနေထိုင်ရာသစ်ပင်၏ အခွံများကို မီးမရှို့ရ။ အကြောင်းမရှိဘဲ သက်ရှိများကိုသတ်ဖြတ်ရန် သစ်တောများကို မီးမရှို့ရ။ တိရစ္ဆာန်တစ်ကောင်ကိုအခြား တိရစ္ဆာန်တစ်ကောင်အား မကျွေးမွေးရ။ စတုရာမသိ သုံးရက်၊ တိသာ သုံးရက်နှင့် ဥပုသ် (ကြို) ၁၄–ရက်၊ ၁၅–ရက် (ဥပုသ်နေ့)များအတွင်း ငါးများကို ကာကွယ်ရမည်။ ရောင်းဝယ်ခြင်း မပြုရ။ ထို(ဖော်ပြပြီး)ရက်များအတွင်း ဆင်သတ်ရုံမှာဖြစ်စေ၊ ငါးသတ်ရုံမှာဖြစ်စေ တိရစ္ဆာန်များကို မသတ်ရ။ တစ်ပက္ခ၏ ၈–ရက်မြောက်နေ့များ၊ တိသာပုနဗ္ဗသုရက်များ၊ ၁၄–ရက်နှင့် ၁၅–ရက်နေ့များစတုရာမ ၃–ရက်နှင့် အခြားမင်္ဂလာရက်များ၌ နွားများကို မသင်းကွပ်ရ။ ဆိတ်သိုး၊ သိုးထီး၊ တောဝက်ထီးနှင့် ပုံမှန်အိမ်မွေးအခြားသတ္တဝါများအားလည်း (သင်းကွပ်ခြင်း)မပြုရ။ တိသာ၊ ပုနဗ္ဗသု၊ စတုရာမသိနေ့များနှင့် စတုရမာမသိ ၄–ရက်မြောက်နေ့များ၌ မြင်းများနှင့် နွားထီးများကို (မီးပူ) တံဆိပ်မခတ်နှိပ်ရ။ ငါ နန်းစံနှစ်မှစ၍ ၂၆–နှစ်အတွင်း အကျဉ်းသားများအား အချိန်ကာလ ၂၅–မျိုး၌ လွတ်ငြိမ်းချမ်းသာခွင့် ပေးပြီးဖြစ်၏။

'နတ်တို့ချစ်မြတ်နိုးခြင်းခံရသူ (မင်းကြီး)သည် ဤသို့မိန့်မြွက်၏ – ငါ၏နန်းစံ ၁၂–နှစ်ရှိသောအခါ ငါသည် လူအပေါင်း ကောင်းကျိုးချမ်းသာအတွက် ဓမ္မကျောက်စာများကို ရေးသားထွင်းထုရန် စတင် ဆောင်ရွက်စေခဲ့၏။ ယင်း(ပြန်တမ်း)များကို မချိုးဖောက်ခြင်းဖြင့် ''လူအများ၏ ကောင်းကျိုးချမ်းသာကို ငါမည်သို့ ဆောင်ကြဉ်းရမည်နည်း''ဟု ဆင်ခြင်လျက် ဓမ္မဖြင့် ကြီးပွားချမ်းသာနိုင်ကြစေရန်ဖြစ်၏။ ငါ၏ဆွေတော်မျိုးတော်များနှင့် အနီးအဝေး၌ နေကြသူအားလုံးသို့ ရည်ညွှန်း၏။ ဤသို့ဖြင့် ငါသည် ၎င်းတို့အား ချမ်းသာသုခသို့ ဆောင်ကြဉ်းနိုင်ပြီး၊ ၎င်းနောက် ငါသည် လိုက်လျော ညီထွေစွာ ပြုမူနေထိုင်နိုင်၏။ ငါသည် အားလုံးသော (ဘာသာရေး) အုပ်စုဝင်များအား တန်းတူညီမျှ ဆောင်ရွက်၏။ ငါသည် ပူဇော်မှုမျိုးစုံဖြင့် ဘာသာတရား အားလုံးအပေါ် ချီးမြှောက်မှုပြု၏။ သို့ရာတွင် လူထုပရိသတ်နှင့် ကိုယ်တိုင်တွေ့ဆုံမှုကို ပိုကောင်း၏ဟု ငါခံယူ၏။ ဤဓမ္မပြန်တမ်းကို ငါထီးနန်းစိုးစံပြီးနောက် ၂၆–နှစ်အကြာတွင် ရေး(ထွင်း)၏'။



ဤပြန်တမ်းမျိုးကို ယခုအခါ ဒေလီရှိ တောပရ (Topra)နှင့် မီးရုတ်(Meetut)ကျောက်စာများနှင့် အလာဟာဘတ် ကျောက်စာ၊ နှစ်ခုလုံး လောရိယနန္ဒာနဂရနှင့် မဝေးလှသောနေရာတွင်ရှိသည့် လောရိယအရာရာဇ(Lauriya Araraj) နှင့် ရာမပုရဝ(Rampurva)တို့၌လည်း တွေ့ရသည်။ အသောက၏ပြန်တမ်းများကဲ့သို့ပင် ကျောက်စာ၌ ခေတ်ဟောင်း ခေတ်သစ် ကျောက်ထွင်းပန်းချီလက်ရာ အများအပြားလည်း ရှိသည်။ အသောကမင်းကြီးသည် ကျောက်စာစိုက်ထူရန် ဤနေရာကို ဘာကြောင့်ရွေးချယ်ခဲ့ကြောင်း မသိရသော်လည်း ရှေးခေတ်က လောရိယနန္ဒာနဂရသည် ပတ္တနားမှလုမ္ဗိနီသို့ ဘုရားဖူးများ၏ ခရီးစဉ်တွင် အဓိက(ခရီးတစ်ထောက်) ရပ်နားသည့်နေရာဖြစ်မည်ဟု ခန့်မှန်းရသည်။

**စေတီ**

အသောကကျောက်စာတိုင်မှ တစ်ကီလိုမီတာခွဲလောက်တွင် ဒေသဆိုင်ရာ သကြားစက်ရုံ၏နောက်ဘက်၌ အိန္ဒိယတွင် တည်ထားခဲ့သည့် စေတီများအနက် အကြီးကျယ်ဆုံး တစ်ခုဖြစ်ခဲ့သည့် (စေတီတော်)၏ အကြွင်းအကျန်များရှိသည်။ စေတီသည် ယခုအခါ ၂၄–မီတာခန့်သာမြင့်

ထားချက်မှာ အကျဉ်းချုပ်မျှသာဖြစ်သည်။

## ကြည့်ရှုဖွယ်

### စေတီတော်

ပျက်စီးယိုယွင်းသည့် အခြေအနေတွင်ရှိသော်လည်း ကေသရိယမြို့ စေတီသည် အလွန့်အလွန် ဆွဲဆောင်အားကောင်းသော မြင်ကွင်းဖြစ်သည်။ ကန်နင်ဟမ်သည် ဤစေတီကို တိုင်းထွာသောအခါ လုံးပတ် ၁၄၀၀–ပေရှိပြီး ၅၁–ပေမြင့်သည်။ စေတီတော်၏ကိုယ်ထည်မှာ မူလက ပေ ၇၀–ခန့် မြင့်မည်ဟုလည်း ခန့်မှန်းခဲ့သည်။ ၎င်း၏နောက်ဆုံးရှာဖွေတွေ့ရှိချက်နှင့်ပတ်သက်၍ ကန်နင်ဟမ်က 'ရှေးဟောင်းသုတေသနဆိုင်ရာ တူးဖော်ခြင်းများအရ ၁၀–ပေ စတုရန်းရှိသည့် ဘုရားကျောင်းငယ်တစ်ခု၏ အုတ်နံရံများ၊ ရစ်ပတ်ခွေလိမ်နေသည့် ဆံပင်ပုံစံပါရှိသော ပမာဏကြီးမားသည့် ဗုဒ္ဓဆင်းတုတော်၏ ဦးခေါင်းတော်နှင့် ပခုံးတော်များ တွေ့ရှိရသည်'ဟုရေးသားခဲ့သည်။ ကေသရိယမြို့၌ သင့်တင့်သော တူးဖော်မှုများကို ၁၉၉၉–ခုနှစ်တွင်မှ စတင်ခဲ့ပြီး ယခုတိုင် မပြီးဆုံးသေးဘဲရှိသည်။ စေတီတော်တွင် အပေါ်၌ ရောမအဝန်း (မဏ္ဍလ) ပုံကဲ့သို့ ဖြစ်နေစေရန် အသီးသီး ပုံသဏ္ဌာန်ကွဲပြားသည့် အမိုးခုံး ၄းခု မြင့်တက်နေသည်။ အမိုးခုံးတစ်ခုစီ၏ဘေးတွင် ပကတိ သက်ရှိအရွယ် ဗုဒ္ဓဆင်းတုတော်၎ါးဆူ ကိန်းဝပ်သည့်ဘုရားခန်းများ ပါရှိသည်။

### သွားရောက်ရန်

ကေသရိယမြို့သည် ဝေသာလီမှ အနောက်မြောက်ဘက် ၅၅–ကီလိုမီတာခန့် အကွာတွင်ရှိသည်။ ဝေသာလီမှ ကေသရိယမြို့သို့ သွားရောက်ရန် မူဇာဖာပူရ (Muzaffarpur)–မောတိဟာရိ (Motihari)လမ်းမကို ယူပြီး မြောက်ဘက်သို့ ဆက်သွားလျက် ပိပရာ(Pipra)ဘက်သို့ ချိုး ပါ။ လမ်းအလွန်ဆိုးသောကြောင့် ချာကိယ (Chakia)တွင် ပထမတွေ့ရသည့် လမ်းချိုးအတိုင်း မသွားပါနှင့်။ ကေသရိယသည် ပိပရာမှ ၂၀–ကီလိုမီတာအကွာတွင်ရှိသည်။

# ၁၅။ ကေသရိယမြို့

ကေသမုတ္တရွာသား ကာလာမ(မည်သောခတ္တိယလူမျိုး)တို့သည် 'သကျမျိုးမှ တောထွက်လာသည့် သာကီဝင် မင်းသားရဟန်းဂေါတမသည် ယခုအခါ ကေသမုတ္တရွာသို့ရောက်ရှိနေကြောင်း' ကြားသိခဲ့ကြသည် (အံ ၁၊ ၁၈၇)။

ဝဇ္ဇီနိုင်ငံ၏ အနောက်မြောက်ဖျားတွင် ကာလာမအမည်ရှိ အတော်အတန် လွတ်လပ်သည့် လူမျိုးရှိသည်။ ၎င်းတို့၏ အဓိကမြို့မှာ ကေသမုတ္တဖြစ်သည်။ ဤမြို့၏အရေးပါမှုသည် ဂန္ဓက (Gandak)မြစ်ကို ကျော်ဖြတ်သည့် အဓိကနေရာနှင့် နီးကပ်နေသောကြောင့်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်၏ ရှေးဦးဆရာကြီးများအနက် တစ်ယောက်ဖြစ်သူ အာဠာရကာလာမသည် ဤမြို့ဇာတိဖြစ်ဖွယ်ရှိသည်။ ဗုဒ္ဓရှင်တော်မြတ်၏ အရေးအပါဆုံး သုတ္တန်များအနက်တစ်ခုဖြစ်သည့် ကျော်ကြားလှသော ကေသမုတ္တိသုတ်ကို ဟောကြားခဲ့သည်မှာ ဤကေသမုတ္တမြို့သို့ ဒေသစာရီကြွတော်မူစဉ်တွင် ဖြစ်သည်။ လှည့်လည်သွားလာသူ ပရိဗိုဇ်ဆရာကြီးများစွာတို့သည် ကေသမုတ္တရွာသို့ ရောက်ရှိကြပြီး ၎င်းတို့၏ဝါဒ (အယူအဆ)များကို ဟောကြားလျက် အခြားပုဂ္ဂိုလ်များ၏ အတွေးအမြင်များကိုမူ ဝေဖန်ကဲ့ရဲ့ကြသည်။ သို့ဖြစ်၍ ကေသမုတ္တမြို့သားတို့သည် မည်သူ့ကို ယုံကြည်ရမည်ဟု မဝေခွဲနိုင်ဘဲရှိကြသည်။

ဗုဒ္ဓရှင်တော်မြတ်ကမူ ၎င်းတို့ကိုယ်တိုင်၏ တွေ့ကြုံခံစားသိရှိရမှုကိုသာ အားကိုးကြရန် အကြံပြုတိုက်တွန်းတော်မူသည် '(ကာလာမတို့) သင်တို့သည် သံသယဖြစ်သင့်လှ၏။ (သင်တို့သည်) ယုံမှားဖွယ်ကိစ္စ၌ သံသယ ပေါ်ပေါက်လာခြင်း ဖြစ်ပေ၏။ ဖန်ဆင်းရှင်ဘုရားသခင်က ပေးအပ်သည်ဆိုသော အဆုံးအမဖြစ်ခြင်း၊ တစ်ဆင့်စကား ကြားသိရခြင်း၊ ဆွေမျိုးစဉ်ဆက် ယုံကြည် ကိုးကွယ်လာခြင်းဟူသော အကြောင်းများကြောင့် လက်မခံကြနှင့်။ ကျမ်းဂန်အဆိုဖြစ်ခြင်း၊ ယုတ္တိနည်းကျ ဆက်စပ်တွေးတောမှု ဖြစ်ခြင်းတို့ကြောင့်လည်း လက်မခံကြနှင့်။ ခွဲခြမ်းစိတ်ဖြာခြင်း သို့မဟုတ် ကြီစည် စဉ်းစားခြင်း၊ ဖြစ်နိုင်ခြေရှိခြင်း သို့မဟုတ် ''သူသည် ငါ့ဆရာဖြစ်၏''ဟူသော အသိများကြောင့်လည်း လက်မခံကြ

နှင့်။ သို့ရာတွင် သင်တို့ကိုယ်တိုင် ''ဤကား ကောင်းမွန်၏။ ဤကား အပြစ်ကင်း၏။ ဤကား ပညာရှိတို့ချီးမွမ်းအပ်၏။ (ဤအကျင့်ကို) ကျင့်သုံးပါက ကောင်းကျိုးချမ်းသာသို့ ပို့ဆောင်နိုင်၏''ဟု သိမြင်သောအခါ ယင်းတရားများကို လက်ခံ၍ လိုက်နာကျင့်သုံးကြလော့'။

နှောင်းခေတ် ဒဏ္ဍာရီပုံပြင်များအရမူ ဗုဒ္ဓရှင်တော်မြတ် နောက်ဆုံးခရီးအဖြစ် ဝေသာလီမြို့မှ ကုသိနာရုံသို့ ထွက်ခွာသောအခါ ဝဇ္ဇီတိုင်းသားလူအများသည် မိမိတို့ချစ်မြတ်နိုးအပ်သော ဆရာအရှင်(ဗုဒ္ဓ)အား နောက်ထပ်တစ်ဖန် လုံးဝ ဖူးမြင်ရတော့မည် မဟုတ်ဟူသော အသိကို သည်းမခံနိုင်ကြဘဲ မြတ်ဗုဒ္ဓ၏နောက်သို့ လိုက်ပါကြသည်။ မြတ်ဗုဒ္ဓက ၎င်းတို့နေအိမ်သို့ ပြန်သွားကြရန် အကြိမ်များစွာ မိန့်ကြားသော်လည်း လိုက်မြဲလိုက်ကြသည်။ ဘုရင်းရှင် ကေသမုတ္တမြို့သို့ ဆိုက် ရောက်သွားသောအခါ ပရိသတ်ဘက်သို့ လှည့်ပြီး နောက်ဆုံး အကြိမ်အဖြစ် လူထုပရိသတ်အား ကိုယ်တော်မြတ်တစ်ပါးတည်း ခရီးဆက်သွားခွင့်ပြုရန် တိုက်တွန်းတော်မူသည်။ ပရိသတ်မှာမူ ပြန်သွားလိုခြင်း မရှိကြဘဲ သဘောတူ လိုက်လျောခဲ့ပြီး တစ်ယောက်ပြီးတစ်ယောက် ပြန်လည်ထွက်ခွာကြသည်။ ဝဇ္ဇီတိုင်းသား လူအများကို သနားကြင်နာ တော်မူသဖြင့် ဗုဒ္ဓရှင်တော်မြတ်က မိမိကိုယ်စား ဆွမ်းခံသပိတ်တော်ကို ၎င်းတို့အား ပေးစွန့်တော်မူသည်။ ယင်းသပိတ်တော်ကို (ဝဇ္ဇီတိုင်း၏မြို့တော်) ဝေသာလီ၌စေတီတည်၍ ဌာပနာ(ထည့်သွင်း)ထားသည်။ နောင်အခါ ဤဖြစ်ရပ်ကို အထိမ်းအမှတ်ပြုရန်အတွက်ရော ကေသမုတ္တိသုတ်ကို ဟောကြားတော်မူသည့် နေရာကို အထိမ်းအမှတ် ပြုရန်အတွက်ပါ ကေသမုတ္တမြို့၌ စေတီတစ်ဆူတည်ထားသည်။ ပါဋလိပုတ္တမြို့မှ လုမ္ဗိနီသို့ဖြစ်စေ ကုသိနာရုံသို့ဖြစ်စေ ခွဲထွက်သည့် ပင်မလမ်းမကြီးပေါ်တွင် တည်ရှိသောကြောင့် ထိုနေရာနှစ်ခုသို့ သွားလိုသည့် ဘုရားဖူးသည် ကေသမုတ္တမြို့တွင် တစ်ထောက်ရပ်နားရသည်။ ဖာဟီယန်ရောဟူယင်ဆန်ပါ ကေသမုတ္တမြို့သို့ သွားရောက်ခဲ့ပြီး စေတီတော်ကို ဖူးမြော်ရသော်လည်း ထိုစေတီတော်အကြောင်း ၎င်းတို့၏ဖော်ပြ





ဤစာကို မမြင်နိုင်အောင်ဖုံးကွယ်သည့် ကြိုးပမ်းမှုများရှိခဲ့သည်။ နှောင်းခေတ် ဤဂူတွင်နေသည့် အာဇီဝကများနှင့် ဆန့်ကျင်ဘက်များက (ကြိုးစားခဲ့ခြင်း) ဖြစ်ဖွယ်ရှိသည်။ လောမသရသေ့ဂူနှင့် ဆုဒ်မဂူ နှစ်ခုလုံးကို ဖြတ်သွားသည့် ခင်တန်းရှည်၏ အခြားတစ်ဘက်တွင် ကဏ္ဍာဆောပါရဂူရှိသည်။ ဤဂူ၏အတွင်းပိုင်းတွင် ယှဉ်တွဲနေသည့် အခန်းတစ်ခုမပါဘဲ ဆရာ၏ထိုင်ခုံ သို့မဟုတ် အိပ်ရာ သို့မဟုတ် ဘုရားခန်းတစ်ခုအဖြစ် အသုံးပြုခဲ့ဖွယ်ရှိသည့် အနောက်ဘက်နံရံကို ကျောပြုထားသော ဖြတ်လမ်းငယ်တစ်ခုမှတစ်ပါး အခြားဂူနှစ်ခုနှင့် တူညီသည်။ ဂူအဝင်ဝရှိ ကျောက်စာမှာလည်း အသောကပြန်တမ်းဖြစ်သည်။ 'နန်းစံ ၁၉–နှစ်မြောက်တွင် ပိယဒဿိမင်းကြီးသည် မွေ့လျော်ဖွယ် ခါလတိက ကုန်းပေါ်ရှိ ဤဂူကို မိုးရာသီကို ကာကွယ်ရန်လှူဒါန်းခဲ့သည်' ဟုဖော်ပြထားသည်။ ဤကျောက်စာကိုလည်း ဖျက်ဆီးထားသည်။

## ဂေါပိကာဂူ

ဗာရာဗာရတောင်ခြေမှ အရှေ့မြောက်ဘက်သို့ နှစ်ကီလိုမီတာ လမ်းလျှောက်သွားပါက ဘုရားဖူးသည် နာဂရဇ္ဇုနိတောင်ကုန်းသို့ ရောက်သွားသည်။ ဂေါပိကာဂူနှင့် (ယင်း)ဂူပေါ်သို့တက်သည့် လှေကားကြီးများကို စပါးစိုက်ကွင်း များကို ဖြတ်ကျော် ချဉ်းကပ်သွားလိုက်သည်နှင့် အလွယ်တကူ တွေ့မြင်နိုင်သည်။ ဂေါပိကာသည် ရှေးဟောင်းဂူများအနက် အကြီးဆုံးဖြစ်သည်။ လိုဏ်ခန်းသည် အရှည် ၁၂ ဒသမ ၃ မီတာ၊ အကျယ် ၅ ဒသမ ၂ မီတာရှိပြီး ၆ ဒသမ ၅ မီတာမြင့်သည်။ လိုဏ်ခန်း၏ ခပ်ဝိုင်းဝိုင်းထောင့်စွန်းများနှင့် စည်ပိုင်းပုံခုံးနေသည့် အမိုးများမှာ ပြီးပြည့်စုံစွာ စီမံ ထားသည်။ တစ်ဖန် မျက်နှာပြင်တစ်ခုလုံးကို လှပသပ်ရပ်စွာ အချောကိုင်ထားသည်။ အပြင်ဝင်ပေါက်၏ အပေါ်တွင် အသောကမင်းကြီး၏မြေးတော် ဒသရထမင်း၏ ကျောက်စာပြန်တမ်းတစ်ခုရှိသည်။ ယင်းစာအရ 'လနေတို့ကဲ့သို့ ကာလ ရှည်စွာတည်တံ့နေမည်ဖြစ်သော ဂေါပိကာ၏ဂူကို နတ်တို့ချစ်မြတ်နိုးသည့် ဒသရထမင်းကြီး ၎င်းထီးနန်းတက်သော အချိန်တွင် အလွန်ကြည်ညို လေးစားအပ်

## ၁၆။ ဗာရာဗာရနှင့် နဂရဇ္ဇုနိတောင်ကုန်းများ

ဂယာမြို့၏မြောက်ဘက်တွင် လူသူအရောက်အပေါက်နည်းပြီး ကျောက်ထူထပ်သည့် တောင်ကုန်းများစွာ ရှိကြသည်။ ယင်းဒေသတစ်ခုလုံးတွင် ရှေးအခါက ထူထဲသည့်တောအုပ်ကြီးများ ရှိခဲ့သည်။ ယင်းဒေသရှိ ကျောက်ဆောင်များနှင့် နေရာတိုင်းလိုလိုသည် လှည့်လည်သွားလာသူ ပရိဗိုဇ်များနှင့် ဗုဒ္ဓဘာသာရဟန်းတော်များ ကျက်စားရာဒေသအဖြစ် ဖန်တီးခဲ့ပေလိမ့်မည်။ ယင်းတောင်ကုန်းများအနက် တစ်ခုဖြစ်သည့် ကောအာဒေါလ(Kauadol)သည် သုတ္တနိပါတ်ကျမ်းလာ ပါရာယနဝဂ် (သုတ္တနိ၊ စာ–၄၄၈)၌ (ဖော်ပြထားသည့်) ဖြစ်ရပ်များဖြစ်ပေါ်ခဲ့ရာ 'နှစ်သက်ဖွယ် တင့်တယ်လှပသည့် ပသနကစေတီ(Pasanaka)' တည်ရှိခဲ့သည့်နေရာဟု ယူဆရသည်။ တောင်ထိပ်တွင် ဟန်ချက်ညီစွာတည်ရှိနေသည့် ကျောက်တုံးကြီးတစ်ခုရှိပြီး မြင့်မားမတ်စောက်သော တောင်ထွတ် တောင်ကုန်းပေါ်တွင် ယင်း၏တစ်မျှော် တစ်ခေါ်နေရာများ၌ ဗုဒ္ဓဘာသာဆိုင်ရာ အပျက်အစီးအကြွင်းအကျန် များစွာရှိသည်။ ယင်း၏မြောက်ဘက်မျက်နှာစာရှိ ကျောက်တောင်များပေါ်တွင် ထိုင်တော်မူဗုဒ္ဓဆင်းတုတော်များအပါအဝင် မြောက်မြားစွာသော ကျောက်ထွင်းရုပ်ပုံများရှိသည်။

ကန်နင်ဟမ်သည် ဤနေရာ၌ ရောမဗုဒ္ဓဆင်းတုတော်တစ်တဆူကို တွေ့ရှိခဲ့သည်။ 'ဤတောင်ကုန်း အရှေ့ဘက်ခြမ်းရှိ တောင်စွယ်တစ်ခုတွင်(တွေ့ရခြင်းဖြစ်)ပြီး ကျောက်တိုင်အများအပြား မတ်ထောင်နေဆဲဖြစ်သော ဘုရားကျောင်းကြီးတစ်ခု၏ အကြွင်းအကျန်များကြားတွင် ဗုဒ္ဓဂယာမဟာဗောဓိပင်အောက်၌ ကမ္ဘဋ္ဌာန်းထိုင်တော်မူစဉ် တွေ့ရသည့်အတိုင်း ဗုဒ္ဓလောင်းလျာရသေ့၏ ရောမကြီးမားသောရုပ်ပုံတစ်ခုရှိသည်။ ယင်းဆင်းတုသည် ကျွန်ုပ်(ကန်နင်ဟမ်) တွေ့ရသမျှထဲတွင် အကြီးဆုံးဖြစ်သည်။ ကိုယ်ထည်ပင် ၈–ပေမြင့်ပြီး ပခုံးတော်အကျယ်မှာ ၄–ပေ၊ (တင်ပလ္လင်ခွေ) ဒူးနှစ်ဘက်အကျယ်မှာ ၆–ပေရှိသည်'။

သို့တစေ ယင်းသည် ဗာရဗာရနှင့် နာဂရဇ္ဇုနိ တောင်ကုန်း နှစ်ခု

အနီး(တွေ့ရသည့်) အထိမ်းအမှတ်များဖြစ်သည်။ ယင်းတို့မှာ အလွယ်ကူဆုံး ရောက်နိုင်ပြီး ဘုရားဖူးအား အဆွဲဆောင်နိုင်ဆုံးနေရာဖြစ်သည်။

## ကြည့်ရှုဖွယ်

**လောမသရသေ့ဂူ**

အိန္ဒိယရသေ့များသည် များသောအားဖြင့် ဂူများအတွင်းနေထိုင်လိုကြသည်။ အကြောင်းမူ ဂူများသည် နွေရာသီတွင် အေးချမ်းပြီး အသံဗလံဆူညံမှု တိတ်ဆိတ်လျက် ကမ္မဋ္ဌာန်းရှုမှတ်ရန် သင့်လျော်ကြသောကြောင့်ဖြစ်သည်။ သဘာဝဂူများကို မရနိုင်သောအခါ လူဖန်တီးသော ဂူများပြုလုပ်နိုင်ကြသည်။ အိန္ဒိယတွင် ဤ(ဂူထွင်းသည့်) ဓလေ့သည် အယ်လိုရာ အာဂျန္တာဂူဘုရားကျောင်းကြီးများဖြင့် အတွတ်အထိပ်သို့ ရောက်ရှိခဲ့သော အနုပညာတစ်ရပ်အဖြစ်သို့ တိုးတက်ခဲ့သည်။ ဗာရာဗာရတောင်ကုန်းများရှိ လူဖန်တီးသည့် ဂူများသည် ဤ(ဂူထွင်း)အနုပညာ၏ အစောပိုင်းကာလကို ကိုယ်စားပြုသည်။ လေးဂူလုံးကို အသောကမင်းကြီးက ကြီးကြပ်ခဲ့ပြီး မြတ်ဗုဒ္ဓလက်ထက်က မက္ခလိဂေါ်သာလ တည်ထောင်ခဲ့ပြီး ယခုအခါ ကွယ်ပျောက်သွားပြီးဖြစ်သော အဝတ် မဝတ်သည့် ရသေ့အုပ်စုဝင် အာဇီဝကတို့အား လှူဒါန်းခဲ့ပုံရသည်။ အဆိုပါဂူများကို အသောကမင်း လှူဒါန်းခဲ့မှုသည် အသောကအနေဖြင့် ဗုဒ္ဓဝါဒကို နှစ်သက်သော်လည်း အခြား(ဘာသာရေး) ဂိုဏ်းများနှင့် ဘာသာတရားများကိုလည်း လှူဒါန်းနိုင်လောက်အောင် သည်းခံ (သဘောထားပြည့်ဝ)ဆဲဖြစ်ကြောင်း သာဓကတစ်ရပ် ဖြစ်သည်။

ဗာရာဗာရတောင်ကုန်းရှိ စိတ်ဝင်စားဖွယ် အကောင်းဆုံး ဂူမှာ လောမသရသေ့ဂူ ဖြစ်သည်။ ဂူအတွင်းပိုင်းတွင် အစွန်းတစ်ဘက်၌ တဲဝိုင်းငယ်တစ်ခုနှင့်တူသည့် ခန်းဆွယ်တစ်ခုပါသော စည်ပိုင်းပုံခုံးနေသည့် ရှည်မျောမျော ခန်းမတစ်ခုရှိသည်။ ခန်းမ၏နံရံများမှာ အဆင့်မြင့်စွာ ချောမွတ်နေအောင် ဖန်တီးထားသည်။ အမိုးနှင့်ခန်းဆွယ်ကား မပြီးဆုံးသေးဘဲရှိသည်။ သို့ရာတွင် ဤဂူအား အလွန်စိတ်ဝင်စားစေသည့်အရာမှာ ယင်း၏ ရှေ့မျက်နှာစာဖြစ်သည်။ ယင်းသည် ဗုဒ္ဓဘာသာ



ရဟန်းတော်များ အပါအဝင် ရသေ့များနေထိုင်လေ့ရှိသည့် အထွတ်ပါသစ်သားနှင့် သက်ငယ်မိုး တဲများကို ကျောက်ဖြင့်တစ်ထေရာတည်း ပုံတူ ပြုလုပ်ထားသောကြောင့်ဖြစ်သည်။ အတွင်းဘက်သို့ အနည်းငယ်ယိုင်နေသည့် ထောင်မတ်တိုင်နှစ်လုံးသည် ပင်မဒိုင်းနှစ်ခုကို ခံဆောင်ထားသည်။ ထိန်ထားသောဆင်ရုပ်များ အစဉ်လိုက်ရှိသည်။ ယင်း (စေတီဟူ)သည် ဗုဒ္ဓဘာသာမဟုတ်သည့် ဘာသာတရားများတွင်လည်း အရိုအသေပြုခံ အရာဝတ္ထုများ ဖြစ်ကြောင်း နားလည်သင့်သည်။ အပေါ်ပိုင်းမုခ်ခုံးများအကြားတွင် မှန်ကူကွက်ပုံ တံခါးတစ်ခုရှိသည်။ ကျောက်ဆစ်သမားသည် ဂူတစ်ခုလုံးကို (ပကတိ) သစ်သားတဲနှင့် တူအောင် မှင်တက်သွားလောက်သည့် လက်ရာတိုင်း၏ အသေးစိတ်ကို အလွန် ဂရုစိုက်ပြီး ပုံတူထွင်းထုခဲ့သည်။ လောမသရသေ့ဂူသည် မောရိယခေတ်လက်ရာ ဖြစ်သော်လည်း တံခါးပေါ်ရှိ စာတန်းကိုမူ ဂူကို တည်ဆောက်ပြီးနောက် ရာစုနှစ်ပေါင်းများစွာ ကြာပြီးနောက်မှ ရေးထွင်းခဲ့သည်။

**ဆုဒါမနှင့်ကဏ္ဍာဆောပါရဂူများ**

ဗာရာဗာရတောင်ကုန်းတွင် အခြားဂူသုံးခုရှိသေးသည်။ တစ်ခုမှာ လမ်း အပြင်လောက်တွင်ရှိပြီး နောက်ဂူနှစ်ခုမှာ လောမသရသေ့ဂူအနီး၌ ရှိသည်။ လောမသရသေ့ဂူ၏ ဘယ်ဘက် မဝေးသောနေရာတွင် ရှေ့မျက်နှာစာ မရှိသော်လည်း အတွင်းပိုင်း၌ အင်မတန် စွဲလမ်းဖွယ်ကောင်းသည့် ဆုဒါမဂူရှိသည်။ အဓိကခန်းမဆောင်သည် အရှည် ဆယ်မီတာ၊ အကျယ်ခြောက်မီတာရှိလျက် ၃ ဒသမ ၇ မီတာမြင့်သည်။ အတွင်းလိုဏ်တစ်ခုလုံးကို လှပစွာ အချောကိုင်ထားသည်။ မျက်နှာပြင်ကိုထိသည့် ထောင့်စွန်းတန်းများသည် ပြည့်စုံ၏။ ခန်းမ၏အဆုံးတွင် ကောက်ရိုးနှင့် ဝါးအတုပုံဖြင့် ပုံမှန်မဟုတ်သည့် ထောင့်မှန်ဥယျာဉ်များနှင့် တဲဝိုင်းတစ်ခုရှိသည်။ ပင်မဝင်ပေါက်၏ နံရံတွင် အသောကမင်းကြီး၏ ကျောက်စာပြန်တမ်းရှိသည်။ ယင်းမှာ ‘နန်းစံ နှစ်ဆယ့်နှစ်နှစ်မြောက်တွင် ပိယဒဿီမင်းကြီးသည် ဤနိဂြောဓလိုဏ်ဂူကို အာဇီဝကတို့အား လှူဒါန်းခဲ့သည်’ ဟူ၍ဖြစ်သည်။

အနာထပိဏ်သည် သာဝတ္ထိသို့ ပြန်ရောက်သောအခါ ဗုဒ္ဓ သီတင်းသုံးမည့်နေရာကို ရှာဖွေသည်။ အသင့်တော်ဆုံးနေရာသည် သာဝတ္ထိမြို့ပြင်ရှိ ဇေတမင်းသား ပိုင်ဆိုင်သည့် နှစ်လိုဖွယ် ဥယျာဉ်ခြံဖြစ်ကြောင်း တွေ့ရှိရသည်။ အနာထပိဏ်သည် ဇေတမင်းသားထံ ချဉ်းကပ်ပြီး ထို ဥယျာဉ်ခြံအတွက် မင်းသားရလိုသည့် ဈေးနှုန်းကို မေးသည်။ သို့သော် မင်းသားက ဥယျာဉ်ခြံကိုရောင်းရန် စိတ်မဝင်စားကြောင်း ပြန်ကြားသည်။ သို့သော် အနာထပိဏ်သည် ဇေတမင်းသားအား ဈေးတစ်ခုကို သတ်မှတ်သည်အထိ မရမကပြောသည်။ နောက်ဆုံး၌ ဇေတမင်းသားသည် စိတ်ဆိုးပြီး အနာထပိဏ် ထွက်ခွာသွားစေလိုသဖြင့် ဝယ်မယူနိုင်လောက်သည့် နှုန်းထားဖြင့် ရွှေဒင်္ဂါးတစ်သိန်းဟု ပြောလိုက်သည်။

အနာထပိဏ်က ထို(ဈေးနှုန်း)ကို လက်ခံသဖြင့် ဇေတမင်းသား အံ့သြသွားရသည်။ မကြာမီ (အနာထပိဏ်၏) အလုပ်သမားများသည် ရွှေ(ဒင်္ဂါးများ)ပြည့်နေသည့်လှည်းများဖြင့် ရောက်လာကြပြီး ယင်းတို့ကို မြေကြီးပေါ်ကြဲချလိုက်သည်။ ထိုစဉ် ဇေတမင်းသားသည် အနာထပိဏ်၏ ဥယျာဉ်ခြံကိုရရန် ခိုင်မြဲသည့်ဆုံးဖြတ်ချက်ကို သဘောပေါက်သွားသဖြင့် လိုက်လျောခဲ့ပြီး (ပေးရန်)ကျန်ရှိသောငွေကို ကျောင်းတိုက်ကြီး ဆောက်လုပ်ရန် အသုံးပြုသည်။ ဝိနယပိဋကတ်၌ ဤကျောင်းတိုက်တွင် ခန်းမဆောင်များ၊ ကျောင်းအဆောက်အဦများ၊ (သံဃာနေ) အခန်းငယ်များ၊ မုခ်ဦးများ၊ ကပ္ပိယခန်းများ၊ မီးဖိုခန်းများ၊ အိမ်သာများ၊ အမိုးပါ စင်္ကြံလမ်း(နတ်လမ်း)များ၊ ရေတွင်းများ၊ ရေချိုးခန်းများ၊ ကြာပန်းအိုင်များနှင့် တဲရုံများပါရှိကြောင်းဖော်ပြသည် (ဝိ ၄၊ ၃၀၇)။ ဤကျောင်းတိုက်ကြီး ပေါ်ပေါက်လာရန် တာဝန်ရှိသူများ ဖြစ်ကြသည့် ပုဂ္ဂိုလ် နှစ်ယောက်ကို ဂုဏ်ပြုသောအားဖြင့် ထိုကျောင်းတိုက်ကြီးကို ဇေတဝန အနာထပိဏ္ဍိကာရာမ (ဇေတဝန်ဥယျာဉ် အနာထပိဏ်ကျောင်းတိုက်) ဟု ခေါ်ဝေါ်ကြသည်[၂၈]။ နောက်နှစ်များတွင် သာဝတ္ထိမြို့တော် ပတ်ဝန်း

---

[၂၈] ဇေတဝန = ဇေတဝန်ဖြင့် ဤဥယျာဉ်၏ ပထမပိုင်ရှင် ဇေတမင်းသားကို ရည်ညွှန်းသည်။ အနာထပိဏ္ဍိကာရာမ = အနာထပိဏ်၏ကျောင်းတိုက်ဖြင့် ဒုတိယပိုင်ရှင် အနာထပိဏ်သူဌေး



သော ရသေ့များ၏ ကျောင်းသင်္ခမ်းအဖြစ်ဖြင့် ထွင်းထုစေခဲ့သည်’ဟု သိရသည်။ ဂူအတွင်းသို့ သွားသည့် လမ်းကျဉ်းတွင် နှောင်းခေတ် ကျောက်စာ အရေးအသားများစွာရှိသည်။

## သွားရောက်ရန်

ဂယာမြောက်ဘက် ကားလမ်းမအတိုင်း ၂၂ ကီလိုမီတာသွားပြီး ဗေလမြောက်ပိုင်း ရထားဘူတာသို့သွားသည့် လမ်းခွဲတွင် ညာဘက်သို့ချိုးပါ။ လမ်းခွဲကို ထင်ရှားစွာ ပြထားသည်။ ယင်းလမ်းခွဲမှ ဗာရာဗာရကုန်းသည် ၁၅ ကီလိုမီတာ အကွာတွင်ရှိပြီး ယင်းခရီးအကွာအဝေး တစ်ခုလုံးကို ဂျစ်ကားဖြင့်သာ ဖြတ်သွားနိုင်သည်။

## ၁၇။ သာဝတ္ထိ

ကောသလတိုင်းသားတို့၏ လှပသော မြို့တော်၊
စိတ်လှုပ်ရှားစေပြီး မျက်စိပသာဒကို ဖြစ်စေ၏။
နားပသာဒအား အသံဆယ်မျိုးကို ပေးစွမ်း၏၊
မြို့သူမြို့သားအားလုံးအား စားနပ်ရိက္ခာ အလုံအလောက်ပေး၏။

(ခုဒ္ဒကပါဌ–ဠ၊ စာ–၉၃)

ကောသလတိုင်း၏မြို့တော် သာဝတ္ထိသည် အလိုရှိရာအားလုံးကို ရရှိနိုင်သောကြောင့် (သဗ္ဗမတ္ထိ) ထိုအမည်ကို ရကြောင်းပြဆိုသည်။ သာဝတ္ထိသည် မဇ္ဈိမဒေသတွင် အကြွယ်ဝဆုံးနှင့် စိတ်လှုပ်ရှားဖွယ် အကောင်းဆုံး မြို့တစ်မြို့အမှန်ပင်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်သည် ဗောဓိဉာဏ်ကို ရပြီးနောက် နှစ်ဆယ်မြောက်နှစ်တွင် သာဝတ္ထိကို ဌာနချုပ်နေရာအဖြစ် မပြုသေးမီကတည်းက သာဝတ္ထိမြို့သို့ အကြိမ်များစွာ ကြွရောက်တော်မူခဲ့ဖူးသည်။ ထို(နှစ်ဆယ့်ခြောက်နှစ်)မှစ၍ မြတ်ဗုဒ္ဓသည် နောက်ဆုံးဝါမှ တစ်ပါး မိုးရာသီကာလတိုင်းတွင် သာဝတ္ထိမြို့တော် ပတ်ဝန်းကျင်၌ သီတင်းသုံးတော်မူခဲ့သည်။ ထိုအချိန်၌ ဗုဒ္ဓရှင်တော်မြတ်သည် အသက်အရွယ်ကြီးရင့် (ထိုအချိန်ကသက်တော် ၅၆–နှစ်ရှိ)ပြီး ဖြစ်သောကြောင့် ဒေသစာရီကြွချီခြင်းကို ကန့်သတ်ရန် ဆုံးဖြတ်ခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။ မြို့တော်နေ အကြွယ်ဝဆုံးသော သူဌေးသူကြွယ်များက ရှင်တော်မြတ်အား ရက်ရက်ရောရော ထောက်ပံ့ကြသောကြောင့် သာဝတ္ထိကို အခြေခံနေရာဌာနအဖြစ် ရွေးချယ်ခဲ့သည်မှာ သေချာသောအချက်ဖြစ်သည်။

စီးပွားရေးကိစ္စဖြင့် ရာဇဂြိုဟ်သို့ရောက်ရှိစဉ် အနာထပိဏ်သည် ၎င်း၏ယောက်ဖထံ ဝင်ရောက်လည်ပတ်သည်။ ထိုစဉ် ယောက်ဖဖြစ်သူက ပုံမှန်အတိုင်း ဖော်ရွေသောအမူအရာဖြင့် အနာထပိဏ်အားကြိုဆိုရန် ပျက်ကွက်သွားသည်အထိ ကျွေးမွေးပွဲတစ်ခုအတွက် ပြင်ဆင်မှုကို အရေးတကြီး ဆောင်ရွက်နေသည် 'ဤကြီးကျယ်သည့် အခါသမယကား မည်သည့်အတွက် ဖြစ်ပါသလဲ။ လက်ထပ်မင်္ဂလာပွဲပေလား။ ဘုရင်မင်းကြီး အလည်လာမည့် (ကိစ္စ)လား'ဟု အနာထပိဏ်က မေး



မြန်းသည်။ ယောက်ဖဖြစ်သူက မိမိသည် ဗုဒ္ဓရှင်တော်မြတ်နှင့် ရဟန်းတော်များအတွက် ဆွမ်းပြင်နေကြောင်းဖြေကြားသည်။ 'ဗုဒ္ဓ'ဟူသော အသံကို ကြားရုံမျှ၌ပင် အနာထပိဏ်သည် မြတ်ဗုဒ္ဓအား ယခုချက်ချင်း သွားရောက်ဖူးမြော်လိုကြောင်း ထုတ်ဖော်ပြောကြားသည်အထိ နှစ်သက်ပီတိပြည့်လျှံသွားသည်။ ယခုအခါ မသင့်တော်သော အချိန်ကာလဖြစ်ကြောင်း ပြောပြသဖြင့် အနာထပိဏ်သည် နောက်နေ့နံနက် လင်းအားကြီးအချိန်ရောက်မှ သွားရောက်တွေ့ဆုံရန် ဆုံးဖြတ်လိုက်သည်။ အနာထပိဏ်သည် ညအချိန်တွင် မိုးလင်းပြီအထင်ဖြင့် သုံးကြိမ်နိုးထမိသည်အထိ ဗောဓိဉာဏ်ကို ပြီးပြည့်စုံစွာ ရရှိပြီးဖြစ်သည့် (မဟာ)လူသား ဗုဒ္ဓရှင်တော်မြတ်အား ရတောင့်ရခဲ တွေ့ဆုံခွင့်အပေါ် အလွန့်အလွန် ပျော်ရွှင်သွားပြီး (ဖူးတွေ့ရန်) မျှော်လင့်စိတ် ပြင်းပြသွားခဲ့သည်။ နောက်ဆုံး၌ အနာထပိဏ်သည် အရဏ်မတက်မီ နိုးထပြီး မြို့မှ ထွက်သွားသဖြင့် တောစပ်သို့ဝင်မိသောအခါ အလင်းရောင် မလာသေးသည့် အချိန်ဖြစ်ကြောင်း သိမြင်သွားပြီး ထိတ်လန့်သွားသည်။ အနာထပိဏ်သည် တုံ့ဆိုင်းသွားပြီး နောက်သို့ပြန်ဆုတ်ရန် စဉ်းစားသည်။ ထိုအချိန် ယက္ခ (ဘီလူး)တစ်ယောက် ရုတ်တရက်ပေါ်လာပြီး (ရောက်နေသည့်) နေရာတစ်ခုလုံးကို လင်းစေလျက် အနာထပိဏ်အား ရှေ့သို့ဆက်သွားရန် အားပေးစကား ဆိုသည်။

အနာထပိဏ်နှင့် မြတ်ဗုဒ္ဓတို့သည် နံနက်လင်းအားကြီးအချိန်၌ တွေ့ဆုံကြပြီးနောက် အနာထပိဏ်က မြတ်ဗုဒ္ဓအား နောက်လာမည့် ဝါတွင်းကာလများကို သာဝတ္ထိ၌ သီတင်းသုံးရန် လျှောက်ထားသည် 'ဒါယကာ အနာထပိဏ်၊ ဘုရားရှင်တို့မည်သည် ဆိတ်ငြိမ်ရာအရပ်ကို နှစ်သက်တော်မူကြ၏'ဟု မိန့်ကြားလျက် (သာဝတ္ထိတွင်)ရှိစဉ် မြတ်ဗုဒ္ဓနှင့် တပည့်သာဝကများ သီတင်းသုံးရန် ဆိတ်ငြိမ်သည့်နေရာ ရလိုကြောင်း အနာထပိဏ်အား သိသာစေပြီး (အနာထပိဏ် လျှောက်ထားချက်ကို) လက်ခံသဘောတူတော်မူသည် 'တပည့်တော် နားလည် သဘောပေါက်ပါပြီ ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရား (ဝိ ၄၊ ၁၀၅)'။

နှစ်တိုင်တိုင် သီတင်းသုံးတော်မူခဲ့သည်ကို နှလုံးသွင်းမိကြသဖြင့် (ဤကျောင်းဝိဟာနှင့်) ဝေးကွာလှသောနေရာနိုင်ငံ၌ မွေးဖွားကြရခြင်းအပေါ် မကျေမချမ်းဖြစ်မိကြသည်။ နယ်မြေများစွာကို ကျော်ဖြတ်လျက် မိမိတို့နှင့်အတူ ခရီးထွက်ခဲ့ကြသော မိတ်ဆွေအဖော်(ရဟန်း)အချို့မှာ ပြန်သွားခဲ့ကြပြီး အချို့မှာ သေဆုံးသွားကြပြီ ဖြစ်သည်။ မြတ်ဗုဒ္ဓကို မဖူးတွေ့ရတော့သည့် နေရာတော်များကို ငေးမောကြည့်ရှုကြရင်း ၎င်းတို့(နှစ်ပါး)သည် နက်ရှိုင်းစွာ ခံစားမိကြပြီး လွမ်းစိတ်ရင်ဝယ် ပြည့်လျက်ရှိကြသည်။ ထို(ဇေတဝန်)ရှိ ရဟန်းတော်များက ၎င်း(ဖာဟီယန်)နှင့် တာအိုချင်တို့ကို လာရောက် မေးမြန်းကြသည်။ ၎င်းတို့က ''အရှင်ဘုရားတို့ အဘယ်အရပ်က ကြွလာကြပါသနည်း''ဟု မေးကြသည်။ ဖာဟီယန်က ''တပည့်တော်တို့ တရုတ်ပြည်က လာခဲ့ပါသည်ဘုရား'' ဟု ဖြေသည်။ ''ဤမျှဝေးကွာသည့်နေရာမှ ပုဂ္ဂိုလ်များသည် ဤမျှရှည်လျားသည့် ခရီးလမ်းဖြင့် ဓမ္မကိုရှာဖွေရန် ကြွရောက်လာကြခြင်းကား အံ့ဖွယ်ကောင်းစွ''ဟု ထိုရဟန်းတော်များက အံ့သြစကား ဆိုကြသည်။ ထို့နောက် ထို(အိန္ဒိယ)ရဟန်းများ အချင်းချင်း ''ဤ(ဇေတဝန်)မှာ ရှေးအခါကစပြီး တပည့်တော်တို့၏ ဆရာ(မထေရ်)များပင် တရုတ်ရဟန်းတော် တစ်ပါးတလေမျှကို မမြင်စဖူးပါ''ဟု မှတ်ချက်ပြုကြသည်'။

ရဟန်းတော် ဟူယင်ဆန် ရောက်ရှိသွားချိန်၌မူ သာဝတ္ထိရော ဇေတဝန်ပါ လူသူမရှိဘဲ အပျက်အစီးများသာ ရှိတော့သည်။ ဇေတဝန်နှင့်ပတ်သက်၍ ဟူယင်ဆန်က '(ရဟန်းတော်များ)နေထိုင်သည့် နေရာအားလုံး ဖျက်ဆီးခံထားရပြီဖြစ်သည်။ အပျက်အစီးများအကြား တစ်ခုတည်းသော အထီးကျန် အုတ်အဆောက်အအုံမှတစ်ပါး အုတ်မြစ်နေရာများသာ ကျန်တော့သည်။ ဗုဒ္ဓဆင်းတုတော် တစ်ဆူလည်း ကြွင်းကျန်နေသေးသည်'ဟု ဖော်ပြသည်။ သို့ရာတွင် ရှေး ဟောင်းသုတေသနဆိုင်ရာ စုံစမ်းလေ့လာမှုများအရ ဟူယင်ဆန် ကြွရောက်ပြီးနောက်များမကြာမီ အချိန်၌ပင် ဇေတဝန်ဥယျာဉ်အတွင်းရှိ ကျောင်းဆောင်များအားလုံးကို ပြန်လည် ထိန်းသိမ်းထားပြီး ကျောင်းဆောင်အသစ်များ



ကျင်၌ (ဇေတဝန်ကျောင်း)နှင့် ညီမျှသောအခြားကျောင်းတိုက်ကြီးများ တည်ဆောက်ခဲ့သည်။ ပုဗ္ဗာရာမ (အရှေ့ပိုင်းကျောင်းတိုက်၊ ယခုအခါ ခါနဗာရီကျေးရွာဖြစ်သည်)နှင့် **ရာဇကာရာမ**ကျောင်းတိုက် (သံ ၃၊ ၃၁၄)တို့ဖြစ်ပြီး ဤနှစ်ကျောင်းမှာ အထင်ရှားဆုံးဖြစ်လျက် ဗုဒ္ဓရှင်တော်မြတ်သည် ဒေသနာတော်အများစုကို ဟောကြားတော်မူခဲ့သည်မှာ သာဝတ္ထိဝန်းကျင်ရှိ ဤကျောင်းတိုက်ကြီးများနှင့် အခြားနေရာ ဒေသများတွင် ဖြစ်သည်။

ဗုဒ္ဓလက်ထက်တော်က သာဝတ္ထိတွင် ဖြစ်ပျက်ခဲ့သည့် ဖြစ်ရပ်များစွာအနက် အထင်ရှားဆုံးမှာ (ခိုးသားကြီး)အင်္ဂုလိမာလ ဗုဒ္ဓအဆုံးအမကို ခံယူသွားခြင်းဖြစ်သည်။ ဤခိုးသားလူသတ်သမားသည် လူပေါင်းများစွာကို သတ်ဖြတ်ခဲ့ပြီး ဖြစ်သည်။ (သို့ဖြစ်၍) ကွာလှမ်းသည့် ကျေးလက်နေလူအများသည် မိမိပိုင်ပစ္စည်းများကိုယူပြီး မြို့ကြီးများသို့ ပြောင်းရွှေ့ကြရသည်။ အသတ်ခံရသူတိုင်းထံမှ လက်ညှိုးတစ်ချောင်းကိုဖြတ်ပြီး လည်ပင်းတွင် လည်ဆွဲရတနာ(ကဲ့သို့) ချိတ်ဆွဲထားသည်။ ထို့ကြောင့် သူ့အမည် အင်္ဂုလိမာလ (လက်ညှိုးပန်း)ဟုတွင်သည်။ ဤသတင်းကို ဗုဒ္ဓရှင်တော်မြတ် ကြားသိတော်မူသောအခါ မြတ်ဗုဒ္ဓသည် အင်္ဂုလိမာလ လှုပ်ရှားနေသည့်ဆိုသောနေရာသို့ ၎င်း(အင်္ဂုလိမာလ)နှင့် တွေ့ဆုံရန် အထူးရည်ရွယ်ချက်ဖြင့် ထွက်ကြွတော်မူသည်။

လူသူကင်းမဲ့သော လမ်းတစ်နေရာ၌ အင်္ဂုလိမာလသည် ဗုဒ္ဓရှင်တော်မြတ်ကို တွေ့မြင်သွားပြီး (ဗုဒ္ဓထံ) တစ်ရှိန်ထိုး ပြေး၍ လိုက်သည်။

---

ကို ကိုယ်စားပြုသည်။ ဤကျောင်းတိုက်ကို ဆောက်လုပ်စဉ် ဇေတမင်းသားသည် ဥယျာဉ်ရောင်းရငွေ ၁၈-ကုဋေဖြင့် ကိုးကုဋေစီတန်သည့် အဝင်မုခ်ဦးတစ်ခုနှင့် ပြာသာဒ်ဆောင်တစ်ခု လှူဒါန်းသည်။ ထို့ပြင် ဥယျာဉ်အတွင်းရှိ အဖိုးတန်သစ်ပင် ပန်းမာန်အားလုံးကိုလည်း လှူဒါန်းသည်။ ကျောင်းတိုက်ကြီးအတွင်းရှိ ငါးဆယ့်လေးကုဋေ တန်ဖိုးမျှရှိသော ကျန်အဆောက်အအုံများကို အနာထပိဏ်က လှူဒါန်းသည်။ ဤကောင်းမှုရှင်နှစ်ယောက်၏ ဒါနကောင်းမှုကို နောင်လာနောင်သားတို့ အတုယူနိုင်စေရန် အရှင်အာနန္ဒာမထေရ်က (ပထမသံဂါယနာတင်စဉ်အခါ၌) 'ဇေတဝနေ ဝိဟရတိ အနာထပိဏ္ဍိကဿ အာရာမေ'ဟု မိန့်တော်မူခြင်း ဖြစ်သည် (မ-ဋ္ဌ ၁၊ ၆၁)။

အင်္ဂုလိမာလ အမြန်ဆုံး ပြေးသော်လည်း ဗုဒ္ဓကို လိုက်မမီဘဲဖြစ်နေ
သည်။ သို့သော် ဗုဒ္ဓရှင်တော်မြတ်မှာ သက်သောင့်သက်သာ လျှောက်
လှမ်းနေခြင်းသာဖြစ်သည်။ အားအင်ကုန်ခမ်း မောပန်းသွားပြီး အံ့သြ
သွားသဖြင့် အင်္ဂုလိမာလက ဗုဒ္ဓရှင်တော်မြတ်အား ‘ရဟန်း၊ ရပ်လိုက်’
ဟု လှမ်းအော်သည်။ ဗုဒ္ဓရှင်တော်မြတ်က ‘ငါရပ်နေသည်၊ အင်္ဂုလိမာလ
သင်ရပ်ပါ’ဟုပြန်၍ မြွက်ဆိုသည်။ အင်္ဂုလိမာလက ဗုဒ္ဓရှင်တော်မြတ်၏
ရည်ရွယ်ချက်ကို မေးမြန်းသည်။ မြတ်ဗုဒ္ဓက မိမိသည် သတ္တဝါတွေကို
သတ်ဖြတ်ညှဉ်းပန်းခြင်းမှ ရပ်စဲခဲ့ပြီဖြစ်ပြီး အင်္ဂုလိမာလလည်း နည်း တူ
(ထိုကိစ္စမှ) ရပ်ဆိုင်းသင့်သည်ဟု ဆိုလိုကြောင်း မိန့်တော်မူသည်။ လူ
သတ်သမားသည် ၎င်း၏သန်လျက်ကို ပစ်ချပြီး မြတ်ဗုဒ္ဓ၏ခြေတော်ရင်း
၌ ဦးညွတ်လျက် ရဟန်းပြုခွင့်တောင်းသည်။ နောင်အခါ အင်္ဂုလိမာလ
သည် ရဟန္တာဖြစ်သွားသည်။ သို့တစေ ၎င်း(အင်္ဂုလိမာလ)၏ ထိတ်လန့်
ဖွယ် အတိတ်လုပ်ရပ်ကို သတိရနေကြသည့် ပုဂ္ဂိုလ်များ၌ တည်ရှိဆဲ
ခံပြင်းမှု၊ စော်ကားမှုတို့ကို သည်းခံရဆဲဖြစ် သည် (မ ၂။ ၃၀၀)။

ဗုဒ္ဓရှင်တော်မြတ် မရှိတော့သည့်နောက် ရာစုနှစ်များအတွင်း သာ
ဝတ္ထိသည် ဆုတ်ယုတ်သွားခဲ့သော်လည်း ဗုဒ္ဓဝါဒ၏ အရေးပါသည့် ဗဟို
ဌာနအဖြစ် ဆကလက်၍ တည်ရှိနေခဲ့သည်။ ရဟန်းတော် ဖာဟီယန်
သာဝတ္ထိသို့ရောက်သွားသောအခါ မြို့တော်သည် ဆုတ်ယုတ်နေပြီဖြစ်ပြီး
အိမ်ထောင်စု နှစ်ထောင်ခန့်မျှသာ နေထိုင်ကြတော့သည့် မြို့ငယ်တစ်ခုမျှ
သာ ဖြစ်တော့သည်။ သို့ရာတွင် ဇေတဝန်သည် ရှင်သန်လှုပ်ရှားလျက်
ရှိသည့် အချက်အချာနေရာတစ်ခု ဖြစ်ဆဲရှိပုံရသည် ‘၎င်း(ဇေတဝန်)၏
ဝင်ပေါက်ဂိတ်သည် အရှေ့ဘက်ကို မျက်နှာမူနေပြီး ယင်း(ဂိတ်ပေါက်)
သည် အခန်းငယ် နှစ်ခုရှိလျက် ထိုအခန်းငယ်များရှေ့၌ ကျောက်တိုင်
နှစ်တိုင်ရှိသည်။ ဘယ်ဘက် ကျောက်တိုင်၏ထိပ်တွင် ဓမ္မစကြာဘီးပုံ
ရှိပြီး ညာဘက်ကျောက်တိုင်ထိပ်များ၌မူ နွားလားဥသဘပုံရှိသည်။ ရေ
ကန်ရေသည် ကြည်လင်ပြီး သစ်ပင် ပန်းမန်များ ကြွယ်ဝလှသည်။



ရောင်စုံပန်းများက နှစ်သက်ဖွယ် ရှုမြင်ကွင်းကို ဖန်တီးထားသည်’။

ဖာဟီယန်သည် ဇေတဝန်ကျောင်းတော်အတွင်း၌ ဂန္ဓကုဋိတိုက်
ခန်းဖြစ်ဖွယ်ရှိသည့် ဘုရားကျောင်းတစ်ခု တွေ့သည်။ ယင်းဘုရား
ကျောင်း၌ အလွန်ကျော်ကြားသည့် စန္ဒကူးနံ့သာသား ဗုဒ္ဓဆင်းတုတော်
တစ်ဆူရှိသည် ‘ဇေတဝန်ကျောင်းတော်သည် မူလက ခုနစ်ထပ်မြင့်
သည်။ နိုင်ငံပေါင်းများစွာမှ ဘုရင်များ၊ မြို့သူမြို့သားများသည် ဤ
(ဘုရားကျောင်း)၌ လှူဒါန်းပေးကမ်းမှုများကို တစ်ဦးနှင့်တစ်ဦး အပြိုင်
အဆိုင် ဆောင်ရွက်ကြသည်။ ပိုးသားတံခွန်များ၊ မျက်နှာကြက်များ
ချိတ်ဆွဲထားပြီး ပန်းများကို ကြဲချလျက် ငြိမ်းမသွားစေဘဲ နေ့ရောညပါ
ထွန်းလင်းနေသည့် မီးအိမ်များ ထွန်းညှိထားကြသည်။ ၎င်းနောက်
ကြွက်တစ်ကောင်သည် မီးအိမ်တစ်ခုမှ မီးစာကို ပါးစပ်ဖြင့် ကိုက်ချီ
သွားသဖြင့် ပန်းများ၊ အလံတံခွန်များ၊ မျက်နှာကြက်များကို မီးလောင်
စွဲသည်။ ခုနစ်ထပ်ရှိ အဆောက်အအုံကြီးသည် မီးလျှံထဲပါသွားသည်။
နိုင်ငံပေါင်းများစွာမှ ဘုရင်များ၊ မြို့သူမြို့သားများသည် ဆင်းတုတော်
မြတ်လည်း မီးခသွားလိမ့်မည်ဟု ထင်မှတ်ပြီး အလွန်စိတ်မကောင်း
ဖြစ်ကြသည်။ သို့ရာတွင် လေးငါးရက်ကြာပြီးနောက် အရှေ့ဘက်ရှိ
ဘုရားကျောင်းငယ်တစ်ခု၏ တံခါးကို ဖွင့်ကြည့်မိသောအခါ မပျက်
မစီးကျန်ရှိနေသေးသည့် ဗုဒ္ဓဆင်းတုတော်မြတ်ကို တွေ့ရသဖြင့် အံ့သြ
ဝမ်းသာဖြစ်သွားကြသည်။ မြို့သူမြို့သားများသည် (ဇေတဝန်)နှစ်ထပ်
ကျောင်းဆောင်သစ် ပြန်လည်တည်ဆောက်ကြပြီး ဆင်းတုတော်ကို
မူလနေရာသို့ ပြန်လည် ပြောင်းရွှေ့ထားလိုက်ကြသည်’။

ဖာဟီယန်က ၎င်းနှင့်၎င်း၏ အဖော်ရဟန်းတော်တို့ ဗုဒ္ဓရှင်တော်
မြတ် စင်္ကြံလျှောက်တော်မူခဲ့သည့်နေရာ၌ စင်္ကြံလျှောက်ရခြင်းအတွက်
စိတ်လှုပ်ရှားရပုံနှင့် တရုတ်ရဟန်းတော်များကို ပထမဆုံး အကြိမ်
မြင်တွေ့ရသဖြင့် အိန္ဒိယရဟန်းတော်များ တအံ့အသြ ဖြစ်နေကြပုံကို
ဖော်ပြထားသည် ‘ဇေတဝန်ကျောင်းတော်သို့ ရောက်သွားခြင်း၌ ဖာဟီ
ယန်နှင့် တာအိုချင်တို့သည် ဤနေရာ၌ ဗုဒ္ဓရှင်တော်မြတ် နှစ်ဆယ့်ငါး

ငွေ)ကို ရှောင်လွှဲလိုခဲ့သည်။ ထို့ပြင် ဖခင်သည် သားတော်မောင် (နာမကျန်းသူ)အား နှစ်သိမ့် (အားပေးစကားဆို)ရန် လာရောက်ကြသူများအား ညှော်ခံကျွေးမွေးရန် အလိုမရှိသဖြင့် သားဖြစ်သူအား အိမ်အပြင် (ဝရန်တာ)သို့ ထုတ်ထားသည်။ ဤသတင်းကို ဗုဒ္ဓရှင်တော်မြတ် ကြားသိတော်မူသောအခါ မဋ္ဌကုဏ္ဍလီ မကွယ်လွန်မီ အချိန်ကလေး၌ ဗုဒ္ဓသည် မဋ္ဌကုဏ္ဍလီ၏ရှေ့၌ ကိုယ်ထင်ရှားပြ၍ မဋ္ဌကုဏ္ဍလီသည် ဗုဒ္ဓရှင်တော်မြတ်အား ဖူးမြင်ရခြင်းကြောင့် အလွန်ပျော်ရွှင်သွားပြီး (ကွယ်လွန်သောအခါ) နတ်ပြည်၌ ပြန်လည်မွေးဖွားသည်။

၁၂။ အမျိုးသားတစ်ယောက်က အမျိုးသမီးတစ်ယောက်ကို လက်ထပ်ရာ ထိုအမျိုးသမီးမှာ သားသမီးမမွေးဖွားသည့် အမြုံမဖြစ်နေသည်။ သို့ဖြစ်၍ ထိုအမျိုးသားသည် နောက်ထပ် ဇနီးတစ်ယောက် ရယူသည်။ မယားကြီးက ထို(မယားငယ်)ကို ပြိုင်ဘက်ရန်သူအဖြစ်ယူဆပြီး မယားငယ်အပေါ် ဝန်တိုစိတ် အကြီးအကျယ် ဖြစ်ပွားသည်။ မယားငယ်ကိုယ်ဝန်ရှိလာသောအခါ မယားကြီးက မယားငယ် သားလျှောအောင် စီမံသည်။ ထိုအမျိုးသမီး နှစ်ယောက်သည် ၎င်းတို့၏ ပြိုင်ဆိုင်မှုနှင့် အမုန်တရားကို ဘဝပေါင်းများစွာ ဆောင်ယူခဲ့ကြသည်။ နောက်ဆုံး၌ မြတ်ဗုဒ္ဓသည် နှစ်ယောက်လုံးနှင့် အမှတ်မထင် တွေ့ဆုံပြီး ကြာမြင့်စွာ တည်ရှိခဲ့သော ၎င်းတို့၏အမုန်တရားက ၎င်းတို့နှစ်ယောက်အား ဆင်းရဲဒုက္ခအထွေထွေကို ဖြစ်ပေါ်စေခဲ့ပြီးဖြစ်ကြောင်း ဟောတော်မူလျက် ၎င်းတို့ နှစ်ယောက်အကြား ပြန်ဖြေပေးသည်။

၁၃။ မြတ်ဗုဒ္ဓ၏ ညီအစ်ကိုဝမ်းကွဲ တော်စပ်ပြီး ကောက်ကျစ်သူ ဒေဝဒတ်သည် ဘဝဆုံးခါနီးတွင် ၎င်း၏အပြုအမူများအပေါ် နောင်တရခဲ့သည်။ တောင်းပန်မှုပြုနိုင်ရေးအတွက် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူနေသောမြတ်ဗုဒ္ဓအား ဖူးမြော်ရန်(မိမိအား) ယူဆောင်သွားဖို့ (၎င်း၏တပည့်များအား) ပြောဆိုသည်။ သို့သော် ဗုဒ္ဓရှင်တော်မြတ်အား မဖူးမြော်လိုက်ရမီပင် ဒေဝဒတ်ကွယ်လွန်ပြီး မြေကြီးပေါ်ရှိတွင်းနက်တစ်ခု၏ ဝါးမျိုသွားခြင်းခံခဲ့ရသည်။





ပြန်လည် တည်ဆောက်လျက် ယင်း(ကျောင်းတိုက်)သည် အေဒီ ၁၂–ရာစုတိုင်အောင် ဆက်လက်၍ စည်ပင်ထွန်းကားခဲ့သည်။ ၎င်းနောက်တွင် ဇေတဝန်သည် လူသူကင်းမဲ့ပြီး သစ်တောများ ဝါးမျိုသွားသည်။

၁၈၆၃–ခုနှစ်တွင် ဖာဟီယန်နှင့် ဟူယင်ဆန်တို့၏ ခရီးသွားမှတ်တမ်းများ၌ ဖော်ပြထားသည့် သတင်းအချက်အလက်များကို အသုံးပြုလျက် ကန်နင်ဟမ်သည် ယခုအခါ ဆာဟေထဟုခေါ်သည့် ဇေတဝန်ကျောင်းတော်ရာနှင့် ယခုအခါ မဟေထဟုခေါ်သည့် သာဝတ္ထိတို့ကို တွေ့ရှိခဲ့သည်။ ကန်နင်ဟမ်သည် တူးဖော်မှုအချို့ပြုလုပ်ရာတွင် မိမိ၏ (ယင်းသို့)ထပ်တူဖော်ပြမှုကို သက်သေပြသည့် ရေးသားချက်အချို့ တွေ့ရှိခဲ့ပြီး ၁၈၇၆–ခုနှစ်တွင် ထိုထက်ပို၍ ပြုလုပ်နိုင်ရန် တစ်ခေါက်ပြန်လာခဲ့သည်။ ထိုအချိန်ကစ၍ နောင်တွင်ရှေးဟောင်းသုတေသန တူးဖော်ရေးလုပ်ငန်းများကို လေးငါးခြောက်ကြိမ် ပြုခဲ့သည်။ နောက်ဆုံးအကြိမ်ကို ဂျပန်ရှေးဟောင်းသုတေသန ပညာရှင်များက ၁၉၈၀–ခုနှစ်များ၌ ဆောင်ရွက်ခဲ့သည်။ ယခုအခါတွင် ဇေတဝန်ကျောင်းတော် အပျက်အစီးများကို ကောင်းစွာ ထိန်းသိမ်းထားသည့် ဥယျာဉ်ဖြင့် ဝန်းရံထားသည်။ ဘုရားဖူးများ သို့မဟုတ် ကမ္ဘာလှည့်ခရီးသည်များ ဤနေရာသို့ လာရောက်သောကြောင့် ဤ(ဇေတဝန်ကျောင်းတော်ရာ) နေရာသည် ကောင်းစွာ ဆိတ်ငြိမ်အေးချမ်းပြီး အနှောင့်အလှက်ကင်းသည့် ပတ်ဝန်းကျင်ဖြစ်သည်။ တစ်ခါတစ်ရံ သစ်ပင်များ ချုံပုတ်များ၌ မျောက်များနှင့် ဥဒေါင်းငှက်များကို တွေ့ရသည်။

## ကြည့်ရှုဖွယ်

### ဇေတဝန်ကျောင်းတော်သစ်

ရှေးဟောင်းသုတေသန (ကထိန်းသိမ်းထားသည့်) ဥယျာဉ်ခြံ ပင်မဝင်ပေါက်မှ လမ်းတစ်ဖက်တည့်တည့်လောက်တွင် ‘နဝဇေတဝနမဟာဝိဟာရ’ရှိသည်။ (ယင်းသည်) ကျော်ကြားသည့် သီရိလင်္ကာရဟန်းတော် အရှင်မေတနဝလ သံဃရတန မထေရ် ဦးစီးဆောက်လုပ်ခဲ့သော



ကျောင်းတော်ဖြစ်သည်။ ဘုန်းကြီးကျောင်းရှိ ဘုရားခန်းအတွင်း အိန္ဒိယတွင် တွေ့ရသည့် အကောင်းဆုံး ခေတ်သစ်ပန်းချီကားများရှိသည်။ ပန်းချီအများစုသည် ဗုဒ္ဓလက်ထက်တော်က သာဝတ္ထိတွင် ဖြစ်ပေါ်ခဲ့သည့် ဖြစ်ရပ်များကို ရေးဆွဲထားသည်။ ဗုဒ္ဓလက်ထက်တွင် ဖြစ်ပေါ်ခဲ့ပြီး ဗုဒ္ဓဝါဒသမိုင်းတွင် အရေးလည်းပါသော အဖြစ်အပျက်လေးခုပါဝင်သည်။ ပန်းချီကားချပ်များကို အကြမ်းဖျင်းဖော်ပြရသော် ၎င်းတို့မှာ အောက်ပါ အတိုင်းဖြစ်သည် –

၁။ ဇောဏိဉာဏ်မရမိ မင်းသားသိဒ္ဓတ္ထ၏ဘဝ
၂။ ဇောဓိဉာဏ်ရခါနီး မာရ်နတ်က ဖြားယောင်းခြင်း
၃။ မိဂဒါဝုန်၌ မြတ်ဗုဒ္ဓ တရားဦးဟောကြားခြင်း
၄။ ကုသိနာရုံ၌ မြတ်ဗုဒ္ဓပရိနိဗ္ဗာန်စံတော်မူခြင်း
၅။ အနာထပိဏ်သူဌေး ဗုဒ္ဓရှင်တော်မြတ်နှင့်တွေ့ဆုံခြင်း
၆–၇။ ဇေတဝန်ဥယျာဉ်ကို ဝယ်ယူခြင်း
၈။ အရှင်အာနန္ဒာ ဇောဓိပင်စိုက်ပျိုးခြင်း
၉။ ပုဗ္ဗာရုံကျောင်းတိုက် တည်ဆောက်ခြင်း
၁၀။ စက္ခုပါလသည် ဘဝနှောင်းပိုင်း၌ ရဟန်းပြုသွားပြီး အပြင်းအထန်တရား အားထုတ်လျက် အရဟတ္တမဂ်ဖိုလ်ကို ရရှိတော်မူသည်။ သို့သော် အတိတ်ဘဝတစ်ခုက ကျူးလွန်ခဲ့သော အကုသိုလ် ကြောင့် မျက်စိနှစ်ကွင်း အလင်းကွယ်ပျောက်ခဲ့သည်။ တစ်နေ့တွင် မထေရ် စင်္ကြံလျှောက်နေစဉ် ပိုးမွှားများကို နင်းမိသဖြင့် ပိုးမွှားများ သေကုန်သည်။ အခြားရဟန်းတော်များက ဤကိစ္စကို မြင်သောအခါ ဗုဒ္ဓရှင်တော်မြတ်အား အကြောင်းစုံကို လျှောက်ကြားကြသည်။ မြတ်ဗုဒ္ဓက စေတနာပါသည့် ကျူးလွန်မှုသည်သာ ကံ၏ အကျိုးသက်ရောက်ကြောင်း မိန့်ကြားတော်မူသည်။
၁၁။ မဋ္ဌကုဏ္ဍလီသည် ချမ်းသာသော်လည်း အလွန်ကပ်စေးနှဲသောဖခင်သူဌေး၏ တစ်ဦးတည်းသော သားဖြစ်သည်။ တစ်နေ့ မဋ္ဌကုဏ္ဍလီ နာမကျန်းဖြစ်သည်။ ဖခင်သည် ဆေးသမားအား ပေးရမည့် (အဖိုး

ကြီးအား တွေ့ဆုံပြီး ဗုဒ္ဓအဆုံးအမ၌ တည်စေသည်။

၂၈။ အလက်စန္ဒာသဂရိတ်မင်းကို ဆက်ခံသူများအနက် တစ်ယောက်ဖြစ်သည့် မိလိန္ဒမင်းကြီးသည် အရှင်နာဂသိန်မထေရ်နှင့် ကျော်ကြားလှသည့် ဆွေးနွေးမှုပြီးနောက် ဗုဒ္ဓဘာသာဖြစ်လာသည်။

၂၉။ အနာဂါရိကဓမ္မပါလနှင့် မဟာဗောဓိစေတီ။

၃၀။ အားလုံးဇာတ်နိမ့်များဖြစ်ကြသည့် ဒေါက်တာ ဘင်မ်ရောင်း အမ်ဘေကာ (Dr. Bimrao Ambedkar)နှင့် သန်းဝက်မျှသော နောက်ပါများ ၁၉၅၅-ခုနှစ်၊ အောက်တိုဘာ ၁၄-ရက်နေ့တွင် ဟိန္ဒူဝါဒကို စွန့်ပြီး ဗုဒ္ဓဝါဒကို ခံယူကြခြင်း။ ဤဖြစ်ရပ်သည် ခေတ်သစ်ဗုဒ္ဓဝါဒ ပြန်လည် ရှင်သန်ရေးလှုပ်ရှားမှုတွင် အကြီးကျယ်အခမ်းနားဆုံး ဖြစ်ရပ်တစ်ခုဖြစ်သည်။

၃၁။ (ဆရာတော်) သံဃရတနနှင့် နဝဇေတဝနမဟာဝိဟာရကျောင်းတိုက် တည်ဆောက်ဆဲကာလ ၎င်းနေထိုင်ခဲ့သော တဲကျောင်းနှင့် အိန္ဒိယဒုသမ္မတ ဒေါက်တာ ရှန်ခါဒါယယ်လ်ရှာရမာတို့ ၁၉၈၈-ခုနှစ် ဒီဇင်ဘာ ၃၁-တွင် ကျောင်းတိုက်သစ်ကို ဖွင့်လှစ်ခြင်း- တို့ဖြစ်သည်။

**ဘုရားကျောင်းဆောင်အမှတ် ၁၂**

ပင်မဝင်ပေါက်မှ ဇေတဝန်ကျောင်းတိုက်ထဲသို့ ဝင်သွားလျက် လမ်းအတိုင်းဆက်လက်သွားပြီးနောက် ဘယ်ဘက်သို့ ချိုးလိုက်ပါက ဘုရားဖူးသည် ကျောင်းဆောင်ငယ်တစ်ခုသို့ ရောက်သွားသည်။ ဤကျောင်းဆောင်တွင် လက်ယာရစ် လှည့်လည်နိုင်သော လူသွားလမ်းတစ်ခုနှင့် အခြားတစ်ဘက်တွင် ပိုမိုသေးငယ်သည့် ဘုရားခန်းနှစ်ခုပါသော ပင်မဘုရားဆောင် တစ်ခုပါဝင်သည်။ ပင်မဘုရားဆောင်တွင် ဗုဒ္ဓဆင်းတုတော်တစ်ဆူ ရှိခဲ့ပုံရပြီး အခြားဘုရားခန်းငယ် နှစ်ခု၌လည်း အဝလောကိတေသွာရနှင့် မေတ္တေယျဆင်းတုများ ရှိခဲ့ပုံရသည်။ ဤဘုရားကျောင်းကို တူးဖော်စဉ် ကြမ်းပြင်တွင် လူခေါင်းခွံတစ်ခုနှင့် အခြားအရိုးများ တွေ့ရှိသည်။



၁၄။ ဗုဒ္ဓမြတ်စွာနှင့် အရှင်အာနန္ဒာတို့ နာမကျန်းဖြစ်နေသော ရဟန်းတစ်ပါးအား ပြုစုနေကြပုံ

၁၅။ သကျလူမျိုးတို့ကို အစုအပြုံလိုက် သတ်ဖြတ်ပြီးနောက် အပြန်ခရီးတွင် ဝိဋူဍဘ၏ စစ်သားများ ခြောက်သွေ့သဲသောင်ပြင်၌ အိပ်မောကျနေကြစဉ် ညအခါ ရုတ်တရက်ကြီးထွားလာသည့် ရေလွှမ်းမိုးမှုကြောင့် ပျက်စီးကြရပုံ

၁၆။ ဆင်းရဲသားတစ်ယောက်သည် အလွန်ချောမောလှပသည့် ဇနီးရှိသဖြင့် ယင်း(ဇနီး)အား ပသေနဒီကောသလမင်းက မျက်စိကျသွားသည်။ မင်းကြီးသည် ထိုဆင်းရဲသားအား မင်းမှုထမ်းအဖြစ်ခန့်အပ်လိုက်သည်။ ထို (ဆင်းရဲသား) ယောကျ်ားအား သတ်ပစ်ပြီး ၎င်း၏ မယားချောကို ရယူရန်ရည်ရွယ်ချက်ဖြင့် (ယင်းသို့ ခန့်အပ်ခြင်းဖြစ်သည်။ ဘုရင်က) ဆင်းရဲသားယောကျ်ားအား မဆောင်ရွက်နိုင်သော ကိစ္စတစ်ခုကို ပြုလုပ်ရန် တာဝန်ပေးအပ်ပြီး ဤကိစ္စကို ပြီးအောင် မဆောင်ရွက်နိုင်လျှင် သေဒဏ်ပေးခံရမည်ဟုဆိုသည်။ ၎င်းနောက် မိမိကျူးလွန်ရန် ရည်ရွယ်ထားသည့် မကောင်းမှုကို တွေးမိလျက် ကောသလမင်းကြီး အိပ်မပျော်ဖြစ်နေသည်။ နန်းတွင်းပုဏ္ဏားများက မင်းကြီး အနေဖြင့် ကြီးကျယ်သည့် (တိရစ္ဆာန်များကို သတ်ဖြတ်မည့်) ယဇ်ပူဇော်မှု ပြုလုပ်လျှင် ထိုမကောင်းမှုကံမှ လွတ်မြောက်မည်ဟု လျှောက်ကြားကြသည်။ သို့ရာတွင် ကောသလသည် မြတ်ဗုဒ္ဓအား တွေ့ဆုံပြီး မြတ်ဗုဒ္ဓက ဓမ္မကို ဟောကြားသောအခါ စိတ်သက်သာရာရသွားသည်။

၁၇။ အခါတစ်ပါး၌ မုဆိုးတစ်ယောက်သည် ခွေးများနှင့်အတူ အမဲလိုက်ထွက်သည်။ လမ်းခရီး၌ ရဟန်းတော် တစ်ပါးကို အမှတ်မထင် တွေ့မိသည်။ ယင်းသို့ (ဖမ်းမရခြင်း)ကို ရဟန်းနှင့်တွေ့ရသောကြောင့်ဟု အပြစ်တင်သည်။ အိမ်အပြန်တွင် ထိုရဟန်းကို တွေ့ရပြန်သဖြင့် ဒေါသထွက်ပြီး ခွေးများကို ရဟန်းထံ လွှတ်ပေးလိုက်သည်။ ရဟန်းသည် ခွေးအန္တရာယ်မှ ထွက်မြောက်ရန် သစ်ပင်ပေါ် တက်ပြေးသည်။

ရဟန်း၏သက်န်းသည် မုဆိုးပေါ်သို့ (ကျွတ်)ကျ သည်တွင် ခွေးများသည် မုဆိုးကို ရဟန်းဟုထင်မှတ်ပြီး တိုက်ခိုက်ကြသဖြင့် နောက်ဆုံး၌ (ခွေးကိုက်) ဒဏ်ရာဖြင့် မုဆိုး သေဆုံးသွားသည်။

၁၈။ ဥပ္ပလဝဏ္ဏာထေရီမသည် တောထဲ၌ ကမ္မဋ္ဌာန်းရှုမှတ်၍နေသည်။ ဤတွင် မုဆိုးတစ်ယောက်၏ မုဒိမ်းကျင့်ခြင်း ခံရသည်။ နောင်အခါ မုဆိုးသည် မီးလောင်ကျွမ်း၍သေဆုံးသည်။

၁၉။ ပဋာစာရာ၏ ခင်ပွန်းသည် မြွေကိုက်၍ သေဆုံးသွားပြီး ပဋာစာရာနှင့်သားငယ်နှစ်ယောက်တို့ မိဘများအိမ်သို့ ပြန်ကြသည်။ ၎င်းတို့သည် လမ်းတွင် ရေလျှံနေသည့် အစိရဝတီမြစ်ကို ဖြတ်ရသည်။ ပဋာစာရာသည် သားကြီးကို မိမိခေါ်မှ လာရန်မှာကြားလျက် မြစ်ကမ်းတွင်ထားခဲ့ပြီး (မွေးကင်းစ)သားငယ်ကို (ကမ်းတစ်ဘက်သို့) ယူဆောင် သွားပြီး ၎င်းအားတစ်ဘက်ကမ်း၌ ထားခဲ့သည်။ ပဋာစာရာသည် မြစ်ကို ခဲယဉ်းစွာ ပြန်၍ဖြတ်ကူးလာစဉ် သိန်းငှက်တစ်ကောင် ထိုးဆင်းလာပြီး သားငယ်အား သုတ်ချီသွားသည်။ ဆောက်တည်ရာမရ ဖြစ်ခြင်း၌ ပဋာစာရာသည် ထိုငှက်ကို ချောက်လှန့်ရန် လက်ကို ထိတ်လန့်တကြားဝှေ့ရန်းသည်။ သားကြီးသည် ယင်း (သို့လက်ကို ဝှေ့ရန်းခြင်း)ကို မိမိအား ခေါ်သည်ဟု ထင်မှတ်ပြီး မြစ်ထဲခုန်ဆင်းသည်။ ရေအယဉ်သည် သားကြီးအား ယူဆောင်သွားတော့သည်။ ပဋာစာရာသည် မိမိအိမ်သို့ရောက်သွားရာတွင် အိမ်ကို မီးလောင်သဖြင့် မိဘနှစ်ပါးလုံး သေဆုံးသွားသည်နှင့် ကြုံရပြန်သည်။ ယင်းကြေကွဲဖွယ် ဖြစ်ရပ်များသည် ပဋာစာရာအား သွက်သွက်ခါ ရူးသွပ်သွားစေသည်။ ပဋာစာရာသည် အဝတ်မပါသလောက်ဖြင့် သာဝတ္ထိမြို့၌ လှည့်လည်သွားလာစဉ် မြတ်ဗုဒ္ဓနှင့်တွေ့သည်။ ဗုဒ္ဓရှင်တော်မြတ်က ပဋာစာရာအား သက်သာရာရစေပြီး တရားဓမ္မသင်ကြားတော်မူသည်။

၂၀။ ကိသာဂေါတမီအမည်ရှိ အမျိုးသမီးငယ် တစ်ယောက်သည် သားသေကို မြတ်ဗုဒ္ဓထံယူလာပြီး အကူအညီ တောင်းသည်။ ဗုဒ္ဓရှင်တော်



မြတ်က ကိသာဂေါတမီအား လူမသေဖူးသော အိမ်မှမုန်ညင်းစေ့တစ်စေ့ ရယူရန်မိန့်တော်မူသည်။ ကိသာဂေါတမီသည် မုန်ညင်းစေ့ရှာသောအခါ လူမသေဖူးသည့်အိမ်မှ မုန်ညင်းစေ့ တစ်စေ့တလေမျှပင် မရနိုင်သဖြင့် သေခြင်းတရား၏ သဘာဝမှန်တဖြည်းဖြည်းပေါ်လာပြီး သောကငြိမ်းအေးသွားသည်။

၂၁။ ပသေနဒီကောသလသည် ၎င်း၏မိဖုရားက သားမမွေးဘဲ သမီးမွေးဖွားကြောင်း ကြားသိရသဖြင့် စိတ်မချမ်းမသာ ဖြစ်သည်။ သို့ရာတွင် ဗုဒ္ဓရှင်တော်မြတ်က သမီးတစ်ယောက်သည်လည်း သားတစ်ယောက်ကဲ့သို့ပင် အောင်မြင် ကျော်ကြား နိုင်စွမ်းရှိကြောင်း မြွက်ကြားတော်မူသည်။

၂၂။ မြတ်ဗုဒ္ဓနောက်သို့ အင်္ဂုလိမာလ (လက်ညှိုးဖြတ်ရန်) လိုက်ခြင်း။

၂၃။ ဆန့်ကျင်ဘက် (တိတ္ထိ)ဂိုဏ်းတစ်ခုသည် အမျိုးသမီးတစ်ယောက်အား ကိုယ်ဝန်အတုလုပ်ပြီး ဗုဒ္ဓရှင်တော်မြတ်အား (ကိုယ်ဝန်၏) ဖခင်အဖြစ်ဖြင့် ပရိသတ်အလယ်၌ စွပ်စွဲရန် သွေးထိုးပေးလျက် ဗုဒ္ဓရှင်တော်မြတ်အား အထင်မှားအောင် ကြိုးပမ်းသည်။ စွပ်စွဲမှုပြုနေစဉ် ကြွက်ငယ်တစ်ကောင်က အမျိုးသမီး၏ခါး၌ရှိသော ခေါင်းအုံးကို ချည်ထားသည့် ကြိုးကိုကိုက်ဖြတ်လိုက်သည်။ (ထိုအမျိုးသမီး၏) ကလိမ်ကျမှု အဖြစ်မှန်ကို သိရှိများပြီး ဗုဒ္ဓရှင်တော်အဖို့ အမှန်တရားပေါ်လာသည်။

၂၄။ မိမိအား နှိမ့်ချပြောဆိုသူများနှင့် ဆန့်ကျင်ဘက် (တိတ္ထိ)ဂိုဏ်းများအား နှိမ်နင်းရန် ဗုဒ္ဓသည် ခန္ဓာကိုယ်မှရေနှင့် မီးထွက်အောင်ပြုလျက် အံ့ဩဖွယ်တန်ခိုး ပြာဋိဟာကို ပြတော်မူသည်။

၂၅။ ရာဇဂြိုဟ်မြို့ ပဌမသံဂါယနာ။

၂၆။ ပဋ္ဋနားမြို့ တတိယသံဂါယနာ။

၂၇။ အသောကမင်းသည် ဗုဒ္ဓသာသနာတော်ပြန့်ပွားစေရန် သားတော်မဟိန္ဒအား သီရိလင်္ကာနိုင်ငံသို့ စေလွှတ်တော်မူသည်။ မဟိန္ဒသည် တောလိုက်ထွက်လာသည့် သီရိလင်္ကာဘုရင် ဒေဝါနံပိယတိဿမင်း

ကျိန်းစက် အနားယူ၊ ကမ္မဋ္ဌာန်းရှုမှတ်ပြီး လာရောက် ဖူးမြော်သူများနှင့် စကားစမြည် ပြောဆိုတော်မူသည့် သစ်သားသက်ငယ်မိုးတဲငယ် ဖြစ်ဖွယ်ရှိသည်။ ဇေတဝန်ဥယျာဉ်ကို ဝယ်ယူနေပုံ သရုပ်ဖော်ထားသည့် ဘာရဟုတစေတီတော်မှ(ရရှိသည့်) ရုပ်ကြွတစ်ခုတွင် ကောသမ္ဗကုဋီနှင့်ကို ရော ဂန္ဓကုဋီကိုပါဖော်ပြသည်။ (ယင်းရုပ်ကြွသည်) ဖော်ပြပြီးအဆောက်အအုံပုံစံနှစ်ခု မည်သို့ပုံသဏ္ဌာန်ရှိသည်ဟူသော အတွေးအမြင်ကို ပေးသည်။ ကောသမ္ဗကုဋီသည် အနီး၌ ရွှံ့စေးတံခွန်ပါပြီး အောက်ခြေလေးထောင့်ပုံရှိ သုံးထောင့်ချိုးအမိုးနှင့် အဆောက်အအုံငယ် ပုံသဏ္ဌာန် တွေ့ရသည်။ ဤ(ကျောင်းငယ်)ကို ကြာရှည်ခံမည့် သတ္တုပစ္စည်းဖြင့် တည်ဆောက်ခြင်း မဟုတ်၍ နောင်အခါ အုတ်အဆောက်အအုံဖြင့် အစားထိုးခဲ့သည်။ ဤအဆောက်အအုံ၏ အုတ်မြစ်ကို အစားထိုး (တည်ဆောက်)သည့် ယခုအခါဘုရားဖူးတွေ့ရသော အဆောက်အအုံမှာ ၅ ဒသမ ၇၅ × ၄ ဒသမ ၄၅ မီတာရှိပြီး ဘုရားခန်း ပါသည်။

ကောသမ္ဗကုဋီကို တူးဖော်သောအခါ ကန်နင်ဟမ်သည် ပန်းရောင်သဲကျောက်ဖြင့် ထုလုပ်ထားသည့် ဆင်းတုတော်ကြီး တစ်ဆူတွေ့ရှိခဲ့သည်။ ဆင်းတုတော်၌ ရေးထွင်းထားသည့်စာမှာ များစွာပျက်စီးနေပြီး ဤဆင်းတုကို ဗလအမည်ရှိရဟန်းတော်က ကောသမ္ဗကုဋီ၌ တည်ထားခဲ့ကြောင်း ပြဆိုသည်။ ဤဆင်းတုတော်ကို ယခုအခါ ကာလကတ္တားရှိ အိန္ဒိယပြတိုက်၌ ပြသထားသည်။

ရဟန်းတော်ဟူယင်ဆန် ဤ(ဇေတဝန်ကျောင်းတော်) နေရာသို့ ရောက်သွားသောအခါ ဤဆင်းတုတော်နှင့် ဇေတဝန် ကျောင်းတိုက်အတွင်း မပျက်စီးသေးဘဲ ရှေးဟောင်းပုံစံအတိုင်းတည်ရှိနေသေးသည့် ကောသမ္ဗကုဋီတို့ကို တွေ့မြင်ရသည်။ ကောသမ္ဗကုဋီ၏ ရှေ့တည့်တည့် လောက်တွင် ဗုဒ္ဓရှင်တော်မြတ်သည် စင်္ကြံကိုယ်လှုပ်ရှားမှု ရရှိစေရန် ညနေ အချိန်များ၌ စင်္ကြံလျှောက်နေတော်မူရာဌာနကို အထိမ်းအမှတ်ပြုသည့် အုတ်ခုံရှည်တစ်ခုရှိသည်။



**ကျောင်းဆောင်အမှတ် ၉**

လမ်းဆုံးတွင် ရေတွင်းတစ်ခုနှင့် အခန်းကျဉ်းငယ် နှစ်ဆယ့်တစ်ခု ဝန်းရံနေသောခြံဝင်းနှင့် ကျောင်းဆောင်ရှိသည်။ အရှေ့ဘက်ခြမ်းတွင် လက်ယာရစ်လှည့်လည်နိုင်သည့် လူသွားလမ်းတစ်ခုပါရှိသည့် ဘုရားဆောင်တစ်ခုရှိသည်။ ဤကျောင်းကို အေဒီ ၆–ရာစုတွင် ပထမအကြိမ် တည်ဆောက်ခဲ့သည်။ ၎င်းနောက် အေဒီ ၁၁ သို့မဟုတ် ၁၂ ရာစုတွင် မူရင်းကျောင်းဆောင် အုတ်မြစ်ပုံစံ၌ပင် တစ်ဖန်ပြန်လည် တည်ဆောက်ခဲ့သည်။ ဤကျောင်းဆောင်၌ တွေ့ရှိရသည့် ရှေးဟောင်းပစ္စည်းများအနက် အေဒီ ဂ–ရာစု သို့မဟုတ် ၉–ရာစုလက်ရာ အဝလောကိတေသွာရ ဆင်းတုတစ်ဆူ၊ အေဒီ ၅–ရာစု သို့မဟုတ် ၆–ရာစုလက်ရာ ဗုဒ္ဓဆင်းတုတစ်ဆူပါရှိသည်။ နီညိုရောင်အုတ်ခွက်ပြား တစ်ခု၊ အနီရောင် မဓုရာသဲကျောက်ဖြင့်ပြုလုပ်သည့် ကုဗေရဆင်းတု တစ်ခုနှင့် ဂယာတွင်တွေ့ရသည့် အနက်ရောင် ကျောက်ဖြင့်ပြုလုပ်ထား သည့် ပန်းပုဆင်းတု အပိုင်းအစများဖြစ်သည်။

(ရဟန်းတော်များ၏) အခန်းကျဉ်းတစ်ခုတွင် အုတ်ဖြင့်ပြုလုပ်ထားသည့် အိပ်ရာတစ်ခုပါရှိပြီး အဆုံးတစ်ဘက်၌မူ ခေါင်းအုံးပုံစံဖြင့် အနည်းငယ်မြင့်နေသည်။ နောက်အခန်းကျဉ်းတစ်ခုမှာမူ ကြမ်းပြင်တွင် တစ်ဝက်မြုပ်နေသည့် မြေအိုးကြီး တစ်ခုတွေ့ရသည်။ ဆန်(ပြောင်းစသည်)ကို သိုမှီးသိမ်းဆည်းရန် အသုံးပြုခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။ ၎င်း (မြေအိုး) ဘေးတွင် ကြေးခွက်တစ်ခုနှင့် သံယောက်မတစ်ခု တွေ့ရသည်။ သို့ရာတွင် ဤကျောင်းဆောင်၌ တွေ့ရသည့် စိတ်ဝင်စားဖွယ်အကောင်းဆုံးမှာ မိဂဒါဝုန်ရှိ ဓမ္မစက္ကရာဇိကျောင်းတိုက်ကို (လှူဒါန်း) ဆောက်လုပ်ခဲ့သည့် ကုမာရဒေဝီ၏ ခင်ပွန်းဖြစ်သူ ဂေါဝိန္ဒစန္ဒြမင်းကြီး၏ ကြေးပြားစာတန်းဖြစ်သည်။ ယင်းကြေးပြားစာတန်းကို အခန်းငယ်တစ်ခု၏ ကြမ်းခင်းအောက်တွင် မြုပ်နေသည့် ရွှံ့သေတ္တာအတွင်း သေချာစွာ ထုပ်ပိုးထားသည်ကို တွေ့ရသည်။ အေဒီ ၁၁၃၀–နှစ်၊ ဇွန်လ ၂၃–ရက်နှင့် ညီမျှသည့် ရက်စွဲဖြင့် ဖော်ပြထားသည်။ ယင်း (ကြေးပြား

မှတ်တမ်း)သည် ဇေတဝန်ကျောင်းတော်၌ နေထိုင်ကြသည့် ဗုဒ္ဓဘတ္တာရကအမည်ရှိ ကျောင်းထိုင်ဆရာတော်နှင့် သံဃာတော်များအား ကျေးရွာ ၆–ရွာနှင့် ယင်း (ကျေးရွာ)တို့၏ အခွန်တော်များကိုလှူဒါန်းကြောင်း မှတ်တမ်းတင်ထားသည်။ ဤပေးအပ်မှုကို သေချာစေရန် လူအားလုံးအားသိစေသည်။ ‘မင်းသားများ၊ မိဖုရားများ၊ ထီးနန်းအမွေဆက်ခံမည့်သူများ၊ ဝန်ကြီးများ၊ ပုဏ္ဏားများ၊ တံခါးစောင့်များ၊ စစ်ဗိုလ်ချုပ်များ၊ ဘဏ္ဍာထိန်းများ၊ မှတ်တမ်းထိန်းသိမ်းသူများ၊ ဆေးဆရာများ၊ နက္ခတ်ဗေဒင်ဆရာများ၊ ရာဖြတ်ပုရောဟိတ်များ၊ သတင်းပို့ဆောင်သူများနှင့် ဆင်မြင်းမြို့ရွာနှင့် ရွှေတွင်းများဆိုင်ရာ တာဝန်ရှိသူများ’ဟူသော နန်းတွင်းသူနန်းတွင်းသားအားလုံး၏ ရှေ့မှောက်၌ ကြေညာသည်။ ဤကြေးပြားစာတွင် ဖော်ပြထားသော ကျေးရွာအချို့ (ယနေ့တိုင်)တည်ရှိဆဲဖြစ်ပြီး ၎င်းတို့၏ရှေးဟောင်း အမည်နာမအတိုင်းပင် ထင်ရှားဆဲဖြစ်သည်။

## စေတီရှစ်ဆူ

ကျောင်းဆောင်အမှတ် ၈–၏ မြောက်ဘက် မဝေးသောနေရာတွင် အုတ်စေတီရှစ်ဆူ အတွဲလိုက်ရှိသည်။ ရာစုနှစ် တစ်လျှောက်လုံး ဇေတဝန်ကျောင်းတော်တွင် သီတင်းသုံးခဲ့ကြသော လေးစားအပ်သည့် ဆရာတော်ကြီးများ၏ (အရိုး)ပြာများကို ဌာပနာရန် ဤစေတီများကို တည်ဆောက်ခဲ့ဖွယ်ရှိသည်။ စေတီတော်တစ်ဆူတွင် အေဒီ ၅–ရာစုဟု သတ်မှတ်သည့် ဗုဒ္ဓဒေဝဟူသော အမည်ဖြင့် တံဆိပ်တစ်ခု ပါသည်။

## ဗောဓိပင်

လမ်းမကြီးအတိုင်း ဆက်သွားသော် အာနန္ဒဗောဓိပင်အဖြစ် ဖော်ပြသော သစ်ပင်(ညောင်ပင်) တည်ရှိသည့် အဆောက်အအုံများစွာ၏ အုတ်မြစ်များ ကိုတွေ့ရသည်။ ဇာတကအဋ္ဌကထာအရ လူအများသည် ဇေတဝန်ကျောင်းတော်သို့ ဗုဒ္ဓရှင်တော်မြတ်အား ရှိခိုးပူဇော်ရန် ရောက်လာကြသောအခါ ဗုဒ္ဓရှင်တော်မြတ်မရှိသဖြင့် လူတို့သည် ၎င်းတို့၏ ပန်းများ ပန်းကုံးများနှင့် လှူဒါန်းဖွယ်ရာများကို ဂန္ဓကုဋိတိုက်ခန်းရှေ့တွင် ထားပစ်ခဲ့ကြသည်။ အနာထပိဏ်သူဌေးသည် ဤကိစ္စကိုကြားသိရသော အခါ သူဌေးက ဗုဒ္ဓရှင်တော်မြတ် မရှိချိန်တွင် လူအများသည် ရှင်တော်မြတ်ဘုရားကိုယ်စား မည်သို့ရှိခိုးပူဇော်ရမည်ကို မေးလျှောက်သည်။ ဗုဒ္ဓရှင်တော်မြတ်က လှူဒါန်းဖွယ်ရာများကို ဗောဓိပင်တွင် ချထားလှူဒါန်းခြင်းဖြင့် (အစားထိုးပူဇော်မှု) ပြုနိုင်ကြောင်း မိန့်ကြားတော်မူသည်။

သို့ဖြင့် ဗုဒ္ဓဂယာရှိ ဗောဓိပင်မှ ဗောဓိစေ့တစ်ခု ယူဆောင်ခဲ့ပြီးကြီးကျယ်သည့် အခမ်းအနားဖြင့် ဇေတဝန်ကျောင်းတော်ဝင်းအတွင်း စိုက်ပျိုးသည်။ ယင်းဗောဓိစေ့ကို အရှင်အာနန္ဒာစိုက်ပျိုးသောကြောင့် အာနန္ဒဗောဓိဟု ထင်ရှားလာသည် (ဇာ–ဋ္ဌ ၄၊ ၂၂၈)။ သို့ရာတွင် ဇေတဝန်သည် နှစ်ပေါင်း တစ်ထောင်နီးပါးမျှ တောကြီးမျက်မည်းအဖြစ် စွန့်ပစ်ခံထားခဲ့ရခြင်းနှင့် အာနန္ဒဗောဓိသည် မည့်သည့်နေရာတွင် အမှန်တကယ် တည်ရှိသည်ဟု ညွှန်ပြသည့် ရှေးဟောင်းသုတေသန အထောက်အထား မရှိခြင်းတို့ကြောင့် ဤ(လက်ရှိ)ဗောဓိပင်အား မူလ(အာနန္ဒဗောဓိ)အဖြစ် ဖော်ပြသည်မှာ အတော်အတန် သံသယဖြစ်ဖွယ်ရှိနေသည်။ ဇာတကအဋ္ဌကထာတွင် အာနန္ဒဗောဓိပင်ကို ယခုလက်ရှိ မြန်မာဘုန်းတော်ကြီးကျောင်းအနီး တစ်နေရာတွင် ဖြစ်မည်ဟု ယူဆရသည့် ဇေတဝန်၏ပင်မဂိတ်ပေါက်အနီး၌ စိုက်ပျိုးခဲ့ကြောင်း ပြဆိုထားသည်။

## ကောသမ္ဗကုဋိ

အာနန္ဒဗောဓိပင်၏ မြောက်ဘက်ကပ်လျက် လမ်း၏ဘယ်ဘက်၌ ဇေတဝန်ကျောင်းတိုက်အတွင်း ဗုဒ္ဓရှင်တော်မြတ် နှစ်သက်ပြီး မကြာခဏ ကြွရောက်သည့် နေရာနှစ်ခုအနက် တစ်ခုဖြစ်သည့် ကောသမ္ဗကုဋိ၏ အပျက်အစီးများ ရှိသည်[၃၀]။ မူလအဆောက်အအုံမှာ ဗုဒ္ဓရှင်တော်မြတ်

---

[၃၀] ဇေတဝနဝိဟာရအတွင်း ကရေရိကုဋိ၊ ကောသမ္ဗကုဋိ၊ ဂန္ဓကုဋိနှင့် သလဠာဂါရဟု အဆောင်ကြီးလေးခုရှိသည်။ တစ်ဆောင်လျှင် အဖိုးတစ်သိန်းစီ တန်ဖိုးရှိသည်။ ထိုတွင် သလဠာဂါရကို ကောသလမင်းက ဆောက်လုပ်လှူဒါန်းပြီး ကျန်သုံးဆောင်မှာမူ အနာထပိဏ် သူဌေး၏ ကုသိုလ်ဖြစ်သည် (ဒီ–ဋ္ဌ ၂၊ ၁)။

ကြားပြီး) နှစ်သိမ့်စကား ဆိုကြောင်း၊ ထို့နောက် အရှင်အာနန္ဒာသည် (ဂန္ဓကုဋီ)တံခါးများဖွင့်လျက် ဗုဒ္ဓရှင်တော်မြတ်ထိုင်တော်မူခဲ့သည့် ခုတင်ညောင်စောင်းကို ဖုန်သုတ်ပြီး ညှိုးနွမ်းနေသည့် ပန်းကုံးများနှင့် ကြမ်းပြင်ပေါ် ကြွေကျနေသည့် ပန်းပွင့်များကို လှည်းကျင်းပြီး၊ ခုတင်ညောင်စောင်းတို့ကို အရှင်မြတ်အနေဖြင့် ဗုဒ္ဓအသက်ရှိစဉ်က နေ့စဉ်ပြုနေကျအတိုင်း သင့်တော်ရာ၌ ထားပြန်ကြောင်းလည်း ဖော်ပြသည်။

**စေတီအမှတ် ၉**

ဂန္ဓကုဋီ၏မြောက်ဘက်ကပ်လျက် လမ်း၏ဘယ်ဘက်တွင် ဗုဒ္ဓဆင်းတုတော်မြတ်တစ်ဆူ တွေ့ရှိရသည့် ဂုတ္တာခေတ် နှောင်းပိုင်းလက်ရာ စေတီတော်ငယ်တစ်ဆူ၏ အကြွင်းအကျန်များရှိသည်။ ဆင်းတုတော်မှာ သေးငယ်ပြီး(ဉာဏ်တော်) ၅၀–စင်တီမီတာမျှသာမြင့်သည်။ ဤဗုဒ္ဓဆင်းတုတော်သည် ကြောက်ရွံ့မှုကင်းမဲ့ (အဘယမုဒြာ)ဟန် လက်အနေ အထားဖြင့် ထိုင်နေတော်မူပုံ ရောင်လျှံစက်ကို လုံးဝပွင့်နေသည့် ကြာပန်းပုံဖြင့် တန်ဆာဆင်ထားသည်။ (ကြာပွင့်) ပွင့်ချပ်၏ တစ်ဘက်စွန်းတွင် လျှာထုတ်ထားသည့် ခြသေ့်နှစ်ကောင်ရှိပြီး ဗောဓိသတ္တကိုယ် စားပြုထိုင်နေဟန် ရုပ်ကြွတစ်ခုနှင့် နောက်တစ်ဘက်တွင် ပန်းကုံးကိုင်ဆောင်ထားသည့် ဥပသကာနှစ်ယောက် ဝန်းရံနေသည်။ ရုပ်တုအောက်ခံခုံပတ်လည်တွင် ကုသနခေတ် နှောင်းပိုင်းအက္ခရာဖြင့် ရေးသားထားသည့် စာတန်းတစ်ခုပါသည်။ ‘သာကေတမြို့နေ ပါဝါမြို့သား သီဟဒေဝ၏ ကြည်ညိုစွာ (လှူဒါန်းအပ်သော)အလှူ’ဟု ဖော်ပြသည်။

ဤဆင်းတုတော်ပုံသဏ္ဌာန်နှင့် ဤဆင်းတုတော်ကို ထုလုပ်သည့် ကျောက်သားပုံစံတို့က ဤဆင်းတုကို မဓုရာမြို့တွင် ပြုလုပ်ခဲ့ကြောင်း ဖော်ပြသည်။ သီဟဒေဝသည် ဆင်းတုတော်ကို ဝယ်ယူရန် မဓုရာသို့ သွားရောက်ခဲ့ပြီး သူ ဘုရားဖူးခရီး လှည့်လည်သောအခါ ထိုဆင်းတုတော်ကို ဇေတဝန်ကျောင်းတော်သို့ ပင့်ဆောင် ခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။ ဤဆင်းတုတော်သည် ယခုအခါ လပ်ခနောင်း (မြို့) ပြတိုက်၌ ရှိသည်။



**ဂန္ဓကုဋီတိုက်**

လမ်းအတိုင်း ရှေ့ဆက်သွားသော် ရှေးခေတ် ဗုဒ္ဓဘာသာ၌ အထင်ရှားဆုံး အဆောက်အအုံဖြစ်သည့် နံ့သာတိုက်ခန်းခေါ် ဂန္ဓကုဋီကျောင်းဆောင်၏ အုတ်မြစ်များရှိသည်။ ဘာရဟုတရုပ်ကြွ(၌ဖော်ပြသည့်) မူလဂန္ဓကုဋီတိုက်ခန်းသည် ကောသမ္ဗကုဋီထက်ကြီးလျက် တစ်ပုံစံတည်းဖြစ်ပြီး ကြက်ခြေခတ်အုတ်မြစ်ပုံစံတွင် တည်ဆောက်ထားသည်။ ယနေ့ဘုရားဖူးများ ဖူးတွေ့ရသည့် အပျက်အစီးများမှာ ဂုတ္တာခေတ် (လက်ရာအဆောက်အအုံ)ဖြစ်သည်။ လှေကားများနှင့် စတုဂံပုံ ခန်းဆွယ်တစ်ခုနှင့် အရှေ့ဘက်၌ဝင်ပေါက်၊ ခန်းမဆောင်တစ်ခု၊ ၁ ဒသမ ၈ မီတာထူထဲသည့် နံရံများနှင့် ၂ ဒသမ ၅ မီတာ စတုရန်းရှိသည့် ဘုရားခန်းတစ်ခုပါရှိသည်။ ဤဘုရားခန်းငယ်သည် မူလဂန္ဓကုဋီတိုက်ခန်း နေရာပေါ် နောက်ထပ် တည်ဆောက်သည့် ဂန္ဓကုဋီတိုက်ခန်း ဖြစ်သည်မှာ သေချာသည်။ ခန်းမကျယ်မှာ နှောင်းခေတ်ကျမှ တိုးချဲ့တည်ဆောက်ထားခြင်းဖြစ်လိမ့်မည်။ ၁၉၀၇–၈ ခုနှစ်များ၌ တူးဖော်စဉ်အတွင်း (ရှေးဟောင်းပစ္စည်း တူးဖော်သူ) ဗိုဂေါလ်(Vogal)သည် မူလဂန္ဓကုဋီအဆောက်အအုံပုံစံ အစအနကိုတွေ့၍ မျှော်လင့်ချက်ဖြင့် ဂန္ဓကုဋီတိုက်ခန်း အောက်ခြေကို တူးခဲ့သော်လည်း မည်သည့်ပစ္စည်းမျှ မတွေ့ရချေ။

ဂန္ဓကုဋီဟူသောအမည်သည် တွေ့နေကျ အဆောက်အအုံတစ်ခုထက်ပို၍ အဆောက်အအုံ ပုံပန်းသဏ္ဌာန်ကို ဖော်ညွှန်းသည်။ မြတ်ဗုဒ္ဓအတွက် ပထမဦးဆုံးသော အမြဲနေရာ(အဆောင်)ကို ဇေတဝန်ကျောင်းတိုက်အတွင်း တည်ဆောက်ခဲ့ပြီး လူအများသည် ပန်း၊ စန္ဒကူးနံ့သာများ လှူဒါန်းမှုပြုကြရင်း လာရောက်ကြသောကြောင့် ဂန္ဓကုဋီဟူသော အမည်ကို ရရှိသွားခြင်းဖြစ်သည်။ မကြာမီအချိန်တွင် ဗုဒ္ဓရှင်တော်မြတ် အတွက်တည်ဆောက်သော သို့မဟုတ် မြတ်ဗုဒ္ဓ အမြဲသီတင်းသုံးလေ့ရှိသော မည်သည့် အဆောက်အအုံကိုမဆို ထို(ဂန္ဓကုဋီ)အမည်အတိုင်း ကင်ပွန်းတပ်ကြသည်။ နှောင်းခေတ် ရာစုနှစ်များတွင် ဗုဒ္ဓဆင်း

တုတော်ကိန်းဝပ်တော်မူသည့် ဘုန်းကြီးကျောင်းရှိ မည်သည့်ဘုရားခန်း (ဘုရားဆောင်)ကိုမဆို အလားတူ ဂန္ဓကုဋိဟု အမည်ပေးလာကြသည်။ ရှေးဟောင်းအဋ္ဌကထာများ၌ ဇေတဝန်ကျောင်းတော်ရှိ ဂန္ဓကုဋိကို ဇေတဝန်ကျောင်းတော်၏ အလယ်ဗဟိုတွင် တည်ဆောက်ထားကြောင်း ဖော်ပြထားပြီး (ဇာ–ဌ ၁၊ ၁၀၇)မှာ ရှေးဟောင်းသုတေသနပညာရှင်များက မှန်ကန်သည်ဟုထောက်ခံကြသော အချက်ဖြစ်သည်။ ကန်နင်ဟမ်သည် ဂန္ဓကုဋိမှ ဇေတဝန်၏အရှေ့ဘက်ဂိတ်ဝဟု ယူဆရသော(နေရာ)သို့ သွားသည့် ကောင်းမွန်စွာ ဖောက်လုပ်ထားသော လမ်းကို တွေ့ရှိရသည်။ (ဤသည်မှာ) ဤကျောင်းတိုက်ကြီး အတွင်း အဆိုပါ (ဂန္ဓကုဋိ)၏ အလယ်ဗဟို၌ တည်ရှိပုံကို ညွှန်ပြသည်။

သုမင်္ဂလဝိလာသိနီ (ဒီ–ဋ္ဌ ၁၊ ၄၇)တွင် ဗုဒ္ဓရှင်တော်မြတ်၏ တစ်နေ့တာလုပ်ငန်းစဉ်ကို အသေးစိတ်ဖော်ပြထားပြီး ဗုဒ္ဓရှင်တော်မြတ်သည် ဆွမ်းဘုဉ်းပေးပြီးနောက် ဂန္ဓကုဋိတွင် ကျိန်းစက်တော်မူကြောင်း၊ တရားဓမ္မ ဟောကြားရန် ထို(ဂန္ဓကုဋိ)မှ ကြွတော်မူကြောင်း၊ ညနေခင်းအချိန် မြတ်ဗုဒ္ဓ ခြေဆန့်လိုသောအခါ ယင်း(ဂန္ဓကုဋိ)ရှေ့၌ ခေါက်တုံ့ခေါက်ပြန် စင်္ကြံလျှောက်တော်မူကြောင်း ဖော်ပြသည်။ ဂန္ဓကုဋိအတွင်း၌ အခန်းငယ်(ပရိဝေဏ)တစ်ခု၊ ရေချိုးခန်း၊ (နဟာနကောဋ္ဌက)နှင့် ဗုဒ္ဓသည် စည်းဝေးနေကြသည့် ရဟန်းတော်များအား တစ်ခါတစ်ရံ ရပ်လျက် ခေတ္တခဏ (စကား)မိန့်မြွက်တော်မူရာဖြစ်သည့် ယင်း(ရေချိုးခန်း)သို့ သွားသော ရတနာစီလှေကားတစ်ခု(ယင်းလှေကားကို ရတနာအများအပြားဖြင့် တန်ဆာဆင်ထားသည်ဟု ဆိုလိုဟန်တူသည်)။ သုမင်္ဂလဝိလာသိနီ (ဒီ–ဋ္ဌ ၁၊ ၇)တွင် ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက် လူအများသည် ဗုဒ္ဓရှင်တော်မြတ်မရှိခြင်းအတွက် ပူဆွေးသောက ဖြစ်ကြလျက် ဂန္ဓကုဋိတိုက်ပတ်လည်၌ စုရုံးရောက်ရှိလာကြကြောင်း၊ အရှင်အာနန္ဒာသည် ဇေတဝန်ကျောင်းတော်သို့ ပြန်လာပြီး ထို(ငိုကြွေးနေကြသည့်) ပရိသတ်အား အရာခပ်သိမ်း မတည်မြဲပုံ(ကိုမိန့်





သာဝတ္ထိနှင့်ဇေတဝန်ကျောင်းတော်ရာမြေပုံ
(ဆာဟေထနှင့်မာဟေထ)

ထိုအခါ အရှင်အာနန္ဒာသည် မြတ်စွာဘုရားအား 'ရှင်တော်မြတ်ဘုရား၊ ဤ ဝါးကပ်ကာမြို့သိမ်မြို့ငယ်၊ (ကျေး)တောမြို့ သစ်ကိုင်းသစ်ခက်(ပမာ) မြို့လက်ငယ်မှာ ပရိနိဗ္ဗာန်စံတော်မမူပါနှင့်ဘုရား'ဟု လျှောက်ထားသည် (ဒီ ၂၊ ၁၂၀)။

ဘဝတစ်သက်တာ၏ နောက်ဆုံးနှစ်တွင် ဗုဒ္ဓရှင်တော်မြတ်သည် ရာဇဂြိုဟ်မြို့မှ ထွက်ခွာပြီး မြောက်ဘက်သို့ ဦးတည်လျက် နောက်ဆုံးဒေသစာရီကြွချီတော်မူသည်။ ဗုဒ္ဓရှင်တော်မြတ်သည် နာလန္ဒာ၊ ပတ္တနားနှင့် ဝေသာလီမြို့များကို ဖြတ်သန်းတော်မူသည်။ (ဤခရီးစဉ်မှာ) ပရိနိဗ္ဗာန်စံလွန်တော်မမူမီ နောက်တစ်ကြိမ် ကပိလဝတ္ထုမြို့သို့ ကြွတော်မူရန် ရည်ရွယ်ချက်ကြောင့်(လည်း) ဖြစ်ဖွယ်ရှိသည်။ အသက်အရွယ်ကြီးရင့်ပြီး အားနည်းနေခြင်း၌ ရှင်တော်မြတ်ကြွချီတော်မူသည့် ခရီးသည် ခက်ခဲပြီး နှေးကွေးတော်မူပေလိမ့်မည်။ ရှင်တော်ဗုဒ္ဓကိုယ်တိုင် ဤသို့ မြွက်ဟတော်မူ၏ 'ငါဘုရားသည် ယခုအခါ၌ အသက်အရွယ် ကြီးရင့်လှပြီ။ ဆွေးမြေ့လှပြီ။ နှစ်ကာလတွေ ကြာမြင့်(အဆုံးသို့ရောက်)ခဲ့ပြီ။ အသက်ရှစ်ဆယ်ပြည့်ပြီးဖြစ်ခြင်း၌ ဘဝခရီးကို ဖြတ်သန်းခဲ့ပြီ။ ငါဘုရားသည် ဘဝ၏အဆုံးသို့ရောက်နေပြီ။ လှည်းအိုကြီးသည် သားရေကြိုးဖြင့် တုပ်နှောင်ဖွဲ့ချည်ထားခြင်းဖြင့်သာ ရွေ့လျားနေသကဲ့သို့ ငါဘုရား၏ကိုယ်ခန္ဓာသည်လည်း (အရဟတ္တဖလသမာပတ်ဟူသော ကြိုးဖြင့်) တုပ်နှောင်ထားဖြင့်သာ ဆက်လက်၍ ရွေ့လျားနေရပေ၏' (ဒီ ၂၊ ၈၅)။

ဗုဒ္ဓရှင်တော်မြတ်နှင့် နောက်ပါ ရဟန်းတော်များသည် ပါဝါမြို့သို့ မရောက်မီ ဘဏ္ဍဂါမ (ရှာဖွေ၍ မရသေး)၊ ဟတ္ထိဂါမ (ဟာထောအ မြို့အနီးရှိ ဟထိခါလ)၊ အမ္ဗဂါမ (တမကုဟိမြို့၏အနောက်တောင် ၁၀–ကီလိုမီတာအကွာ အမယာရွာ)၊ ဇမ္ဗုဂါမ(ဟထိခါလ၏ အနောက်မြောက် ၁၃–ကီလိုမီတာအကွာရှိ ဇမုနာဟိအရပ်)နှင့် ဘောဂနဂရ (ဒေအိုရိယခရိုင်ရှိ အမယာနှင့် ဖဇီလနဂရတို့၏ အနောက်ဘက် ၁၀–ကီလိုမီတာအကွာရှိ ဘောဒရောနရွာ)တို့ကို ဖြတ်ကျော်ခဲ့ရသည်။ ပါဝါမြို့နေ ရွှေပန်းထိမ်ဆရာ စုန္ဒသည် ဗုဒ္ဓရှင်တော်မြတ်အား နောက်ဆုံးဆွမ်းကို



**စေတီအမှတ် ၈**

စေတီအမှတ် ၉ မှ လမ်း၏အခြားတစ်ဘက်တွင် ပိုမိုကြီးမားသည့် နောက်ထပ်စေတီတစ်ဆူရှိသည်။ ဤစေတီတော်သည် မူလက ဝိုင်းဝန်းခဲ့သော်လည်း နှောင်းခေတ် အေဒီ ၉–ရာစုနှင့် ၁၀–ရာစုနှစ်များအတွင်း လေးထောင့်ပုံ ပြန်လည်တည်ဆောက်ခဲ့သည်။ ဤစေတီတော်၏ ဒုတိယပုံသဏ္ဌာန်စေတီတော်၌ ဆင်းတုတော်တစ်ဆူ၏ အောက်ပိုင်း တစ်စိတ်တစ်ဒေသ တွေ့ရသည်။ ရုပ်တုခုံ၌ပါရှိသော စာတန်းမှာ ကုသနခေတ်ဦးပိုင်းအရေးအသားဖြစ်ပြီး 'သာဝတ္ထိမြို့ ဇေတဝန်ကျောင်းတော်၌ ဗောဓိသတ္တဆင်းတုတစ်ဆူကို (တည်ထားသည်)...နှင့် ဝိလိသျှထ (မြို့မှ သီလဓရ၊ ကသျှတြိယ ညီအစ်ကိုများနှင့် မဓုရာ(မြို့)မှ ဓမ္မနန္ဒ၏သားများ၏အလှူဒါန(ဖြစ်သည်)။ စာပေကျမ်းဂန် နှံ့စပ်ပြီး လောကီအာရုံ၏ အစစ်အမှန် မဟုတ်ခြင်းနှင့် ဘဝ၏ မတည်မြဲခြင်းသဘာဝကို (သိနားလည်ခြင်း၌) အလုံးစုံသော ဗုဒ္ဓများအား ပူဇော်သည့်အနေဖြင့် သတ္တဝါ အားလုံး၏ ကောင်းကျိုးအတွက် ၎င်းတို့၏ မိဘများအား အထူးရည်မှတ်၍ ဤဘဝနောင်ဘဝ ဘဝနှစ်တန်၌ ကုသိုလ်ကောင်းမှုကို စုဆောင်းမိရန် အလို့ငှာ ဤဆင်းတုတော်ကို လှူဒါန်းခဲ့သည်။ ဤ(ဗောဓိ သတ္တ)ဆင်းတုကို မဓုရာမြို့မှ ပန်းပုဆရာ သိဝမိတြက ထုလုပ်ခဲ့သည်'ဟုဖော်ပြသည်။

ဤ(ဖော်ပြပြီး)စာတန်း အောက်ဘက်တွင် ဓမ္မစာတော်အနှစ်ချုပ်ကို အေဒီ ၈–ရာစု သို့မဟုတ် ၉–ရာစုအက္ခရာများဖြင့် ရေးထွင်းထားသည်။ ဆင်းတုတော်သည် စေတီတော်၌ ဌာပနာကတည်းက ကျိုးပျက်နေပြီးဖြစ်ပုံရသည်။ ရှိခိုးပူဇော်ရန် မဖြစ်နိုင်လောက်အောင် ဆိုးရွားစွာ ပျက်စီးနေသောကြောင့်ပင် ထိုဆင်းတုတော်ကို စေတီတော်ထဲ၌ ထည့်သွင်း(ဌပနာ)ခဲ့ခြင်းလည်း ဖြစ်ဖွယ်ရှိသည်။ ဤဆင်းတုတော်မြတ်အား (မီးပူးဇော်ခြင်းစသည်ဖြင့်) မစွန့်ပစ်ရက်လောက်အောင် ရိုသေလေးစားကြောင်းလည်း ယူဆနိုင်သည်။ ရေးထားသည့် စာတန်းလည်း စိတ်ဝင်စားဖွယ် ကောင်းသည်။ အကြောင်းမူ ဤအချက်သည် ဗုဒ္ဓဘာသာ ပန်းပုလက်ရာများ ထုတ်လုပ်သည့် အချက်အချာနေရာအဖြစ် မဓု

ရာမြို့ အရေးပါမှု၏ နောက်ထပ် အထောက်အထားတစ်ရပ် ဖြစ်သောကြောင့်တည်း။ ထို့ပြင် ကျောက်စာသည် ရဟန်းတော်များသာမက ဥပါသကာများသည်လည်း ပိဋကတ်ကျမ်းစာများကို တတ်ကျွမ်းကြောင်း ညွှန်ပြသောကြောင့်လည်း အရေးပါခြင်းဖြစ်သည်။

**ကျောင်းဆောင်အမှတ် ၁**

အပျက်အစီးများ၏ မြောက်ဖျားတွင်ရှိ ဤ(ကျောင်းဆောင်အမှတ် ၁) အဆောက်အအုံသည် ဇေတဝန်ကျောင်းတော်၌ တွေ့သမျှတွင် အကြီးဆုံးဖြစ်ပြီး အေဒီ ၁၀–ရာစုအတွင်းက တည်ဆောက်ခဲ့ပုံရသည်။ ဝင်ပေါက်သည် အရှေ့ဘက်သို့ မျက်နှာမူနေပြီး တိုင်လုံးလေးတိုင်ပါသည့် ခန်းမတစ်ခုသို့ ဦးတည်သွားသည်။ ကျောင်းဝင်းကို အခန်းငယ်ပေါင်း ၃၅– ခန်းဖြင့် ဝန်းရံထားပြီး အလယ်၌ ဘုရားဆောင်တစ်ခုရှိသည်။ ဇေတဝန်ကျောင်းတော်ရှိ ဘုန်းတော်ကြီးကျောင်းများစွာကဲ့သို့ ဤကျောင်းဆောင်သည် မီးရှို့ဖျက်ဆီးခံရသည့် အထောက်အထားများရှိသည်။

**ရေကန်**

ဇေတဝန်ကျောင်းတော်ရာ အပျက်အစီးများမှ အနောက်ဘက်ဂိတ်မှ ထွက်ခွာလျက် ကားလမ်းမအတိုင်း အနောက်မြောက်ဘက်သို့ ဆက်သွားလျှင် ဘုရားဖူးသည် မကြာမီ ရေကန်တစ်ခုပေါ်မှ တံတားကို ကျော်ဖြတ်ရလိမ့်မည်။ ဥဒါနပါဠိ(စာ–၅၁)အရ ဗုဒ္ဓသည် ဆွမ်းခံလှည့်လည်စဉ် ငါးများကို ညှဉ်းဆဲနေကြသည့် ကလေးငယ်တစ်သိုက်နှင့် တွေ့သည်။ ဗုဒ္ဓက ကလေးငယ်များအား (မညှဉ်းဆဲရန်) တိုက်တွန်းပြီး နာကျင်မှုကို နှစ်သက်သလားဟု လိမ်မာကျွမ်းကျင်သော နည်းဖြင့် ကလေးငယ်များအား မေးမြန်းသည်။ ကလေးငယ်များက မနှစ်သက်ပါကြောင်း လျှောက်သောအခါ ဗုဒ္ဓက ကလေးတို့အနေဖြင့် မိမိကိုယ်တိုင် ပြုမူဆက်ဆံ ခံရလိုသည့်နည်းတူ အခြားပုဂ္ဂိုလ်များအပေါ် ပြုမူဆက်ဆံသင့်ကြောင်း ညွှန်ပြတော်မူသည်။ ဥဒါနပါဠိတော်လာ ဤတွေ့ဆုံမှု ဖြစ်ရပ်သည် သာဝတ္ထိနှင့် ဇေတဝန်အကြားတွင် ဖြစ်ခဲ့ကြောင်း ပြဆိုသည်။ ထိုနေရာနှစ်ခု အကြားရှိ ဤ(ရေကန်)နေရာသည်သာလျှင် ရေရှိ



သည့်နေရာ ဖြစ်သောကြောင့် ယင်းအဖြစ်အပျက်သည် ဤရေကန် အနီးဖြစ်ပေါ်ခဲ့ရမည်မှာ သေချာသည်။

**သာဝတ္ထိ (မြို့ဟောင်း)**

ကားလမ်းအတိုင်း မြောက်ဘက်သို့ဆက်သွားလျှင် ရှေးခေတ်သာဝတ္ထိမြို့တော် နေရာရှိသည်။ မြို့တော်၏ ကတုတ် ရင်တား(မြို့ရိုး)များသည် လခြမ်းပုံသဏ္ဍာန်ရှိပြီး ငါးကီလိုမီတာခန့် ရှည်လျားသည်။ ရပ္ပတိမြစ်သည် တစ်ချိန်က မြို့ရိုးအတွင်းဘက်သို့ ကွေ့လျက် လမ်းဘေးအတိုင်း စီးဆင်းခဲ့သော်လည်း ယခုအခါ မြောက်ဘက်သို့ ၁ ဒသမ ၅ ကီလိုမီတာခန့်မျှသာ ရှိတော့သည်။ မြို့တော်၏ပင်မဂိတ်သည် မြို့ရိုးများအကြား ယခုခေတ် ကားလမ်းဖြတ်သည့်နေရာ၏ လက်ဝဲဘက် အနည်းငယ် အကွာရှိ ကွက်လပ်နေရာဖြစ်ကြောင်း သတ်မှတ်ထားသည်။ ရှေ့သို့ ကားလမ်းအတိုင်း အနည်းငယ် လိုက်သွားသော် ဘုရားဖူးသည် အုတ်အဆောက်အအုံကြီးနှစ်ခုသို့ ရောက်သွားလိမ့်မည်။ ပထမအဆောက်အအုံကို ယခုအခါ ပက္ကိကုဋိဟုခေါ်ပြီး ဒုတိယအဆောက်အအုံကို ကစ္ဆိကုဋိဟုခေါ်သည်။ အဆောက်အအုံနှစ်ခုလုံး မူလက စေတီတော်များသာ ဖြစ်ဖွယ်ရှိသော်လည်း နှောင်းခေတ်တွင် အခြားရည်ရွယ်ချက်များဖြင့် အသုံးပြုနိုင်ရန် ပြန်လည် ပုံစံပြုဆောက်လုပ်ထားသည်။ မိုးရာသီတွင် ကစ္ဆိကုဋိထိပ်ပေါ်မှ သာယာလှသည့် ဟိမဝန္တာရှုခင်းကို ရရှိနိုင်သည်။

**သွားရောက်ရန်**

ဒေသခံတို့က ဆာရ်ဗာစတီ သို့မဟုတ် ဆာဟေထမာဟေထ(Saheth Maheth) ဟုခေါ်သည့် သာဝတ္ထိသည် ဗာလ်ရမ်ပုရ (Balrumpur)မြို့မှ ၁၇– ကီလိုမီတာခန့် အကွာတွင်ရှိပြီး ၎င်းမှတစ်ဆင့် ဘတ်စ်ကား သို့မဟုတ် မြင်းရထားဖြင့် ကောင်းစွာ ရောက်နိုင်သည်။ ဗာလ်ရမ်ပူရမြို့ကို လပ်ခနောင်းနှင့် ဂေါ်ရခပူရမြို့များမှ ရထားဖြင့် အလွယ်တကူ သွားရောက်နိုင်သည်။ ပုံမှန်တက္ကစီများလည်း လပ်ခနောင်းမှ ဗာလ်ရပ်ပူရ မြို့သို့ သာဝတ္ထိကို ဖြတ်လျက် သွားကြသည်။

မကုဋဗန္ဓန စေတီသို့ ထုတ်ယူပြီး မီးသင်္ဂြိုဟ်ကြသည်။

ဤဖော်ပြပါ အရေးကြီးဖြစ်ရပ် ဖြစ်ပေါ်ခဲ့သောကြောင့် ကုသိနာရုံသည် ဘုရားဖူးများအား ဆွဲဆောင်ခဲ့သဖြင့် စောစောပိုင်းကာလ ကပင် ဘုရားဖူးခရီးစဉ်၏ အချက်အချာနေရာဖြစ်ခဲ့သည်။ ရဟန်းတော် ဟူယင်ဆန် ကုသိနာရုံသို့ ကြွရောက်တော်မူစဉ်က (ကုသိနာရုံတွင်ရှိသည့်) ကျောင်းတိုက်များနှင့် ဘုရားစေတီများမှာ ပျက်စီးကုန်ကြပြီဖြစ်သည်။ (ဤသည်မှာ) နိုင်ငံရေးကသောင်းကနင်း ဖြစ်ခဲ့သည့် ခေတ်တစ်ခေတ်ကြောင့် ဖြစ်ဖွယ်ရှိသည်။ ဟူယင်ဆန်သည် လျောင်းတော်မူ ဗုဒ္ဓဆင်းတုတော်တစ်ဆူရှိသည့် ဘုရားကျောင်းတစ်ခုကို တွေ့ရ၏။ ယင်းဘုရားကျောင်းဆောင် နောက်(အရှေ့ဘက်)ရှိ စေတီတစ်ဆူမှာ ပျက်စီးနေသော်လည်း ၆၁–မီတာမြင့်ပြီး ယင်း(စေတီတော်)၏ရှေ့တွင် ကျောက်တိုင်ကြီးတစ်ခုရှိသည်။ စုန္ဒ(ပန်းထိမ်သည်)၏ အိမ်နေရာနှင့် သုဘဒ္ဒရဟန်းဖြစ်သည့်နေရာ အထိမ်းအမှတ်ပြု တည်ထားသည့် စေတီငယ်များလည်းရှိ၏။ ကိုရီးယားလူမျိုး ဘုရားဖူးခရီးသည် ဟယေချို (Hye Ch'o) အေဒီ ၇၂၅ ခန့် ကုသိနာရုံသို့ ရောက်သွားသောအခါ ဤ(စေတီ)နေရာကို တစ်စိတ်တစ်ဒေသ ပြုပြင်ထားသည်။ ‘တစ်လကြာ သီတင်းသုံးခဲ့ပြီးနောက် ကျွန်ုပ်(ဟယေချို)သည် ကုသိနာရုံနယ်သို့ ရောက်သွားသည်။ ဤနေရာကား ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန် စံလွန်တော်မူသော နေရာဖြစ်၏။ ကုသိနာရုံသည် စိုပြည်စည်ကားခြင်းမရှိဘဲ လူသူမနေတော့သည့် နေရာဖြစ်သည်။ ဤစေတီကို ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်ပြုသောနေရာ၌ တည်ထားခြင်းဖြစ်၏။ ဤ(ပရိနိဗ္ဗာန်ပြုသည့်)နေရာကို သန့်ရှင်းစင်ကြယ်အောင် စောင့်ရှောက်နေသည့် ကမ္မဋ္ဌာန်းပြုဆရာတစ်ယောက်ရှိ၏။ နှစ်စဉ်နှစ်တိုင်း ရှစ်ခုမြောက်လ၏ ရှစ်ရက်မြောက်နေ့တွင် ရဟန်းယောကျ်ား၊ ရဟန်းမိန်းမ၊ သိက္ခမာန်(သာသနာပြု)များနှင့် လူဥပါသကာများသည် ဤနေရာကို ပူဇော်မှုပြုရန် စုဝေးကြသည်။ မိုးကောင်းကင်တွင် မြောက်မြားစွာသော တံခွန်ကုက္ကားများ လွင့်ပျံနေပြီး (ယင်းတို့ကို) လူအပေါင်း တွေ့မြင်ကြရသည်။ ထိုနေ့မှာပင်



ဆက်ကပ်လှူဒါန်းသည်။ ဆွမ်းဘုန်းပေးပြီးသောအခါ ‘ဘုရားရှင်သည် သွေးပါဝမ်းလျှောခြင်းနှင့် ခံစက်ပြီး သေလောက်သော နာကျင်မှုတို့ဖြင့် ပြင်းထန်သည့် ရောဂါဝေဒနာ ကပ်ရောက်လာသည်။ ထို့နောက် ဘုရားရှင်က အရှင်အာနန္ဒာအား စုန္ဒရွှေပန်းထိမ်သည်ထံ တစ်ဖန်သွားရောက်ပြီး ၎င်း(စုန္ဒ) နောင်တပူပန်ခြင်း မဖြစ်ရအောင် ဘုရားရှင်တစ်ဆူအား နောက်ဆုံးဆွမ်းကို လှူဒါန်းရခြင်းသည် အမွန်မြတ်ဆုံးသော အလှူဒါန ဖြစ်ကြောင်း ပြောပြရန် မိန့်မြွက်တော်မူသည်’ (ဒီ ၂၊ ၁၃၆)။

အားခွန်ဗလ ပြန်လည်ကောင်းမွန်လာပြီးနောက် ဗုဒ္ဓရှင်တော်မြတ်သည် ပုက္ကုသ(အမည်ရှိ) ဥပသကာကို တွေ့ဆုံရန် ခရီးအတန်ငယ် ဆက်ကြွတော်မူသည်။ ပုက္ကုသသည် ဗုဒ္ဓရှင်တော်မြတ်အား ရွှေချည်ထိုး သင်္ကန်းတစ်စုံ လှူဒါန်းသည်။ ထိုသင်္ကန်းကို အရှင်အာနန္ဒာက ဗုဒ္ဓရှင်တော်မြတ်၏ အသက်အရွယ်ရင့်ရော်လှပြီးဖြစ်သော နာမကျန်းဖြစ်နေသည့် ကိုယ်ခန္ဓာပေါ်၌ ဝတ်ရုံပေးတော်မူသောအခါ နှိုင်းယှဉ်မှုအရ ရွှေသင်္ကန်းရောင် မှေးမှိန်သွားလောက်သော ရောင်ခြည်တစ်မျိုး မြတ်ဗုဒ္ဓ၏ရူပကာယတော်၌ တောက်ပသွားသည် (ဒီ ၂၊ ၁၃၄)။ မြတ်စွာဘုရားနှင့် သံဃာ့ပရိသတ်သည် ဟိရညဝတီမြစ် (ယခုအခါ ဟိရကီနာရီအမည်ရှိချောင်းငယ်)ကို ဖြတ်လျက် ကုသိနာရုံသို့ ဆိုက်ရောက်ခဲ့ကြသည်။ မလ္လာမင်းတို့၏ မြို့တော်ဖြစ်သော်လည်း မြို့ငယ်တစ်မြို့မျှသာ ဖြစ်သည်။ ဤအကြိမ်သည် ဗုဒ္ဓရှင်တော်မြတ်အဖို့ ကုသိနာရုံသို့ ပထမဦးဆုံးအကြိမ် မဟုတ်ပေ။ ယခင်အကြိမ်များစွာ ရောက်ခဲ့စဉ်အတွင်း ကုသိနာရသုတ် (အံ ၁၊ ၂၇၄)၊ ကိန္တိသုတ် (မ ၂၊ ၂၃၈)တို့ကို ဟောကြားတော်မူပြီး ဖြစ်သည်။ သို့ဖြစ်၍ မလ္လာမင်းဥသျှောင်အဖွဲ့က မြတ်ဗုဒ္ဓကုသိနာရုံသို့ ကြွရောက်လာစဉ် မကြိုဆိုမိသူ မည်သူမဆို ဒဏ်တပ်ခံရမည်ဟူသော ကြေညာချက် ထုတ်ပြန်ထားသည်ထိ မြတ်ဗုဒ္ဓ၏ တပည့်ပရိသတ်မှာ စိတ်အား ထက်သန်နေကြပြီး (အရေအတွက်) များပြားလှသည် (ဝိ ၄၊၂၄၆)။

ယခုအခါ ဗုဒ္ဓရှင်တော်မြတ် ပြန်လည် ကြွရောက်တော်မူလာသဖြင့် မလ္လာမင်းတို့သည် ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန် စံလွန်တော့မည်ဟူသော သတင်းကို ကြားကြရခြင်း၌ ဗုဒ္ဓရှင်တော်မြတ်အား နောက်ဆုံးအကြိမ်ဖူးမြော်ရခြင်းဖြစ်မည်ဟု သိထားကြသောကြောင့် ဗုဒ္ဓလဲလျောင်းတော်မူနေသည့် အင်ကြင်းဉယျာဉ်သို့ စုပြုံရောက်ရှိလာကြသည်။ သုဘဒ္ဒပရိဗိုဇ်သည် ကုသိနာရုံနယ်တွင်ရှိပြီး ကျော်ကြားသူဖြစ်ကြောင်း များစွာ ကြားဖူးခဲ့သော်လည်း တစ်ကြိမ်တစ်ခါမျှ ကိုယ်တိုင် မတွေ့ဖူးသေးသည့် ဗုဒ္ဓဂေါတမသည် ယနေ့ည ပရိနိဗ္ဗာန်စံလွန်တော့မည်ဖြစ်ကြောင်း ကြားသိခဲ့သဖြင့် မေးခွန်းအချို့ မေးမြန်းရန် မျှော်လင့်လျက် အင်ကြင်းဉယျာဉ်သို့ သုတ်သီးသုတ်ပျာ ရောက်လာခဲ့သည်။ ဗုဒ္ဓအားတွေ့ဆုံရန် သုဘဒ္ဒကြိုးစားသောအခါ အရှင်အာနန္ဒာက ဗုဒ္ဓရှင်တော်မြတ် ပင်ပန်းနွမ်းနယ်လှကြောင်း ပြန်ကြားလျက် သုဘဒ္ဒအား ပြန်သွားဖို့သာ တွင်တွင်ဆိုသည်။ ဖြစ်ပျက်ပုံကို ဗုဒ္ဓသိသွားသောအခါ ကိုယ်တော်မြတ်မှာ အသက်ရှင်ရန် နာရီပိုင်းမျှသာ ကျန်တော့သော်လည်း သုဘဒ္ဒကို မိမိထံခေါ်ယူတော်မူပြီး တရားဓမ္မဟောကြားတော်မူသည် (ဒီ ၂၊ ၁၄၉)။ လအနည်းငယ်အလွန်က ဗုဒ္ဓရှင်တော်မြတ်က မိမိသည် ညောင်စောင်းဖြင့် သယ်ယူရသည်အထိ အိုမင်းရင့်ရော်ချိန်ပင် ဖြစ်နေသော်လည်း ဓမ္မကို ဟောကြားရန် စွမ်းရည်(ပညာ)ရှိကြောင်း မိန့်တော်မူခဲ့သည့် အတိုင်းပင် ကုသိနာရုံ၌ ပရိနိဗ္ဗာန်စံလွန်တော်မူခါနီး လဲလျောင်းတော်မူနေစဉ် မိမိ (မြွက်ဟပြီး) စကားတော်နှင့်အညီ အမှန်တကယ်ဆောင်ရွက်တော်မူခဲ့သည် (မ ၁၊ ၁၁၇)။ ၎င်းနောက် သုဘဒ္ဒသည် (မြတ်ဗုဒ္ဓ၏) လမ်းညွှန်ချက်ရရှိပြီး လိုက်လှဲစွာ ခံယူလျက် အပြင်းအထန် ကမ္မဋ္ဌာန်း ရှုမှတ်သဖြင့် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်သွားသည်။

ဘဝကုန်ဆုံးရန် နီးကပ်လာသောအခါ ဗုဒ္ဓရှင်တော်မြတ်သည် လက်တွေ့ကျင့်စဉ်များနှင့် ပတ်သက်၍ နောက်ဆုံး သင်ကြားတော်မူသည်။ ၎င်းနောက် မြတ်ဗုဒ္ဓက အနီးအနား၌ စုဝေးနေကြသော ရဟန်းတော်များအား ကိုယ်တော်မြတ်အနေဖြင့် လမ်းညွှန်ဟောကြားမှု မပြုနိုင်တော့သော်လည်း ဓမ္မကို ပွားများအားထုတ်နိုင်ကြကြောင်း မိန့်တော်မူသည် 'အာနန္ဒာ၊ သင်တို့သည် ငါဘုရား၏ သင်ကြားချက် ရပ်စဲသွားခဲ့ပြီ။ ယခုအခါ ငါတို့ဆရာမရှိတော့ချေဟု စဉ်းစားမိနိုင်၏။ သို့ရာတွင် ဤသို့မတွေးကြလင့်။ ငါဘုရား ပရိနိဗ္ဗာန်စံပြီးနောက် ငါးဘုရား ဟောကြား ပညတ်ထားပြီးဖြစ်သည့် ဓမ္မနှင့်ဝိနယကို သင်တို့၏ဆရာပြုကြလော့ (ဒီ ၂၊ ၁၂၆)'။ ၎င်းနောက် မြတ်ဗုဒ္ဓသည် နောက်ဆုံးဩဝါဒကို မြွက်ဟတော်မူသည် 'ရဟန်းတို့၊ သင်္ခါရတရားမှန်သမျှသည် ပျက်စီးခြင်း သဘောရှိ၏။ လုံ့လကြိုးကုတ်အားထုတ်ရစ်ကြလော့ဟု ငါဘုရားသည် သင်တို့ကို မိန့်ကြားပေ၏ (ဝယဓမ္မာ သင်္ခါရာ အပ္ပမာဒေန သမ္မာဒေထ)' (ဒီ ၂၊ ၁၂၇)။

အရဟတ္တမဂ်ဖိုလ်ကို မရရှိသေးသော ရဟန်းတော်များသည် 'ဗုဒ္ဓရှင်တော်မြတ် အလွန်လျင်မြန်စွာ ပရိနိဗ္ဗာန်စံလွန်တော်မူလေခြင်း။ အလွန်လျင်မြန်စွာ လောက၏အလင်း ရှင်ပင်ဗုဒ္ဓ ပရိနိဗ္ဗာန်စံလွန်မူလေခြင်း'ဟု ပြောဆို ငိုကြွေးကြသည်။ (အနာဂါမ် ရဟန္တာ) အရိယာ ပုဂ္ဂိုလ်များကမူ သတိသမ္ပဇဉ်ဖြင့် တည်ငြိမ်စွာ နေနိုင်ကြလျက် ပူဆွေးငိုကြွေးကြသူများအား ဟောပြောမှုအရရော စံနမူနာအားဖြင့်ပါ ဗုဒ္ဓဟောတော်မူသောတရားဓမ္မဖြင့် သတိပေးကြ၏ 'အရှင် ဘုရားတို့၊ အရှင်ဘုရားတို့၏ ငိုကြွေးပူဆွေးမှု သင့်လောက်ပါပြီ။ ပျော်ရွှင်နှစ်သက်ဖွယ်အရာအားလုံး ပြောင်းလဲခြင်းသဘော၊ ကွဲကွာပြီး တစ်မျိုးတစ်ဖုံ ဖြစ်ခြင်းသဘောရှိကြောင်း မြတ်ဗုဒ္ဓဟောကြားတော်မူထားသည် မဟုတ်ပါလော' (ဒီ ၂၊ ၁၂၉)။ ထို့နောက် ရဟန်းတော်များသည် ထိုည၏ ကြွင်းကျန်သော အချိန်ကို တရားဓမ္မဆွေးနွေးရင်း ကုန်လွန်ကြ၏။ နောက်ရက်အနည်းငယ်တွင် မလ္လာမင်းတို့သည် ဗုဒ္ဓရှင်တော်မြတ်၏ သရီရရုပ်ကလာပ်တော်ကို မီးသဂြိုဟ်ရန် အသေးစိတ် စီစဉ်ပြင်ဆင်မှုများ ပြုလုပ်ကြသည်။ ထို့နောက် ၇–ရက်မြောက်နေ့တွင် အလောင်းတော်ကို မြို့ထဲမှ

## မဟာပရိနိဗ္ဗာစေတီ

မဟာပရိနိဗ္ဗာနကျောင်း၏ နောက်တည့်တည့် (အရှေ့ဘက် ကပ်လျက်) တွင် အင်ကြင်းပင်ပျိုအစုံတို့အကြား ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံဝင်တော်မူခဲ့သောနေရာ၌ တည်ထားသော စေတီတော် တည်ရှိသည်။ အခြားစေတီတော် အများစုကဲ့သို့ပင် ဤစေတီတော်သည်လည်း စေတီတစ်ဆူ၏အတွင်း၌ အခြားစေတီတစ်ဆူ (ငုံ၍တည်ထားခြင်းအားဖြင့်) စေတီအများအပြားပါဝင်သည်။ လုံးဝမပျက်စီးသေးသော ရှေးအကျဆုံး စေတီတော်၏အတွင်း၌ မီးသွေးအပိုင်းအစများနှင့် (မီးလောင်ထား၍) မည်းနေသော မြေသားများတွေ့ရသည်။ (ယင်းမီးသွေးနှင့် မြေသားများမှာ ဗုဒ္ဓရှင်တော်မြတ်ကို) မီးပူဇော်သည့်နေရာမှဖြစ်သည်မှာ မြေကြီးလက်ခတ်မလွဲဖြစ်သည်။ အေဒီ၅ါးရာစုခန့်တွင် ပရိနိဗ္ဗာနဘုရားကျောင်း၌ ဆင်းတုတော်ကို လှူဒါန်းခဲ့သူ ဟရိဗလ အမည်ရှိရဟန်းတော်က ဤစေတီတော်ကို ပြုပြင်မွမ်းမံခဲ့သည်။

## မထကောရဘုရားကျောင်း

ရှေးဟောင်းသုတေသနဥယျာဉ်မှ ထွက်ခွာပြီး ကားလမ်းမတောင်ဘက်သို့ ဆက်လက်ဆင်းသွားသော် ဘုရားဖူးသည် ကားလမ်းကွေ့တွင် ခေတ်သစ်ဘုရားကျောင်းတစ်ခု တွေ့ရလိမ့်မည်။ ဤ ဘုရားကျောင်းကို ၁၉၂၇–ခုနှစ်က ဤနေရာ၌ တွေ့ရှိခဲ့သော ဗုဒ္ဓဆင်းတုတော်ကြီး ကိန်းဝပ်ရန် မြန်မာဘုရားဖူးများက တည်ဆောက်ခဲ့သည်။ ဤဆင်းတုတော်သည် ကားလ်လေးလီ တူးဖော်တွေ့ရှိစဉ်က နှစ်ပိုင်းကျိုးပြတ်နေပြီး မူလကကျောင်းတိုက်ကြီးတစ်ခု၏ ဘုရားခန်းအတွင်း ရှိခဲ့သည်။ ယင်းကျောင်းတိုက်၏ အုတ်မြစ်များကို ယခုတိုင်တွေ့မြင်နိုင်သေးသည်။ ဆင်းတုတော်သက်သက် ၃ ဒသမ ၀၅ မီတာမြင့်ပြီး ဘူမိဖဿမုဒြာဟန်ဖြစ်သည်။ ဆင်းတုတော်၏အောက်ခြေတွင် များစွာပျက်စီးနေပြီဖြစ်သည့် စာတန်းတစ်ခုပါရှိသည်။ ယင်းစာတန်းအရ ဤ(ဆင်းတု)ပန်းပုလက်ရာသည် အေဒီ ၁၀–ရာစု သို့မဟုတ် ၁၂–ရာစု လက်ရာဖြစ်သည်။



လူအများသည် တရားဓမ္မ (ရှုပွားရန်) အဓိဋ္ဌာန်ပြုကြသည်'။ ကိုရီးယားခရီးသည်က ဤနေရာ၌ သွားလာလှည့်လည်နေကြသော အဖော်မပါသည့် ခရီးသွားသည် တစ်ခါတစ်ရံ ကျား၊ ကြံ့တို့၏ တိုက်ခိုက်ခံရကြောင်းလည်း ဖော်ပြထားသည်။

ဟယေချိုရောက်ပြီးနောက် ကုသိနာရုံနှင့်ပတ်သက်ပြီး သမိုင်းအထောက်အထားရော စာပေအထောက်အထားပါ ငြိမ်ချက်သားကောင်းလှသည်။ သို့ဖြင့် မူဆလင်တို့ ကျူးကျော်မှုမတိုင်မီ ကတည်းကပင် ဗုဒ္ဓဝါဒ၏အချက်အခြာ နေရာအဖြစ်တည်ရှိခြင်းမှ ပြတ်တောက်သွားခဲ့ခြင်းဖြစ်နိုင်သည်။ ကုသိနာရုံ ဆုတ်ယုတ်ပြီးနောက် ယင်းကုသိနာရုံပတ်ဝန်းကျင်၌ ကြီးထွားခဲ့သောရွာကို ကုသိယာ (ကုဆိယာ)ဟုခေါ်တွင်လာလျက် (ယင်းကုသိယာအမည်သည်ပင်) ဤပတ်ဝန်းကျင်ရှိ အကြွင်းအကျန်အပျက်အစီးများ၏ ကြီးကျယ်ခမ်းနားမှုအတွက် တစ်ခုတည်းသော အရိပ်အမြွက် ဖြစ်တော့သည်။ ၁၈၅၄–ခုနှစ်တွင် အိပ်ချ်အိပ်ချ် ဝီလဆင် (H. H. Wilson)က ကုသိယာသည် ကုသိနာရုံ ဖြစ်ရမည်ဟု ကြောင်းကျိုး ဆီလျော်စွာပင် တိုက်တွန်းခဲ့သဖြင့် ယင်းတိုက်တွန်းချက်ကို အထူးစိတ်ဝင်စားသူ ကန်နင်ဟမ်သည် ၁၈၆၁–၆၂ တွင် ဤနေရာသို့ ရောက်လာခဲ့ပြီး ခိုင်လုံသည့် အထောက်အထား မရှိသေးသော်လည်း ဝီလဆင်၏အဆို မှန်သည်ဟု ယုံကြည်ရကြောင်း လိုက်၍ဆိုခဲ့သည်။ ၁၈၇၆–ခုနှစ်တွင် ကန်နင်ဟမ်၏ လက်ထောက် ကားလ်လေးလီ (Carlleyle)သည် ကုသိယာဝန်းကျင်တွင် နေရာအနှံ့ တူးဖော်မှုပြုလုပ်ခဲ့သည်။ ကားလ်လေးလီက လျောင်းတော်မူ (ပရိနိဗ္ဗာန)ဆင်းတုတော်ကြီးကို တွေ့ရှိခဲ့ခြင်းသည် ဤနေရာမှာ ကုသိနာရုံအမှန်ပင်ဖြစ်သည်ဟူသော ထင်မြင်ချက်ကို ထောက်ခံခဲ့သော်လည်း ယင်းကို သက်သေပြရန် ကျောက်စာအရေးအသား မရရှိသေးဘဲဖြစ်နေသည်။ ၁၉၀၄ နှင့် ၁၉၁၂ ခုနှစ်များအတွင်း တူးဖော်မှုများ၌ မဟာပရိနိဗ္ဗာနဝိဟာရနှင့် ပရိနိဗ္ဗာနစေတီတို့ကို ဖော်ပြထားသည့် တံဆိပ်များနှင့် ကြေးပြား (ပေါ်ရေးထားသည့်) အရေးအသားများ ထွက်ပေါ်လာချိန် ကျမှသာ ကုသိ

ယာသည် ကုသိနာရုံဖြစ်ကြောင်း ယတိပြတ် သက်သေပြနိုင်ခဲ့သည်။ ၁၉၀၀–နှစ်များတွင် မြန်မာရဟန်းတော် (ရခိုင်အမျိုးသား) ဦးစန္ဒြမုနိသည် ကုသိနာရုံသို့ ဘုရားဖူးကြွလာပြီး ကုသိနာရုံ၌ သီတင်းသုံးနေထိုင်ရန် ဆုံးဖြတ်ခဲ့သည်။ ဦးစန္ဒြမုနိသည် ဘုန်းကြီးကျောင်းငယ်တစ်ဆောင် ဆောက်လုပ်ခဲ့ပြီး နောက်ပိုင်းနှစ်များတွင် စတင်လာရောက်လာနေကြသည့် ဘုရားဖူးများအား စောင့်ရှောက်ခဲ့သည်။ ထိုအချိန်မှစ၍ အပျက်အစီးများအကြား ရွာကြီးတစ်ရွာဖြစ်ပေါ်လာပြီး ယနေ့ခေတ်တွင် ဘုရားဖူးသည် ကောင်းစွာထိန်းသိမ်းထားသည့် ဥယျာဉ်များတွင် လှည့်လည်နိုင်ပြီး ပရိနိဗ္ဗာနစေတီကို ရှိခိုးပူဇော်လျက် ဤနေရာ၌ ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်စံတော်မူခဲ့ပေ၏ဟု နှလုံးသွင်း အောက်မေ့နိုင်ပြီဖြစ်သည်။

## ကြည့်ရှုဖွယ်

### ပရိနိဗ္ဗာနဘုရားကျောင်း

အပျက်အစီးများပတ်ဝန်းနေသည့် ဥယျာဉ်အလယ်တွင် ၁၉၅၆–ခုနှစ်က အိန္ဒိယအစိုးရတည်ဆောက်ခဲ့သည့် ခေတ်သစ် ပရိနိဗ္ဗာနဘုရားကျောင်း ရှိသည်။ ရှေးဟောင်း တူးဖော်ချက်များအရ ဤနေရာရှိမူလဘုရားကျောင်းသည် ရှည်မျောမျော အခန်းကျယ်တစ်ခုပါဝင်ကြောင်း ဖော်ပြသည်။ အနောက်ဘက်ကို မျက်နှာမူလျက် ၎င်း(ဘုရားကျောင်း)၏ ဝင်ပေါက်နှင့် ဆက်နေသည့် အခန်းတစ်ခု ရှိသည်။ အမိုက်သရိုက်များအကြားတွေ့ရှိရသည့် ပန်းပုရုပ်ထွင်းမျက်နှာပြင်ပါရှိသော အုတ်ခဲအများအပြားက မူလဘုရားကျောင်းမှာ ခေတ်သစ်ဘုရားကျောင်းနှင့် မတူသော စည်ပုံအထွတ်ပါရှိကြောင်း ညွှန်ပြသည်။

ဤဘုရားကျောင်းအတွင်း ၆ ဒသမ ၁ မီတာရှည်သည့် လျောင်းတော်မူ ဗုဒ္ဓဆင်းတုတော်တစ်ဆူ ကိန်းဝပ်ပြီး နီကြင်ကြင် သဲကျောက်တစ်တုံးတည်းဖြင့် ထွင်းထုထားသည်။ မြတ်ဗုဒ္ဓသည် မြောက်သို့ ဦးခေါင်းပြုလျက် လက်ယာဘက်(နံတောင်း)ဖြင့် လဲလျောင်းနေသည်။ ညာဘက်လက်တော်ကို ဦးခေါင်းအောက်တွင် ထားပြီး ဘယ်ဘက်လက်



တော်ကို ပေါင်ပေါ်၌တင်ထားသည်။ ဆင်းတုတော်ကိန်းဝပ်နေသည့် အောက်ခံ (ပလ္လင်)ခုံ၏ အနောက်ဘက်ခြမ်းတွင် ကလိုင်ငယ်သုံးခုပါရှိလျက် ယင်းအထဲ၌ ရုပ်တုငယ်တစ်ခုစီရှိသည်။ ဘယ်ဘက်ရုပ်တုသည် ဆံပင်ရှည်နှင့် သောကရောက်နေပုံ ထင်ရှားသည့် အမျိုးသမီးပုံဖြစ်ပြီး မလ္လာမင်းတို့၏သောကကို တင်စားခြင်းဖြစ်ဖွယ်ရှိသည်။ အလယ်ရုပ်တုသည် ကြည့်ရှုသူဘက်သို့ ကျောပေးပြီး ကမ္မဋ္ဌာန်းထိုင်နေသည့် ရဟန်းတော်ပုံဖြစ်သည်။ ညာဘက်ရှိရုပ်ပုံမှာ ရဟန်းတော်တစ်ပါး၏ ပုံပင် ဖြစ်ပြီး ယခုအကြိမ်၌မူ ရဟန်းတော်သည် သောကဖိစီးသဖြင့် ညာလက်ပေါ်တွင် ဦးခေါင်းကို တင်ထားသည်။ ဤရုပ်တုနှစ်ခုမှာ ဗုဒ္ဓပရိနိဗ္ဗာန်စံတော်မူခြင်းကြောင့် ငိုကြွေးနေကြသူအပေါင်းအား တည်ငြိမ်ရန် (သောက မဖြစ်ကြရန်) သတိပေးနေသော ရဟန်းတော်များကို ကိုယ်စားပြုသည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ အလယ်ရုပ်တု၏ အောက်ဘက်လောက်တွင် တစ်စိတ်တစ်ဒေသ ပျက်စီးနေသည့် စာတန်းတစ်ခုတွေ့ရသည်။ ၎င်းစာတန်း၌ ဤသို့ဖတ်ရှုရသည် ‘မဟာဝိဟာရ(ကျောင်းတိုက်)မှ ရဟန်းတော်တစ်ပါးဖြစ်သည့် ဟရိဗလ၏ ကောင်းမှုဖြစ်သည်။ ဒိန ... (အမည်ရှိသူ)က (ဤဆင်းတုတော်ကို) သပ္ပာယ်အောင် ဆောင်ရွက်သည် ...’။

ဤဆင်းတုတော်သည် ဟူယင်ဆန် ကြွရောက်စဉ်က ဖူးတွေ့ရသည့် ဆင်းတုတော်ဖြစ်ပြီး စာတန်းပါ စာပေအက္ခရာဟန်ဖြင့် သတ်မှတ်ထားချက်အရ အေဒီ၅ါးရာစု လက်ရာများဖြစ်သည်။ ၁၈၉၆–ခုနှစ်က ကားလ်လေးလီသည် ပရိနိဗ္ဗာနဘုရားကျောင်းကို တူးဖော်သောအခါ ဤ(လျောင်းတော်မူ)ဆင်းတုတော်ကြီး လုံးဝကွဲပျက်နေပြီး ပြန်လည်ပြုပြင်ရန် ကြိုးစားခြင်းနှင့်ပတ်သက်သည့် အထောက်အထားများ တွေ့ရသည်။ ဤဆင်းတုတော်မှာ အိန္ဒိယမြောက်ပိုင်း၌ တွေ့ရသမျှသော ဗုဒ္ဓ၏ (ပရိ)နိဗ္ဗာနကိုယ်စားပြု (ဆင်းတုတော်) အနည်းငယ်အနက် တစ်ခုပါဝင်ကြောင်း စိတ်ဝင်စားဖွယ် မှတ်သားရသည်။

'ငါကား ဗုဒ္ဓဖြစ်ပေ၏' ဟု ဘုရားရှင်က ဖြေကြားသည်။

(သံ ၁၊ ၃၄၆)။

ပုဂ္ဂိုလ်နှစ်ဦးသည် ထိုင်၍စကားစမြည် ပြောဆိုကြသည်။ ပြောဆိုမှု ပြီးဆုံးသောအခါ ဒေါဏပုဏ္ဏားသည် အနာဂါမိဖိုလ်သို့ ဆိုက်ရောက်သွားသည်။ ပုဏ္ဏားသည် 'ဒေါဏဂဇ္ဇိတ)အမည်ရှိ ဗုဒ္ဓရှင်တော်မြတ်အား ဂုဏ်ပြုသည့်ဂါထာကို ဖွဲ့ဆိုခြင်းဖြင့်[၃၁] ချီးမွမ်းခြင်းခံရသော်လည်း ယခုအခါ ယင်းဂါထာများမှာ ပျောက်ဆုံးသွားပြီဖြစ်သည်။

ဒေါဏပုဏ္ဏားသည် ကုသိနာရုံ၌ စုရုံးလာကြသူ အားလုံး၏ ယုံကြည်မှုကို အထင်အရှားရရှိသောကြောင့် ၎င်းအနေဖြင့် မျှတသည်ဟု ယူဆသည့်အတိုင်း ဓာတ်တော်များကိုခွဲဝေရန် သဘောတူခဲ့ကြသည်။ ၎င်း၏ ဆောင်ရွက်မှုရလာဒ်အဖြစ် ဒေါဏပုဏ္ဏားအား ဓာတ်တော် ခြင်တွယ်သည့် ပြည်တောင်းကို ပေးကြသည်။ ဒေါဏသည် ယင်း ပြည်တောင်းကို ကျေးဇူးတင်စွာ လက်ခံပြီး မိမိအနေဖြင့် ထိုပြည်တောင်းကို ထည့်သွင်းဌာပနာ၍ စေတီရန် ကြေညာလိုက်သည်။ ဒေါဏ၏ခွဲဝေမှုကို လူတိုင်းနှစ်သက် ကျေနပ်ကြသည်။ ပိပ္ဖလိဝနအရပ်မှ မောရိယမင်းတို့၏ အမတ်တစ်ဖွဲ့ ရောက်လာပြီး ဝေစုတောင်းဆိုကြပြန်သဖြင့် ဒေါဏသည် အခင်းဖြစ်ပွားရာသို့ ရောက်လာ၍ နောက်ကျမှ ရောက်လာသူများအား မီးသင်္ဂြိုဟ်သည့်နေရာမှ မီးသွေးများကို ပေးဝေရန် တိုက်တွန်းသည်။ ယင်းသို့ စီမံဆောင်ရွက်ခဲ့သဖြင့် ပထမဦးဆုံးသော ဗုဒ္ဓဘာသာဆိုင်ရာ စေတီတော်ဆယ်ဆူကို တည်ထားကိုးကွယ်ခဲ့ကြသည်။

မဟာပရိနိဗ္ဗာနသုတ်တော်တွင် ဒေါဏပုဏ္ဏားအား စွမ်းရည်ပြည့်ဓာတ်တော်ခွဲဝေသူအဖြစ် တစ်စေ့တစ်စောင်း ဖော်ပြသည် 'ဗုဒ္ဓရှင်တော်မြတ်၏ တရားတော်အရ သည်းခံရမည်ဖြစ်သဖြင့် ဤထူးမြတ်သော

---

[၃၁] မြတ်ဗုဒ္ဓ၏ တရားဒေသနာအဆုံး၌ မဂ်ဖိုလ်သုံးဆင့်သို့ရောက်ပြီး ပဒပေါင်း တစ်သောင်းနှစ်ထောင် (နှစ်ဘာဏဝါရ) တို့ဖြင့် 'ဒေါဏဂဇ္ဇိတ' မည်သော ဗုဒ္ဓထောမနာ ဂါထာများကို ဖွဲ့ဆိုခဲ့သည် (အံ-ဋ္ဌ ၂၊ ၂၉၉)။



မူရင်းဘွဲ့အမည် မထကောရနှင့်ပတ်သက်၍ (အဓိပ္ပာယ် မဖော်နိုင်သေးဘဲ) တိမ်မြုပ်ဆဲဖြစ်ခြင်းမှာ စိတ်ဝင်စားဖွယ် ဖြစ်သည်။ ကန်နင်ဟမ်ကမူ 'သေသူမင်းသား' (မတ = သေသော၊ ကုမာရ = မင်းသား)နှင့် ပတ်သက်ဖွယ်ရှိသည်ဟု ကြံဆခဲ့သည်။

## တေဇောမီးလောင်ကျွမ်းရာစေတီ

လမ်းအောက်ဘက်သို့ တစ်ကီလိုမီတာခွဲလောက် နောက်ထပ်ဆက်သွားသော် ဘုရားဖူးသည် ဗုဒ္ဓ၏သရီရရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်သည့်နေရာကို အထိမ်းအမှတ် ပြုထားသည့် စေတီတော်ကို ဖူးတွေ့နိုင်သည်။ စေတီတော်၏ စည်ပုံသည် မူလကအချင်း ၃၄ ဒသမ ၁၄ မီတာရှိပြီး အချင်း ၄၇ ဒသမ ၂၄ မီတာရှိသည့် အောက်ခံပလ္လင် (ဖိနပ်)တော်ပေါ်၌ တည်ရှိသည်။

## သွားရောက်ရန်

ကုသိနာရုံသည် ဂေါရခပူရ၏ အရှေ့ဘက် ၅၅ ကီလိုမီတာ အကွာတွင်ရှိသည်။ ကားဖြင့် လွယ်ကူစွာ သွားရောက်နိုင်သည်။ အသေးစိတ်ဆိုရသော် ကုသိနာရုံမှ ၃၅ ကီလိုမီတာဝေးပြီး ဗာရာဏသီမှ ရထားဖြင့် ဆက်သွယ်ထားသည့် ဒေအိုရိယာ (မြို့)မှ တစ်ဆင့် သွားရောက်နိုင်သည်။

## ၁၉။ ဒေါဏမြို့

ရပ်နီးရပ်ဝေး ပုဂ္ဂိုလ်အားလုံးတို့ ဖူးမြင်နိုင်ပြီး သဒ္ဓါတရား တိုးပွားကြစေရန် အလို့ငှာ စေတီတော်များ တည် ထား ကိုးကွယ်ကြပါစို့ (ဒီ ၂၊ ၁၃၆)။

ဗုဒ္ဓရှင်တော်မြတ်၏ ဓာတ်တော်မွေတော်များကို ဌာပနာ၍ ပထမဆုံး တည်ထားခဲ့သည့် စေတီဆယ်ဆူအနက် တစ်ဆူမှာ ဓာတ်တော်များကိုထည့်ရန် ခြင်တွယ်ခဲ့သည့် ပြည်တောင်းဖြစ်ပြီး အခြားတစ်ဆူမှာ ဗုဒ္ဓရှင်တော်မြတ်၏ သရီရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရာ ထင်းမီးပုံမှ မီးသွေး(ကိုဌာပနာသည့်) စေတီဖြစ်သည်။ မဟာပရိနိဗ္ဗာနသုတ်တော်အရ ဤအခြေအနေအကြောင်းအရာကို ဤသို့တွေ့ရသည် 'မြတ်ဗုဒ္ဓပရိနိဗ္ဗာန် စံပြီဟူသော သတင်းစကား ပျံ့နှံ့ သွားသောအခါ နိုင်ငံများစွာမှ ကိုယ်စားလှယ်များနှင့် လူမျိုးစုများသည် ကြွင်းကျန်သည့် ဓာတ်တော်များကို တောင်းဆိုရန် ကုသိနာရုံသို့ ရောက်ရှိလာကြသည်။ သကျ (သာကီဝင်)မျိုးတို့ကလည်း ၎င်းတို့၏ကိုယ်စားလှယ် ပြောဆိုသည့်အတိုင်း "တထာဂတ (မြတ်ဗုဒ္ဓ)သည် ငါတို့အမျိုး၏ အထွတ်မြတ်ဆုံး ပုဂ္ဂိုလ်ဖြစ်သောကြောင့်" (ဓာတ်တော်ဝေစု)အချို့ ရလိုကြသည်။ အဇာတသတ္တုမင်းကြီး၏ အမတ်ကြီးကလည်း မင်းကြီးသည် "ဗုဒ္ဓရှင်တော်မြတ်ကဲ့သို့ပင် စစ်ဘုရင်မျိုး နွယ်ဖြစ်သောကြောင့်" ဓာတ်တော်ဝေစု ရသင့်ကြောင်းဆိုသည်။ ဤသည်မှာ မရိုးသား(မသင့်မြတ်)သော တင်ပြချက် ဖြစ်သော်လည်း အဇာတသတ္တုသည် ထိုအချိန်က အင်အားအကောင်းဆုံးနှင့် အထက်မြက်ဆုံး ဘုရင်ဧကရာဇ်ဖြစ်သဖြင့် ၎င်း၏တောင်းဆိုချက်မှာ အရေးကြီးသည်။ ကုသိနာရုံမြို့သား မလ္လာမင်းများကမူ တရားမျှတမှု၏ ဆယ်ပုံ ကိုးပုံမျှရှိသည့် ပိုင်ဆိုင်မှုရှုထောင့်မှ တောင်းဆိုခြင်းဖြင့် "ထတာဂတသည် ငါတို့မြို့၏ နယ်နိမိတ်အတွင်း ပရိနိဗ္ဗာန်စံခြင်းဖြစ်၍ ဓာတ်တော်များကို ငါတို့ စွန့်လွှတ်မည်မဟုတ်" ဟုဆိုသည် (ဒီ ၂၊ ၁၃၅)'။ အားလုံးသော ရှစ်ပြည်ထောင် မင်းတို့သည် အတော်မျှတပုံမရသည့် ဤအငြင်းပွားမှု၌ ပါဝင်ပတ်သက်ခဲ့ကြသည်။



ထိုအချိန်က (လူအများ) အလေးဂရု ပြုခံရသည့် ဒေါဏအမည်ရှိ ပုဏ္ဏားဆရာကြီးတစ်ယောက် ကုသိနာရုံတွင် နေထိုင်သည်နှင့် ကြိုကြိုက်ခဲ့သည်။ ဒေါဏဟူသောအမည်မှာ ဤပုဏ္ဏား၏အမည်ရင်း မဟုတ်နိုင်ဘဲ နောက်မှထင်ရှားလာသည့် အမည်နာမ ဖြစ်ဖွယ်ရှိသည်။ ဒေါဏဟူသော ပါဠိစကားမှာ ခြင်တွယ်သည့်ခွက် သို့မဟုတ် ပြည်တောင်းဟု အဓိပ္ပာယ်ရသည်။

ဒေါဏပုဏ္ဏားသည် ယခင်နှစ်များအလွန်က ဗုဒ္ဓဘုရားရှင်အား တွေ့ဆုံခဲ့ရသည်။ ဥက္ကဋ္ဌနှင့် သေတဗျမြို့အကြားရှိ လမ်းတွင်ခရီးသွားစဉ် သဲခင်းလမ်း၌ ခြေရာများကိုတွေ့ရပြီး ယင်းခြေရာများ၌ မင်္ဂလာအမှတ်အသားများကို သတိပြုမိသဖြင့် ခြေရာနောက်သို့လိုက်ရန် ဆုံးဖြတ်ခဲ့သည်။ မကြာမီ သစ်ပင်တစ်ပင်အောက်၌ ထိုင်နေတော်မူသော ဗုဒ္ဓထံသို့ ရောက်ရှိသွားသည်။ '(ဒေါဏသည် ဗုဒ္ဓရှင်တော်မြတ်အား ကြည်ညိုနှစ်သက်သွားပြီး ယုံကြည်သဒ္ဓါတရား တိုးပွားလာလျက် ငြိမ်သက်သောစိတ်အာရုံ တည်ကြည်သောစိတ်ထားဖြင့် အလုံးစုံ ယဉ်ကျေးအောင် ဆုံးမထားပြီးသော ဆင်ပြောင်ကဲ့သို့ လုံးဝ အေးချမ်းသွားသည်'။ အံ့သြခြင်းပြည့်လျှံနေသော နှလုံးသားဖြင့် ဒေါဏပုဏ္ဏားက -

'အသင်က နတ်ဒေဝါပေလော'ဟု မေးလျှောက်သည်။

'ငါ နတ်ဒေဝါ မဟုတ်ဘူး ပုဏ္ဏား' ဟု ဗုဒ္ဓရှင်က ဖြေကြားသည်။

'ဂန္ဓဗ္ဗနတ်ပေလော'

'မဟုတ်ပါဘူး'

'ယက္ခ (နတ်ဘီလူး)လော'

'မဟုတ်ပါဘူး'

'လူသားပေလော'

'ငါ လူသားလည်း မဟုတ်ပါဘူး'

'ဒါဖြင့် အသင်က ဘာလဲ'ဟု ဒေါဏသည် ဝေခွဲမရဖြစ်ပြီး အသံကျယ်စွာ ဆိုမေးမိသည်။

### လှူဒါန်းခြင်း

အချို့သော ဗုဒ္ဓဘာသာဆိုင်ရာဌာနများကို ‘အိန္ဒိယရှေးဟောင်းသုတေသနလေ့လာရေးဌာန’က ချုပ်ကိုင်ထားသော်လည်း တစ်ခါတစ်ရံ အပျက်အစီးများအကြားရှိ စေတီနှင့်ဘုရားကျောင်းများ၌ အလှူခံသေတ္တာများ ထားရှိသည်။ ဥပမာ ကုသိနာရုံတွင် ဖြစ်သည်။ ယင်းသို့သော နေရာများ၌ လှူဒါန်းခြင်းမှာ ပုံမှန်အားဖြင့် အကျိုးမရှိ အလဟဿ ဖြစ်သည်။ တစ်ခါတစ်ရံတွင် အိန္ဒိယရှေးဟောင်းသုတေသနအမှုထမ်းများက (၎င်းတို့ကို)မခေါ်ဘဲ လမ်းညွှန်အဖြစ်ဆောင်ရွက်ရန် ကြိုးစား လေ့ရှိကြသည်။ ၎င်းနောက် ပိုက်ဆံရရန် မျှော်လင့် သို့မဟုတ် ပြောင်ပြောင်တင်းတင်း အခကြေးငွေ တောင်းကြသည်။ ၎င်းတို့အား ပိုက်ဆံစွန့်ကြဲခြင်းသည် လာဘ်စားမှုကို အားပေးခြင်းသာဖြစ်ပြီး နောက်လာမည့်ဘုရားဖူးများအား အတောင်းခံရအောင် ဖန်တီးရာရောက်သည်။ လှူဒါန်းမှုပြုလိုပါလျှင် ဗုဒ္ဓဝင်နေရာတော်တိုင်း၌ ဆက်သွယ်ပတ်သက်နေသည့် သက်ဝင်လှုပ်ရှားဆဲ ဗုဒ္ဓဘာသာဘုန်းကြီးကျောင်းများ၌ ယင်းသို့ (လှူဒါန်းမှု)ပြုသင့်ပါသည်။

### ခရီးစဉ်

ဤစာအုပ်တွင်ဖော်ပြထားသည့် ဗုဒ္ဓဝင်နေရာတော်များသည် ကျယ်ပြောလှသည့် နယ်မြေအတွင်း ကျဲပြန့်နေသော်လည်း အိန္ဒိယ၏ကျယ်ပြောလှသည့် ရထားလမ်းကွန်ရက်က ယင်းနေရာများကို တစ်ခုနှင့်တစ်ခု အလွယ်တကူ ရောက်အောင် ဆောင်ရွက်ပေးပါသည်။ ဗုဒ္ဓဝင်နေရာတော်အသီးသီး၏ ပင်မမြို့ သို့မဟုတ် မြို့တော်အားလုံးသို့ ရထားဖြင့် သွားရောက်နိုင်သည်။ ယင်းနောက် ကား၊ တက္ကစီ သို့မဟုတ် အချို့ နေရာများတွင် လန်ချားများဖြင့် မိမိသွားလိုရာသို့ ဆက်လက်သွားရောက်နိုင်သည်။ နေရာတိုင်းသို့ သွားရောက်လိုသော ဘုရားဖူးများအတွက် အသင့်လျော်ဆုံးသော ခရီးစဉ်မှာ အောက်ပါအတိုင်းဖြစ်သည် -

၁။ ဒေလီမှ မဓုရာသို့ ကားဖြင့်၊



ပုဂ္ဂိုလ်၏ ဓာတ်တော်များကို ခွဲဝေခြင်းမှ ခိုက်ရန်ဖြစ်ပွားမှု ဖြစ်ပေါ်ခဲ့ပါက မသင့်မြတ်ချေ။ ငါတို့အားလုံး ညီညွတ်မှုနှင့် ငြိမ်းချမ်းမှုတွင် ပါဝင် လက်တွဲကြပါစို့’ (ဒီ ၂။ ၁၃၆)။ ‘ဗုဒ္ဓစရိတကဗျာ’တွင် အဿဃောသ (အမည်ရှိ မဟာယာနပညာရှင် ရဟန်း)က ငြိမ်းချမ်းမှု၊ တည်ငြိမ်မှုနှင့် ထင်ရှားသည့် အာရုံခံစားမှုတို့အတွက် စိတ်လှုပ်ရှားဖွယ် ကဗျာရှည်တစ်ပုဒ်ကို ဒေါဏပုဏ္ဏား၏ နှုတ်ထဲသို့ထည့်၍ ဤဖြစ်ရပ်အကြောင်း ဖော်ပြထားသည်။ နှောင်းခေတ်စာပေမှတ်တမ်းများ၌မူ ဒေါဏအား ဓာတ်တော်အချို့ကို ကိုယ်ပိုင်ရယူရန် ဆုံးဖြတ်ခဲ့သည့် လှည့်ပတ်မှုအချို့ ရှိခဲ့သူအဖြစ် ဖော်ပြကြသည်။ သုမင်္ဂလဝိလာသိနီ (ဒီဃနိကာယ် အဋ္ဌကထာ) အလိုအရ ဒေါဏသည် ဓာတ်တော်များကို မျှဝေနေစဉ် တစ်ဦးတစ်ယောက်မျှ စောင့်ကြည့်ခြင်း မရှိသည်တိုင် (အလစ်ကို) စောင့်နေပြီး ဗုဒ္ဓရှင်တော်မြတ်၏ လက်ယာ စွယ်တော်မြတ်ကို မိမိ၏ ခေါင်းပေါင်းစ အတွင်း သို့ဝှက်ထားခဲ့သည် (ဒီ–ဋ္ဌ ၂။ ၂၀၀)။ အခြား ဒဏ္ဍာရီတစ်ခု အရမူ ဒေါဏသည် ဓာတ်တော်ခြင်သည့် ပြည်တောင်း အတွင်းပိုင်းကို ပျားရည် သုတ်လိမ်းထားသဖြင့် (ပြည်တောင်း၌)ကပ်နေသည့် ဓာတ်တော်များကို တိတ်တဆိတ် သို့ဝှက်သိမ်းဆည်းထားသည်ဟုဆိုသည်။

## ကြည့်ရှုဖွယ်

### ဒေါဏစေတီ

ဒေါဏပုဏ္ဏား၏ ဓာတ်တော်ခြင်သည့် ပြည်တောင်းကို ဌာပနာခဲ့သော စေတီသည် ရှေးခေတ်ဘုရားဖူးများ၏ အဓိက ပန်းတိုင်တစ်ခုဖြစ်ခဲ့သည်။ အေဒီ ၂–ရာစုက ရေးသားခဲ့သည့် ဒီပဝံသကျမ်းနှင့် အခြား များစွာသော ကျမ်းဂန်များ၌ ယင်းဒေါဏစေတီအကြောင်းကို ဖော်ပြကြသည်။ ဟူယင်ဆန်သည် ဒေါဏစေတီကို ဖူးမြော်ခဲ့ရပြီး (ထိုစဉ်က) စေတီ တော်မြတ်မှာ ပျက်စီးယိုယွင်းနေပြီဖြစ်သော်လည်း တစ်ခါတစ်ရံ ရောင်ခြည်များ ကွန့်မြူးဆဲဖြစ်သည်။ ဤစေတီတော်ကို အသောကမင်း

တရားကြီးက ပြုပြင်မွမ်းမံခဲ့ကြောင်းလည်း ဟူယင်ဆန်အား (ဒေသခံတို့က) ပြောပြကြသည်။ ယနေ့ခေတ်၌ ဒေါဏစေတီသည် ဒေါဏရွာငယ်၏ ထောင့်စွန်း တစ်နေရာတွင်တည်ရှိသော မမြင့်လှသည့် မြက်ထူတောင်ကုန်းငယ်တစ်ခုဖြစ်ပြီး ယင်းတောင်ကုန်းထိပ်၌ ဟိန္ဒူဘုရားကျောင်းတစ်ကျောင်းရှိသည်။

လက်ရှိတွေ့မြင်ရသလောက်တွင် စေတီတော်၏ အလယ်ဗဟိုမှာ အတော်အတန်မြင့်သော်လည်း ကျိုးကြေသွားပြီးဖြစ်လျက် ယင်းမှ အုတ်များကို ဟိန္ဒူဘုရားကျောင်းဆောက်လုပ်ရာ၌ အသုံးပြုခဲ့သည်။ စေတီတော်အနီးတွင် အေဒီ ၉–ရာစုလက်ရာ အနက်ရောင် ကျောက်သားဖြင့် သိမ်မွေ့စွာ ထွင်းထုထားသည့် တာရာရုပ်တုရှသည်။

## သွားရောက်ရန်

ဒေါဏရွာသို့ သွားရောက်ရန် အနီးဆုံးဖြစ်သည့်အဝိကမြို့မှာ ကုသိနာရုံ၏ အရှေ့တောင်ဘက် ၉၅–ကီလိုမီတာခန့်အကွာ ပတ္တနားမှ မြစ်တစ်ဘက်ကမ်းတည့်တည့်ရှိ ဟဂျီပူရမြို့အနောက်မြောက်ဘက် ယင်း (၉၅–ကီလိုမီတာ)မျှအကွာရှိ သိဝန (Siwan)မြို့ဖြစ်သည်။ လမ်းနှစ်ခုလုံး အခြေအနေအလွန်ဆိုးသည်။ သိဝနမှ အနောက်ဘက်သို့ ဆက်သွားပြီး မေအိရဝါ (Mairawa)မြို့ မရောက်မီခန့်တွင် တောင်ဘက်ရှိ ဒါရောလီ (Darauli)မြို့သို့သွားသည့် လမ်းဘက်သို့ ချိုးကွေ့ပါ။ လမ်းခွဲမှ ရှစ်ကီလိုမီတာအကွာတွင် ဒေါဏရွာရှိသည်။

# ဘုရားဖူးများသတိပြုဖွယ်

## သဘောထား

အိန္ဒိယသည် ခရီးသွားလာရန် အမြဲတမ်းလွယ်ကူသည့် နိုင်ငံမဟုတ်ချေ။ လမ်းများဆိုးသဖြင့် ကြန့်ကြာမှုများမှာ ကြုံနေကျဖြစ်ပြီး အရာရှိများမှာ ရိုင်းပျလျက် မကူညီဘဲရှိနိုင်သည်။ ထို့ပြင် အချို့သွားရောက် လည်ပတ်သူများမှာ အိန္ဒိယ၏ အပြုအမူများကို လက်ခံရန် ငြင်းဆိုခြင်း၊ အိန္ဒိယအားမိမိတို့နိုင်ငံနှင့် အရာရာနှိုင်းယှဉ်ခြင်းတို့ဖြင့် ကြုံတွေ့ရသည့် အခက်အခဲများကို ပေါင်းစပ်ပစ်လိုက်ကြသည်။ ယင်းသဘောထားသည် အမျက်ထွက်စိတ်ဆိုးစေသော စိတ်ထားများနှင့် စိတ်မချမ်းသာခြင်းတို့ကိုသာဖြစ်ပေါ်စေသည်။ (ထိုသဘောထားများကို) လက်ခံနိုင်ခြင်း၊ သည်းခံ(တတ်)ခြင်းနှင့် ဟာဒယရှင်လန်းလိုမှုတို့သည် ဘုရားဖူး၏ ခရီးစဉ်ကို ပိုမို ပျော်ရွှင်စေပါလိမ့်မည်။

## ခရီးသွားအချက်အလက်

ဤစာအုပ်တွင် ဗီဇာ၊ နေရာထိုင်ခင်းနှင့် ငွေကြေးစရိတ်စက စသည်တို့ အကြောင်းကို ဖော်ပြထားခြင်းမရှိပေ။ ဤသတင်းအချက်အလက်မျိုးကို နောက်ဆုံးပေါ် ခရီးသွားလမ်းညွှန်စာအုပ်မှ ရယူခြင်းသည်သာ အကောင်းဆုံးဖြစ်သည်။ ယင်းတို့အနက် အကောင်းဆုံးမှာ 'အထီးကျန်ဂြိုဟ် ပုံနှိပ်ထုတ်ဝေရေး'မှ ဖြန့်ချိသည့် 'အိန္ဒိယ ခရီးသွားအနှစ်ချုပ်' (India-A Traval Survival Kit) အမည်ရှိစာစောင် ဖြစ်သည်။ အိန္ဒိယအစိုးရ ကမ္ဘာလှည့်ခရီးသွားလာရေးဌာနတွင် ရနိုင်သည့် (လမ်းညွှန်) စာအုပ်ငယ်များနှင့် မြေပုံများသည်လည်း အသုံးဝင်သည်။ သို့သော် သတင်းအချက်အလက်များမှာ တစ်ခါတစ်ရံ ဂရုမပြုလောက် သို့မဟုတ် မသေချာချေ။ အိန္ဒိယအစိုးရဆိုင်ရာ စာရွက်စာတမ်းများ (မြေပုံများ၊ လမ်း အမှတ်အသားများ၊ ကမ္ဘာလှည့်ခရီးများဌာနမှ လက်ကမ်းစာစောင်များ)သည်ပင် တစ်နေရာနှင့်တစ်နေရာ အကွာအဝေးကို မတူမညီ ဖော်ပြတတ်သည်။ သို့ဖြစ်၍ ဤစာအုပ်၌ ဖော်ပြထားသော အကွာအဝေးများကို ခန့်မှန်းခြေများ အဖြစ်သာတျှင် မှတ်ယူသင့်သည်။

သားအာလပ်ရက်များနှင့် နိုင်ငံတော် အားလပ်ရက်များ၌ ပိတ်သည်။ အချို့မှာ တစ်နေ့ပိတ်ပြီးအချို့မှာ အခြားနေ့၌ ပိတ်လျက် အချို့မူ နှစ်ရက်လုံးဖွင့်ပြီး နောက်နေ့ (ကျမှ) စသည်ဖြင့် ပိတ်သည်။ ရောက်ရှိရာဒေသတိုင်း၌ ပြတိုက်များကို ပိတ်ထားသည်နှင့်သာ ကြုံတွေ့ရသဖြင့် ခရီးစဉ်ကို အလွန်အနှောင့်အယှက် ဖြစ်စေသည်။ ဤစာအုပ်၌ မှန်ကန်တိကျသော အသေးစိတ် အချက်အလက်များရရှိရန် ကြိုးပမ်းကြည့်သည့်အခါ နေရာတိုင်းတွင် ဖြစ်နိုင်သမျှ ရှေးဦးစွာ ကြိုတင်စုံစမ်းပြီး ပြည်သူ့အားလပ်ရက်များကို သိမှတ်ထားခြင်းသည်သာ အကောင်းဆုံးဖြစ်ကြောင်း တွေ့ရသည်။

နံနက် ၉–နာရီ ၂၇–မိနစ်၊ ဇန်နဝါရီလ ၁–ရက်၊ ၂၀၀၁–တွင် မြန်မာပြန်ဆိုပြီးစီးသည်။

အရှင်ကေလာသ



၂။ မဓုရာမှ အလာဟာဘတ်သို့ ရထားဖြင့်၊ (တစ်ဖန်)ဘတ်စ် သို့မဟုတ် တက္ကစီဖြင့် ကောသမ္ဗီသို့ ဆက်သွားရန်၊

၃။ အလာဟာဘတ်မှ ဗာရာဏသီသို့ ရထားဖြင့်၊ ဘတ်စ် သို့မဟုတ် လန်ချားဖြင့် မိဂဒါဝုန်သို့ ဆက်ရန်၊

၄။ ဗာရာဏသီမှ ဂယာသို့ရထားဖြင့်၊ ဗုဒ္ဓဂယာသို့ ဘတ်စ် သို့မဟုတ် လန်ချားဖြင့် ဆက်သွားရန်၊

၅။ ဂယာမှ ရာဇဂြိုဟ်သို့ ဘတ်စ် သို့မဟုတ် တက္ကစီဖြင့်၊

၆။ ရာဇဂြိုဟ်မှ ပတ္တနားသို့ ဘတ်စ်ကားဖြင့်၊

၇။ ပတ္တနားမှ ဝေသာလီနှင့် လောရိယနန္ဒာနဂရမြို့များသို့ ဘတ်စ် သို့မဟုတ် တက္ကစီဖြင့်၊ ၎င်းနောက် ပတ္တနားသို့ ပြန်လာ၊ အခြားတစ်နည်းမှာ ပတ္တနားသို့ ပြန်လာမည့်အစား ဝေါပါလဂဉ္စနှင့် ကုသိနာရုံမှ တစ်ဆင့် ဝေါရခပူရသို့ တိုက်ရိုက်ဆက်သွားပါ။ ဤ(ခရီးစဉ်)ကို တက္ကစီဖြင့်သွားမှသာ ဖြစ်နိုင်သည်။

၈။ (ပတ္တနားမှ မြစ်တစ်ဘက်ကမ်းရှိ) သောဏပူရမှ ဝေါရခပူရသို့ ရထားဖြင့်၊ ၎င်းနောက် ကုသိနာရုံသို့ ဘတ်စ သို့မဟုတ် တက္ကစီဖြင့် ဆက်ရန်။

၉။ ဝေါရခပူရမှ နောင်ဂါးသို့ ရထားဖြင့်၊ ကိလဝတ္ထုသို့ တက္ကစီဖြင့် ဆက်သွား၊ နောင်ဂါးမှ လုမ္ဗိနီသို့လည်း တက္ကစီငှား၍ ရနိုင်သည်။

၁၀။ နောင်ဂါးမှ ဗာလရမ်ပူသို့ ရထားဖြင့်၊ သာဝတ္ထိသို့ ဘတ်စ်ဖြင့် ဆက်ရန်။

၁၁။ ဗာလရမ်ပူမှ ဒေလီသို့ လပ်ခနောင်းမှတစ်ဆင့် ရထားဖြင့်သွားရန်။

**အစီအစဉ်**

ကျွန်ုပ်တို့နှင့်ပတ်သက်သည့် ဗုဒ္ဓဝင်နေရာတော်အများစုမှာ မသိရသေးသောအရာများဖြစ်သဖြင့် အချို့နေရာများတွင် ခေတ္တခဏတည်းခိုနေခြင်းဖြင့်သာလျှင် အကောင်းဆုံးသော ကျေနပ်မှုကို ရရှိနိုင်ပါသည်။

တစ်နေရာမှတစ်နေရာသို့ ပြေးလွှားလျက် ကမ္ဘာလှည့်ခရီးသည်များ စိတ်ဝင်စားသည့် အိန္ဒိယရှိနေရာများစွာသို့ သွားရောက်ခြင်းမှာ အထိမ်းအမှတ်နေရာများကို တွေ့ရမည်ဖြစ်သော်လည်း ပတ်ဝန်းကျင်သဘာဝအခြေအနေကို လက်လွှတ်ဆုံးရှုံးသွားမည့် အဓိပ္ပာယ်မျိုးဖြစ်သည်။ ဖြစ်နိုင်လျှင် ဘုရားဖူးသည် အနည်းဆုံး မိဂဒါဝုန်၊ ရာဇဂြိုဟ်နှင့် သာဝတ္ထိတို့၌ နှစ်ည၊ ဗုဒ္ဓဂယာ၌ သုံးည အချိန်ယူသင့်သည်။ ယင်း (သို့နားနေခြင်း)ဖြင့် ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်ရန်၊ (ဘုရားဂုဏ်တော်) ပွားများရန်၊ ဗုဒ္ဓဝင်နေရာတော်များကို ဖြည်းဖြည်းအေးအေး ဖူးမြော်ရန်နှင့် အိန္ဒိယ၌ ခရီးသွားလာခြင်းကြောင့် ဖြစ်မြဲတိုင်းသော ပင်ပန်းနွမ်းနယ်ခြင်းမှ အနားယူရန် အချိန်ရပေလိမ့်မည်။

## ပြတိုက်များ

ဘုရားဖူးအများစုသည် အိန္ဒိယသို့ နယူးဒေလီ၊ ကာလကတ္တား၊ သို့မဟုတ် ဘုံဘေမြို့များမှ ဝင်ရောက် သို့မဟုတ် ထွက်ခွာကြလိမ့်မည်။ ထိုမြို့ကြီးများအသီးသီးတွင် ဗုဒ္ဓဘာသာဝင်များအား အလွန်စိတ်ဝင်စားစေသည့် ပြတိုက်များရှိသည်။ နယူးဒေလီရှိ အမျိုးသားပြတိုက် (National Museum)သည် အိန္ဒိယတွင် အကောင်းဆုံးဖြစ်ပြီး ကမ္ဘာပေါ်ရှိ အကောင်းဆုံး ပြတိုက်များအနက် တစ်ခုအပါအဝင်ဖြစ်သည်။ ဤပြတိုက်တွင် ခေတ်ပေါင်းစုံမှ ဗုဒ္ဓဘာသာဆိုင်ရာ ပန်းချီများ၊ ရုပ်ပွားဆင်းတုများ၊ ပိုးသားပန်းချီကားများနှင့် ဆာအော်ရဲလ်စတိုင်း (Sir Aurel Stine) အာရှအလယ်ပိုင်းတစ်ခွင် စူးစမ်းလေ့လာစဉ် တွေ့ရှိခဲ့သည့် စာအုပ်များကို စုဆောင်းပြသထားသည်။ ပြတိုက်ရှိ မကြာသေးမီက သိမ်းဆည်းထားသည့်ပစ္စည်းမှာ ၁၉၈၉–ခုနှစ်တွင်မှ ဆန်ဃောလစေတီမှ (ရရှိသည့်) လှုပစ္စာထွင်းထုထားသော ကျောက်လက်ရန်းဖြစ်သည်။ အိန္ဒိယအမျိုးသားပြတိုက်သည် ဇနပထ (Janpaṭ)လမ်းပေါ်တွင် တည်ရှိလျက် နံနက် ၁၀–နာရီမှ ညနေ ၅–နာရီထိဖွင့်ပြီး တနင်္လာနေ့တွင် ပိတ်သည်။ ကာလကတ္တားရှိ အိန္ဒိယပြတိုက်သည် အိန္ဒိယတိုက်



ငယ်အတွင်း ရှေးအကျဆုံးဖြစ်သည်။ ယင်းသည် သိမ်းဆည်းပြသရန်အခြေအနေလိုအပ်သေးသော်လည်း အကောင်းဆုံးအဖြစ်တည်ရှိဆဲဖြစ်သည်။ ဗုဒ္ဓဘာသာဆိုင်ရာ စုဆောင်းပြသခန်းတွင် ကျောက်လက်ရန်းများ၊ ပြခန်းတစ်ခုတည်းတွင် အစုလိုက်ပြသထားသည့် ဘာရဟုတစေတီမှ အဝင်ဂိတ်မုခ်ဦးနှင့် ကုသန၊ ဂန္ဓာရ၊ ဂုတ္တနှင့် ပလ္လဝခေတ်များမှ ပန်းပုလက်ရာများပါဝင်သည်။ အိန္ဒိယပြတိုက်သည် ဂျာဝါဟာလာနေရူးလမ်းတွင်ရှိပြီး နံနက် ၁၀–နာရီမှ ညနေ ၄–နာရီအထိဖွင့်လျက် တနင်္လာနေ့တွင် ပိတ်သည်။ ဘုံဘေရှိ ဝေလမင်းသားပြတိုက်သည် မဇ္ဈိမဒေသ သို့မဟုတ် မဟာရဋ္ဌ(ပြည်နယ်)များမှ ဗုဒ္ဓဘာသာဆိုင်ရာ ပန်းပုလက်ရာများမရှိချေ။ သို့သော် ဤပြတိုက်၌ အသောမင်းကြီး၏ ဆောပါရ (Sopara) ကျောက်စာပြန်တမ်းနှင့် ကျယ်ပြန့်များပြားလှသည့် တိဗက်အနုပညာများရှိသည်။ ဝေလမင်းသားပြတိုက်သည် ဝေလင်တန်(ျနှူငါ်အသည)အဝိုင်းတွင်ရှိပြီး နံနက် ၁၀–နာရီမှ ညနေ ၆–နာရီအတွင်း ဖွင့်လှစ်သည်။

ဤစာအုပ်၌ပါဝင်သည့် (ဗုဒ္ဓဝင်နယ်မြေ) ဧရိယာအတွင်းပါဝင်နေသော်လည်း ဖော်မပြရသေးသည့် အခြားပြတိုက်တစ်ခုမှာ လပ်ခနောင်းမြို့ရှိ ပြည်နယ်ပြတိုက် (State Museum)ဖြစ်သည်။ ဤပြတိုက်တွင် ကုသနနှင့် ဂန္ဓာရခေတ် ပန်းပုလက်ရာ အမြောက်အမြားနှင့် မပြည့်စုံသော အသောကကျောက်စာတိုင်၏ ထိပ်ပိုင်း၊ ရှေးခေတ် ဗုဒ္ဓဘာသာရဟန်းတော်တစ်ပါး၏ ဆွမ်းခံသပိတ်တို့ကို စုဆောင်းပြသထားသည်။ ပြည်နယ်ပြတိုက်သည် တိရစ္ဆာန်ဥယျာဉ်မြေအတွင်းရှိ ဗာရာဏသီ ဘာဂဟ လမ်းတွင်ရှိပြီး နံနက် ၁၀–နာရီခွဲမှ ညနေ ၄–နာရီခွဲအထိ ဖွင့်လျက် တနင်္လာနေ့တွင် ပိတ်သည်။

အိန္ဒိယရှိပြတိုက်များမှာ ဖွင့်ပိတ်ချိန် အထူးထူးအထွေထွေ များပြားစုံလင်လှသည်။ ထို့အတူ မည်သည့်နေ့တွင် ပြတိုက်များပိတ်သည်ဟူသော အချက်နှင့်ပတ်သက်၍လည်း တူညီမှုမရှိချေ။ အချို့ကို အမျိုး

## မှတ်သားဖွယ်အက္ခရာစဉ်